၄၆၈၉

ပြည်ထောင်စု မြန်မာနိုင်ငံ ဗုဒ္ဓသာသနာအဖွဲ့

# တိပိဋက
# ပါဠိ-မြန်မာအဘိဓာန်

အတွဲ-၁

အ — အနိဋ္ဌက

အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးဉာဏုတ္တရ
နှင့်
သက္ယသီဟ နှင့် အဓိရာဇမဟာဓရိယ အရှင်သီလာနန္ဒာဘိဝံသ-တို့
ဦးစီး ရေးသား တည်းဖြတ်သည်



ပြည်ထောင်စု မြန်မာနိုင်ငံ ဗုဒ္ဓသာသနာအဖွဲ့ပုံနှိပ်တိုက်၌ ရိုက်နှိပ်၍
ပြည်ထောင်စု မြန်မာနိုင်ငံ ဗုဒ္ဓသာသနာအဖွဲ့ အုပ်ချုပ်ရေးအရာရှိချုပ် ဦးသိမ်းမောင်က ထုတ်ဝေသည်

သာသနာတော်နှစ် ၂၅၀၇ ဂေါဇာနှစ် ၁၃၂၅ ခရစ်နှစ် ၁၉၆၄

# နိဒါန်း

## ၁

### ပါဠိဘာသာ

လောက၌ ကိုးကွယ်ရာ သာသနာ အမျိုးမျိုး ပေါ်ထွန်းခဲ့ကြသည်နှင့်အမျှ ထို ဆိုင်ရာ သာသနာတရား သို့မဟုတ် ထိုသာသနာကို တည်ထောင်သူ သာသနာ့ အမှန် အစ ဖြစ်သော ပုဂ္ဂိုလ်၏ ဟောညွှန်ဆုံးမ သွန်သင်ချက်အဝဝတို့ကို မှတ်တမ်းတင်ရာဖြစ်သော ဘာသာစကားများ လည်း ရှိခဲ့လေသည်၊ ဗြာဟ္မဏ(ဟိန္ဒူ)သာသနာဝင်တို့အဖို့ သက္ကတဘာသာသည် ထူးမြတ်သော ဘာသာ, ၎င်းတို့ သာသနာဆိုင်ရာ မိန့်ဆိုသင်ကြားချက်များကို မှတ်တမ်းတင်ရာ ဘာသာ ဖြစ် သကဲ့သို့ ပါဠိဘာသာသည်လည်း ထေရဝါဒဗုဒ္ဓဘာသာဝင်တို့အဖို့ အထူးမြတ်ဆုံးသော ဘာသာ, ဗုဒ္ဓရှင်တော်၏ ဟောကြားချက် တရားတော်တို့ကို မှတ်တမ်းတင်ရာ ဘာသာ ဖြစ်ပေသည်၊ ဘုရား ရှင်၏ တရားတော်များသာ မဟုတ်ပဲ ထိုတရားတော်များကို နောက်သားနောင်လာတို့ အလွယ် တကူ သိမြင်နားလည်နိုင်ကြစေရန် ရည်သန်၍ ဖွင့်ဆိုခဲ့ကြသော အဋ္ဌကထာ, ဋီကာ စသော အဖွင့်ကျမ်းတို့တွင်လည်း ထိုထိုကျမ်းဆရာ မဟာထေရ်မြတ်တို့သည် ပါဠိဘာသာကိုသာ ပဓာန-ဘာသာ အဖြစ်ဖြင့် သုံးစွဲတော်မူခဲ့ကြလေသည်။

ယင်းသို့ မြတ်စွာဘုရား၏ တရားတော်နှင့် ၎င်းဆိုင်ရာအဖွင့်ကျမ်းများစွာတို့ ပါဠိဘာသာဖြင့် ရှိနေကြသည်ဖြစ်၍ ထေရဝါဒဗုဒ္ဓသာသနာကို ပြည့်ဝမှန်ကန်စွာ နားလည်နိုင်ရေး၌ ပါဠိဘာသာကို တတ်မြောက်ကျွမ်းကျင်မှုသည် မည်မျှအရေးကြီးသည်ကို သိနိုင်ပေသည်။

ထိုသို့ အရေးတကြီး တတ်မြောက်ရန် လိုအပ်သော ထေရဝါဒ ဗုဒ္ဓသာသနာ၏ သာသနာ စောင့်ဖြစ်သည့် ပါဠိဘာသာဟူသည် မည်သည့်ဘာသာဖြစ်သည်ကို သိရှိရန် လိုအပ်ပေသည်။

ရှေးဦးစွာ ပါဠိတော်တို့တွင် ဤပါဠိဘာသာကို မည်သို့သောအမည်ဖြင့် ဟောတော်မူအပ် သည်ကို ရှာဖွေလေ့လာသောအခါ ပါရာဇိကဏ်ပါဠိတော် ပဌမပါရာဇိက ပဒဘာဇနီ၌ "အရိယ-ဘာသာဖြင့် မိလက္ခု၏ အထံ၌ သိက္ခာချရာတွင် ၎င်းမိလက္ခုပုဂ္ဂိုလ် နားမလည်လျှင် သိက္ခာမကျ[1]" ဟု ဟောတော်မူသည်ကို တွေ့ရသည်၊ ၎င်းပါဠိတော်၌ အရိယဘာသာ ဟူသည် အခြားမဟုတ်, အရိယာပုဂ္ဂိုလ်တို့ သုံးစွဲရိုးဖြစ်သော မာဂဓဘာသာပင်ဖြစ်ကြောင်း အဋ္ဌကထာ ဆရာက ဖွင့်ပြထား ပေသည်[2]၊ သို့ဖြစ်၍ ပါဠိတော်တို့၌ ယခုအခါ ပါဠိဘာသာဟု ပုဂ္ဂိုလ်အများ နားလည်နေသော ဘာသာကိုပင် အရိယက=အရိယဘာသာ ဟု ခေါ်ဝေါ် သုံးစွဲကြောင်း မှတ်သားအပ်ပေသည်။

---

၁။ အရိယကေန မိလက္ခဿ သန္တိကေ သိက္ခံ ပစ္စက္ခာတိ၊ သော စ န ပဋိဝိဇာနာတိ၊ အပစ္စက္ခာတာ ဟောတိ သိက္ခာ။ (ဝိ၊ ၁။၃၃)

၂။ အရိယကံ နာမ အရိယဝေါဟာရော မာဂဓဘာသာ။ (ဝိဋ္ဌ၊ ၁၊ ၂၂၀)

အဘိဓာန် က—န-ဗု-သ

ပဋိသမ္ဘိဒါဝိဘင်းပါဠိတော်နှင့် သမ္မောဟဝိနောဒနီအဋ္ဌကထာ၊ မူလဋီကာတို့၌ မူကား **ဓမ္မနိရုတ္တိ** ဟူ၍၎င်း၊ **သဘာဝနိရုတ္တိ** ဟူ၍၎င်း ခေါ်ဝေါ်သုံးစွဲသည်ကို တွေ့နိုင်ပေသည်[၁]။

အဋ္ဌကထာ၊ ဋီကာကျမ်းတို့၌ကား ပါဠိဘာသာကို **မာဂဓဘာသာ** ဟူ၍၎င်း၊ **တန္တိဘာသာ** ဟူ၍၎င်း၊ **မူလဘာသာ** ဟူ၍၎င်း၊ **ပကတိဘာသာ** ဟူ၍၎င်း ခေါ်ဝေါ်သုံးစွဲသည်ကို တွေ့ရှိရပြန်ပေသည်။ ထိုတွင် မာဂဓဘာသာဟု သုံးစွဲသောနေရာ အတော်များများတွေ့ရ၍ အခြား အမည်များကိုကား အနည်းအကျဉ်းသာ တွေ့ရသည်။ ၎င်းတို့တွင် တန္တိဘာသာဟူသော အမည်ကို ဓမ္မပဒအဋ္ဌကထာတွင်၎င်း၊ မူလဘာသာဟူသော အမည်ကို ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာတွင်၎င်း၊ ပကတိဘာသာဟူသောအမည်ကို ဝဇိရဗုဒ္ဓိဋီကာတွင်၎င်း တွေ့ရှိရလေသည်[၂]၊ သို့ဖြစ်လေရာ တွေ့ရှိချက်အားလုံးကို ပေါင်းလိုက်လျှင် "ပါဠိဘာသာကို အရိယဘာသာ၊ ဓမ္မနိရုတ္တိ၊ သဘာဝနိရုတ္တိ၊ မာဂဓဘာသာ၊ တန္တိဘာသာ၊ မူလဘာသာ၊ ပကတိဘာသာ ဟူသော အမည်တို့ဖြင့်သာ ပါဠိ၊ အဋ္ဌကထာ၊ ဋီကာတို့၌ သုံးနှုန်းသည်ကို တွေ့ရ၍ ပါဠိဘာသာဟူသော အမည်ဖြင့် သုံးနှုန်းသည်ကို မတွေ့ရ" ဟူသော အချက်မှာ ပေါ်လွင်လျက် ရှိပေသည်[၃]။

အဋ္ဌကထာ၊ ဋီကာ တို့တွင် "ပါဠိ" ဟူသော အသုံးအနှုန်းကို အတော်များများတွေ့ရ၏၊ သို့သော် ၎င်း "ပါဠိ" ဟူသော အသုံးမှာ ပါဠိဘာသာကို ဆိုလိုသည် မဟုတ်ပဲ ပါဠိတော် ဟု ခေါ်သော ဗုဒ္ဓသာသနာဆိုင်ရာ စာပေအားလုံး၏ အမည်သာ ဖြစ်ပေသည်။

တနည်းအားဖြင့် ဆိုရသော် "ပဏ္ဏာသံ ဥက္ကဋ္ဌာနံ သီလာဒိအတ္ထာနံ ဗောဓနတော, သဘာဝ-နိရုတ္တိဝသေန ဗုဒ္ဓါဒီဟိ ဘာသိတတ္တာ စ ပဏ္ဏာသံ ဝစနပ္ပဗန္ဓာနံ အာဠိတိ ပါဠိ၊ ပရိယတ္တိ-ဓမ္မော" ဟူသော (မဏိ၊ ၂။၁၈၈။ အံဋီ၊ ၂။၂၄၇) စကားနှင့်အညီ ပရိယတ္တိဓမ္မဟု ခေါ်ဆိုရသော ဘုရားဟောနှင့် သာဝကစသည်ဟောဖြစ်သော တရားများကိုပင် ပါဠိဟု ခေါ်လေသည်။

---

၁။ တတြ ဓမ္မနိရုတ္တာဘိလာပေ ဉာဏ(အဘိ၊ ဝိ။ ၃၀၇)န္တိ တသ္မိံ အတ္ထေ စ ဓမ္မေ စ ယာ သဘာဝနိရုတ္တိ၊ တဿ အဘိလာပေ တံ သဘာဝနိရုတ္တိံ သဒ္ဒံ အာရမ္မဏံ ကတွာ ပစ္စဝေက္ခန္တဿ တသ္မိံ သဘာဝနိရုတ္တာဘိ-လာပေ ပဘေဒဂတံ ဉာဏံ နိရုတ္တိပဋိသမ္ဘိဒါ။ (အဘိဋ္ဌ၊ ၂။ ၃၇၀-၁)။ သဘာဝနိရုတ္တီတိ မာဂဓဘာသာ အဓိပ္ပေတာ။ (မူလဋီ၊ ၂။၁၉၂)

၂။ .......အာရောပယိတွာန တန္တိဘာသံ မနောရမံ။ (ဓမ္မ၊ ဋ္ဌ၊ ၁။ ၂) ဇာ တဿာ ဓမ္မနိရုတ္တိသညိတာယ သဘာဝနိရုတ္တိယာ မာဂဓိကာယ သဗ္ဗသတ္တာနံ မူလဘာသာယ ပဘေဒဂတံ ဉာဏံ နိရုတ္တိပဋိသမ္ဘိဒါ။ (ပဋိသံ၊ ဋ္ဌ၊ ၁။ ၅)မဟာဝံသ၊ ၃၇။ ၂၄၄-ဂါထာ၌လည်း ပါဠိဘာသာကို "မူလဘာသာ" ဟု သုံးနှုန်းထားသည်ကို တွေ့ရသည်။ အဋ္ဌကထာနိဿိတောတိ အဋ္ဌကထာနိဿိတဝသေန ဌိတော။ ဗုဒ္ဓေ ပကတိဘာသာယ ဝုတ္တံ အဋ္ဌကထံ သန္ဓာယ။ (ဝဇိရ၊ ၂၉၁)။ သာရတ္ထ၊ ၃။ ၆-၌လည်း ကြည့်။

၃။ မောဂ္ဂလ္လာန်သဒ္ဒါကျမ်းကို ပြုစုသည့် အရှင်မောဂ္ဂလ္လာန် မထေရ်သည်ပင် မိမိ၏ သဒ္ဒါကျမ်းကို ပါဠိ-သဒ္ဒါကျမ်းဟု မခေါ်ပဲ မာဂဓသဒ္ဒလက္ခဏ=မာဂဓသဒ္ဒါကျမ်းဟူသော အမည်တင်ခဲ့လေသည်။ သီလက္ခန်ဋီကာ ဟောင်း(၁၆)၊ မူလပဏ္ဏာသဋီကာ(၁။၁၇)တို့၌ "တန္တိနယာနုစ္ဆဝိက"၏ အဖွင့်တွင် "ပါဠိဂတိယာ အနုလောမိကံ၊ ပါဠိဘာသာယာနုဝိဓာယိနိန္တိ အတ္ထော" ဟု တွေ့ရ၏။ သို့သော်လည်း သီလက္ခန်ဋီကာဟောင်း ရှေးမိုက်မူများနှင့် တကွ သံယုတ်ဋီကာ (၁။၁၇)၊ အင်္ဂုတ္တိုရ်ဋီကာ (၁။၁၉)တို့၌ "ပါဠိဂတိယာနုဝိဓာယိနိန္တိ အတ္ထော" ဟူသော ပါဌ်တွေ့ရသည်၊ ယင်းပါဌ်သာ ပေါ်ရောအကပါဌ် ဖြစ်ပေမည်၊ အကြောင်းကား သီလက္ခန်ဋီကာသစ် (၁။၃၀)၌ "တဿာ(တန္တိယာ) နယသင်္ခါတာယ ဂတိယာ အဝိ" ဆာယံ အနုဂတာတိ တန္တိနယာနုစ္ဆဝိကာ" ဟု ဖွင့်ထားသည်ကို ထောက်သော် "ပါဠိဂတိယာ"၌ ဆာယာ-သည် အနုစ္ဆဝိက-၌ ဆဝိ-၏ အဖွင့်ဖြစ်သောကြောင့်တည်း။

ယင်းသို့ ရှေးကျသော ကျမ်းစာများ၌ သုံးစွဲခဲ့သည်ကို မတွေ့ရ၍ "ပါဠိဘာသာ" ဟူသော အမည်သည် အလွန် နောက်ကျသော ခေတ်သို့ရောက်မှ ပေါ်ပေါက်လာသော အမည်ဖြစ်ကြောင်း ထင်ရှားနေပေသည်။

ဤတွင် "ပါဠိ" ဟူသော ပုဒ်၏အနက်ကို စိစစ်ဖွယ် ရှိပြန်လေသည်၊ "ပါဠိ" ဟူသော စကားလုံး၏ အနက်ကို ရှာကြံကြရာ၌ ပညာရှိအများပင် သူတမျိုး ငါတဖုံ ကြံဆ ပြောဆိုလျက် ရှိကြသည်ကို တွေ့ရပေသည်။ အချို့သော ပညာရှင်တို့က ပါဠိဘာသာသည် ပါဋလိပုတ်ပြည်သုံး ဘာသာဖြစ်သည်၊ သို့ဖြစ်၍ ယင်းကို ပါဋလိဘာသာဟု ခေါ်ရာမှ တဖြည်းဖြည်း ရွေ့လျော၍ ပါလိ (ပါဠိ)[၁] ဘာသာ ဖြစ်လာသည်ဟု ကြံဆကြ၏၊ အချို့ကလည်း "ပါဠိ" ဟူသော ပုဒ်သည် ဘုရားရှင်၏ စကားတော် အစဉ်အတန်းဟု အဓိပ္ပါယ်ရသော "ပင်္တိ" ဟူသော ပုဒ်မှ ဖြစ်လာသည်၊ ပင်္တိမှ တဖြည်းဖြည်း ရွေ့လျော၍[၂] ပါဠိ-ဖြစ်လာသည်ဟု ကြံကြပြန်သည်၊ အချို့ ပဏ္ဍိတ်တို့ကမူ ဘုရားရှင် ဟောအပ်သော သုတ္တန်ဟု အဓိပ္ပါယ်ရသော "ဓမ္မပရိယာယ" ဟူသော ပုဒ်နှင့် အသောကမင်းကြီး၏ ကျောက်စာတို့၌ ပါသော "ဓမ္မပလိယာယ" ဟူသော ပုဒ်တို့ကို[၃] အထောက်အထားပြု၍ ပရိယာယမှ ပလိယာယ, ၎င်းမှ ပါလိယာယ ဖြစ်လာပြီး အတိုကောက် လူ့သဘာဝ အတိုင်း နောက်အက္ခရာ နှစ်လုံးကို ဖြုတ်၍ ပါလိ(ပါဠိ)ဟု ခေါ်ဝေါ်ကြောင်း ကြံဆကြလေသည်၊ ပုဒ်တို့ကို ခေတ်ပစ္စည်းဖြင့် ပြီးစေခြင်းအတတ်၌ ပါရဂူဟု ဆိုထိုက်သော ဏွာဒိ-မောဂ္ဂလ္လာန်ဆရာကမူကား "အတ္ထံ ပါတိ ရက္ခတီတိ ပါဠိ၊ တန္တိ[၄]" ဟု ပါဠိကို ပါ-ဓာတ်, ဠိ-ပစ္စည်းဖြင့် ပြီးစေလျက် အနက်ကို စောင့်ရှောက်တတ်သောကြောင့် ပါဠိ မည်သည်ဟု မိန့်ဆိုလေသည်။

ယင်းသို့ အနည်းနည်း အဖုံဖုံ ကွဲပြားလျက်ရှိကြရာ စိစစ်လေ့ရှိသော သာသနိကပုဂ္ဂိုလ် ပညာရှင်အားလုံးတို့ သဘောတူမျှနိုင်မည့် အနက်မှာကား အထက်၌ ပြခဲ့သော မူလပဏ္ဏာသ-ဋီကာ, အင်္ဂုတ္တိုရ်ဋီကာလာ ဝိဂြိုဟ်နှင့်အညီ "မြင့်မြတ်သော စကားတော်တို့၏ အစဉ်" ဟူသော အနက်ပင် ဖြစ်ပေမည်။ ဤ အယူအဆသည် ဒုတိယပြခဲ့သည့် အယူအဆနှင့် တူသယောင်ရှိသော်လည်း ထိုအယူ၌ ပင်္တိမှ ပါဠိ ဖြစ်လာသည်ဟု ကြံ၍ ဤနောက်ဆုံးဝါဒ၌ "ပါဠိ" ဟူသော သဒ္ဒါသည်ပင် "အစဉ်" ဟူသော အနက်ကို ဟောသည်ဟု ယူလိုပေသည်။ မှန်ပေသည်၊ ပါဠိကာရက ရဟန်း[၅] ဟူသော စကား၌ကဲ့သို့ "ပါဠိ" ဟူသော စကားလုံးသည် ယင်းကိုယ်အတိုင်းပင် "အစဉ်" ဟူသော အနက်ကို ဟောစွမ်းနိုင်ပေသည်။

ထိုသို့ "ပါဠိ" ဟူသော စကားလုံးသည် ပြောဆိုသောဘာသာကို မဟောပဲ ဘုရား၏ စကားတော် ဟူသော အနက်ကိုသာ ဟောခဲ့သော် ပါဠိဘာသာ ဟူသော အသုံးအနှုန်း မည်သို့ ပေါ်ပေါက်လာသနည်းဟု မေးမြန်းဖွယ် ရှိပြန်သည်၊ အဖြေကား—ပါဠိဟု ခေါ်သော ဘုရားစကားတော်တို့ကို မှတ်တမ်းတင်ရာဖြစ်၍ ယင်းတို့ကို ထိန်းသိမ်းစောင့်ရှောက်ထားသော မာဂဓဘာသာကိုပင် "ပါဠိ၏(ဝါ-ပါဠိနှင့်စပ်သော) ဘာသာ=ပါဠိဘာသာ" ဟု ခေါ်ရပေသည်၊ အဋ္ဌကထာ,

---

၁။ နိုင်ငံခြားစာအုပ်တို့၌ ပါလိ-ဟူ၍လည်း ရေးကြသည်ကို တွေ့ရသည်။

၂။ ပင်္တိ=ပံတ္တိ=ပံတိ=ပဏိ=ပံဠိ=ပံလိ=ပလ္လိ=ပါလိ။ တနည်း—ပင်္တိ=ပတ္တိ=ပဋိ=ပလ္လိ=ပါလိ။ ဤသို့ ပြောင်းရွေ့ပုံကို ရှည်ဝေးစွာ ပြကြသည်။

၃။ ဒီ၁၊၄၃၊မ၁၊၁၆၁-စသည်နှင့် အသောကကျောက်စာ, ဗြဲာကျောက်ဆောင်စာငယ်။

၄။ ၂၂၈-သုတ်။

၅။ ဝိ၄၊၄၊၅၅ ဂိဟိပါဠိပ္တ-အဖွင့်ကြည့်။ သဒ္ဒနီတိဓာတုမာလာ, ပါလ-ဓာတ် အဖွင့်လည်းကြည့်။

ဋီကာတို့၌ တွေ့ရသော ဘာသာကိုလည်း တွင်ပြီး အခေါ်အဝေါ်သို့ လိုက်၍ ပါဠိဘာသာဟုပင် ခေါ်ဆိုအပ်လေသည်။

### မာဂဓဘာသာ

ပါဠိဘာသာ ဟူသည် အခြားမဟုတ် မာဂဓဘာသာပင် ဖြစ်ကြောင်းကို အဋ္ဌကထာ, ဋီကာများအရ ရှင်းပြခဲ့ပြီ၊ ယခုအခါ ထိုမာဂဓဘာသာဟူသည် မည်သို့သော ဘာသာ ဖြစ်သည်ကို ဆက်လက်၍ လေ့လာရပေဦးမည်။

မာဂဓဘာသာဟူသည် (ယင်းအမည်ကပင် ညွှန်ပြထားပြီးဖြစ်၍) မဂဓတိုင်းသားတို့ ပြောဆိုသုံးစွဲသော ဘာသာဖြစ်ကြောင်း ထင်ရှားပေပြီ၊ ဤဘာသာဖြင့် မှတ်တမ်းတင်ထားသည့်အရာမှာ ဗုဒ္ဓမြတ်စွာ၏ တရားတော်များဖြစ်ရကား ယင်း မာဂဓဘာသာဟူသည်မှာလည်း ဗုဒ္ဓမြတ်စွာ ပေါ်ထွန်းချိန်ခေတ်နှင့် ထိုခေတ်၏ အနီးဖြစ်သည့် ရှေ့နောက်ခေတ်တို့၌ မဂဓတိုင်းသူ တိုင်းသားတို့ ပြောဆိုသုံးစွဲကြသောဘာသာ ဖြစ်သည်ဟုလည်း ထပ်ဆင့် မှတ်သားရာ၏[၁]။

ဘုရားရှင်ကိုယ်တော်မြတ်သည်လည်း မာဂဓဘာသာဖြင့်ပင် တရားတော်များကို ဟောကြားတော်မူခဲ့သည်ဟု မှတ်ယူအပ်ပေသည်။ အဘယ်ကြောင့်ဆိုသော် ဘုရားရှင် သစ္စာလေးပါး တရားကို ထိုးထွင်း၍ သိမြင်ရာအရပ်သည် မဂဓဒေသ=မဂဓတိုင်း ဖြစ်၏၊ ဘုရားရှင် ဒေသစာရီ ကြွချီ၍ သတ္တဝါအပေါင်းတို့အား တရားအမြိုက်ဆေး တိုက်ကျွေးရာ အရပ်သည်လည်း ယေဘုယျအားဖြင့် မဂဓတိုင်းနှင့် ကောသလတိုင်းတို့ ဖြစ်၏၊ ထိုအခါကလည်း မဂဓတိုင်းရှင် ဘုရင်တို့ တန်ခိုးအာဏာ ကြီးမားချိန်ဖြစ်၍ မာဂဓဘာသာကို ရင်းအရပ်တို့တွင် လူတိုင်းပင် နားလည်မည် ဖြစ်ရကား ဘုရားရှင်သည် ယင်း လူတိုင်းနားလည်နိုင်မည့် မာဂဓဘာသာဖြင့် ဟောကြားတော်မူမည်ဖြစ်လေသည်။ ထို့ကြောင့်လည်း သမ္မောဟဝိနောဒနီအဋ္ဌကထာ ပဋိသမ္ဘိဒါဝိဘင်းအဖွင့်၌ “မြတ်စွာဘုရားသည်လည်း ပိဋကတ်သုံးပုံဟူသော ဘုရားစကားတော်ကို ပါဠိတော်အစဉ်သို့ တင်တော်မူသောအခါ မာဂဓဘာသာဖြင့်သာလျှင် တင်တော်မူသည်[၂]” ဟု မိန့်ဆိုလျက်ရှိလေသည်။

ယင်း မာဂဓဘာသာကား သဘာဝနိရုတ္တိဖြစ်မှုဟူသော ဂုဏ်ထူးဝိသေသနှင့် ပြည့်စုံသဖြင့် ဘာသာတကာတို့ထက် ထူးခြားသော ဘာသာဖြစ်၏။ သဘာဝနိရုတ္တိဟူသည်မှာ မိမိဆိုလိုသော အနက်အဓိပ္ပါယ်ကို ဖောက်ပြန်ပြောင်းလွဲခြင်းမရှိပဲ တိတိကျကျ ဖော်ပြနိုင်စွမ်းသည်ဖြစ်၍ ဘုရားရှင်စသော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်တို့ သုံးစွဲအပ်သောဘာသာဟု ဆိုလိုသည်[၃]။ တနည်းအားဖြင့် ဆိုရ

---

၁။ ဤမာဂဓဘာသာ၏ အစပြုရာဌာနနှင့်ပတ်သက်၍ အနောက်တိုင်းပညာရှင်တို့၏ အယူအဆအမျိုးမျိုးကို ပါမောက္ခဂိုက်ဂါ၏ Pāli Literature and Language, စာမျက်နှာ ၃-၄ တို့တွင်၎င်း, Encyclopædia Britannica, အတွဲ ၁၇, စာမျက်နှာ ၁၄၆- တွင်၎င်း တွေ့ရှိနိုင်သည်။

၂။ “သမ္မာသမ္ဗုဒ္ဓောပိ တေပိဋကံ ဗုဒ္ဓဝစနံ တန္တိံ အာရောပေန္တော မာဂဓဘာသာယ ဧဝ အာရောပေသိ။ (အဘိဋ္ဌ၊ ၂။၃၃၁)” ဟူသော ရင်းအဋ္ဌကထာကို ထောက်၍ တန္တိအနာရောပိတပကိဏ္ဏကဓမ္မဒေသနာကို ဟောတော်မူသောကာလ၌ အများနားလည်စေခြင်းငှါ “ဒေသိယမာဂဓီဘာသာ” ဖြင့်လည်း ဟောတော်မူသည်ဟု ယူဆဖွယ်ရှိ၏၊ ဒေသိယမာဂဓီဘာသာဟူသည် ထိုကာလ မဂဓတိုင်း၌ ပြောဆိုသုံးစွဲသော တိုင်းရင်းဘာသာစကားတည်း။ (မောဂ်နိဿယနိဒါန်း-ဇ)

၃။ ဓမ္မနိရုတ္တာဘိလာပေတိ ဧတ္ထ ဓမ္မသဒ္ဒေါ သဘာဝဝါစကောတိ ကတွာ အာဟ “ယာ သဘာဝနိရုတ္တီ”တိ၊ အဝိပရီတနိရုတ္တီတိ အတ္ထော။ (မူလဋီ၊ ၂။၁၉၁)။ အဝိပရီတနိရုတ္တီတိ ဗုဒ္ဓါဒီဟိ အာစိဏ္ဏာ တဿ တဿ အတ္ထဿ ဝါစကဘာဝေန နိရုဠှာ ယာထာဝနိရုတ္တိ။ (အနုဋီ၊ ၂။၁၉၂)

-လျှင် ဖောက်လွဲဖောက်ပြန် ထိမ်းယိမ်းပျက်စီးခြင်း မရှိ ပကတိအတိုင်း တည်သော ဘာသာဟု ဆိုလိုပေသည်။

အခြားသောဘာသာတို့သည် ကာလတပါးသို့ရောက်လျှင် ကေန် ပြောင်းလဲပျက်စီးကြ၏၊ မာဂဓဘာသာကား နေရာအချို့၌ဖြစ်စေ၊ တခါတရံ၌ဖြစ်စေ ပြောဆိုသူတို့ အလွဲလွဲ အမှားမှား ရွတ်ဆိုသင်ယူခြင်းစသောအကြောင်းကြောင့် ဖောက်ပြန် ပြောင်းလဲ ပျက်စီးရာသော်လည်း နေရာ အားလုံး၌ဖြစ်စေ၊ အခါခပ်သိမ်းဖြစ်စေ ပြောင်းလဲခြင်း မရှိပေ[၁]။ အကြောင်းကား "ငရဲဘုံ၊ တိရစ္ဆာန်ဘုံ၊ ပြိတ္တာဘုံ၊ လူ့ပြည်[၂] နတ်ပြည်၊ ဗြဟ္မာ့ပြည်တို့၌ မာဂဓဘာသာကိုသာ အပြော များ၏"ဟု သမ္မောဟဝိနောဒနီ၌[၃] မိန့်ဆိုချက်အရ ကမ္ဘာပျက်သောအခါမှာပင် ကမ္ဘာပျက်ရာ တွင် မပါဝင်သော ဗြဟ္မာ့ပြည်၌ သဘာဝအားဖြင့် တည်ရှိနိုင်သောကြောင့်တည်း။

ကမ္ဘာပျက်ရာတွင် မပါဝင်သော ဗြဟ္မာ့ပြည်၌ သဘာဝအတိုင်း မဖောက်မပြန်တည်ရှိခဲ့သော ကြောင့်လည်း မာဂဓဘာသာသည် ကမ္ဘာဦးလူသားတို့၏ ဘာသာလည်း ဖြစ်ခဲ့ပေသည်။ ထင် ရှားစေဦးအံ့—ကမ္ဘာဦးလူသားတို့မှာ ဗြဟ္မာ့ပြည်မှ စုတေ၍ လူ့ပြည်သို့ ဥပပါတ် ပဋိသန္ဓေအား ဖြင့် ရောက်လာကြသူများဖြစ်ကြ၏။ ၎င်းတို့သည် ဗြဟ္မာ့ပြည်၌ရှိစဉ်က ဗြဟ္မာ့ပြည်တွင် အများသုံး မာဂဓဘာသာကို ပြောဆိုခဲ့ကြသူများ ဖြစ်၍ လူ့ပြည်၌ လူသားအဖြစ်ဖြင့် ဖြစ်လာကြသောအခါ မာဂဓဘာသာကိုပင် ပြောဆိုကြပေလိမ့်မည်။ ထို့ကြောင့်ပင် မာဂဓဘာသာကို ပြောသူများ စာရင်း၌ ကမ္ဘာဦးလူသားတို့ကိုပါ ထည့်သွင်း၍ ကျမ်းဂန်တို့၌[၄] ပြဆိုခဲ့ကြခြင်းဖြစ်ပေသည်။ ကမ္ဘာ ဦးလူသားတို့ မာဂဓဘာသာကိုပြောသည်ဟု သိရသဖြင့် မာဂဓဘာသာသည် ဘာသာတကာတို့၏ အရင်းဖြစ်သော မူလဘာသာလည်း ဖြစ်တော့သည်၊ သို့ဖြစ်၍လည်း မာဂဓဘာသာ ဝါ-ပါဠိ- ဘာသာကို မူလဘာသာဟု သုံးစွဲသည်ကိုလည်း တွေ့ရခြင်းဖြစ်ပေသည်[၅]။

၎င်းပြင် " မာဂဓဘာသာသည် သဘာဝနိရုတ္တိဖြစ်သည့်အလျောက် အခြား မည်သည့်စကားသံ ကိုမျှ မကြားရသူသည် အလိုအလျောက် ကြံဖန်ပြောဆိုနိုင်ပါမူ မာဂဓဘာသာသို့ သက်ဝင်သော

---

၁။ သေသာ...အဋ္ဌာရသ ဘာသာ ပရိဝတ္တန္တိ၊ အယမေဝေကာ ယထာဘုစ္စဗြဟ္မဝေါဟာရ အရိယဝေါဟာရ- သင်္ခါတာ မာဂဓဘာသာ န ပရိဝတ္တတိ. (အဘိဋ္ဌ၊ ၂။၃၇၃-၂)။ သေသာ ပရိဝတ္တန္တိ ကေနစိ ကာလန္တရေန အညထာ ဟောန္တိ ဝိနဿန္တိ စ။ မာဂဓာ ပန ကတ္ထစိ ကဒါစိ ပရိဝတ္တန္တီပိ န သဗ္ဗတ္ထ သဗ္ဗဒါ သဗ္ဗထာ စ ပရိ- ဝတ္တတိ၊ ကပ္ပဝိနာသေပိ တိဋ္ဌတိယေဝ။ (မူလဋီ၊ ၂။၁၉၂)။ မနုဿာနံ ဒုရုတ္တဟာကာဒိနာ ကတ္ထစိ ကဒါစိ ပရိဝတ္တန္တီပိ ဗြဟ္မလောကာဒီသု ယထာသဘာဝေနေဝ အဝဋ္ဌာနတော န သဗ္ဗတ္ထ သဗ္ဗဒါ သဗ္ဗထာ စ ပရိဝတ္တတိ။ (အနုဋီ၊ ၂။၁၉၄)

၂။ လူ့ပြည်၌ မာဂဓီဘာသာကို အပြောများ၏ ဆိုသည်မှာ ဒေသိယမာဂဓီဘာသာ(ဟိန္ဒီဘာသာ)ကို ရည်၍ ဆိုဟန်တူ၏၊ ထိုစကားကိုလည်း ဇမ္ဗူဒီပဟု ခေါ်သော ဗုဒ္ဓနိုင်ငံကို ရည်၍ ဆိုသည်ဟု ယူမှ ပစ္စက္ခ- ယုတ္တိ ရှိနိုင်မည်။ (မောင်၊ နိဘာ၊ နိဒါန်း—ဆ)

၃။ စာမျက်နှာ-၃၇၃။ ၄။ ရှုပသိဒ္ဓိ နှမ်ကျမ်း အစနှင့် ကာရိကာသဒ္ဒါငယ် ဂါထာနံပါတ်-၁၅၀။

၅။ ပရိဝတ္တေသိ သဗ္ဗာပိ၊ သီဟဠဋ္ဌကထာ တဒါ။

သဗ္ဗေသံ မူလဘာသာယ၊ မာဂဓာယ နိရုတ္တိယာ။ (မဟာဝံ၊ ၃၇။ ၂၄၄)။ ဤနိဒါန်း စာမျက်နှာ ၂-လည်း ပြန်ကြည့်ပါ။

စကားကိုသာ ပြောဆိုပေလိမ့်မည်[၁]" ဟု သမ္မောဟဝိနောဒနီ၌ မိန့်ဆိုလျက် ရှိ၏။ ၎င်း၌ ဆိုလိုသည်မှာ အနမတဂ္ဂသံသရာ ခရီး၌ မာဂဓဘာသာကို မရေမတွက်နိုင်အောင် ပြောကြားလေ့ကျက်ခဲ့ဘူးလှပြီဖြစ်၍ သံသရာခရီးသည်မှန်သမျှ မာဂဓဘာသာ ဗီဇမျိုးစေ့ ကိန်းလျက်ရှိကြရကား စကားပြောရန်အချိန်တန်၍ အခြားမည်သည့်ဘာသာစကားသံကိုမျှ မကြားဘူးသူဖြစ်ပါက အလိုအလျောက် သဘာဝနိရုတ္တိဗီဇမှ ထ၍ပေါက်လာသော မာဂဓဘာသာကိုပင် ပြောဆိုပေလိမ့်မည်ဟု ဆိုလိုရင်းဖြစ်ပေသည်။ ယင်းသို့ ပြောနိုင်သည်ဆိုသော်လည်း အဘယာရာမ ဆရာတော် မိန့်တော်မူသည်နှင့်အညီ ပြည့်စုံသော မာဂဓဘာသာ မဖြစ်ရာ၊ အနည်းငယ်မျှသော မာဂဓပျက်စကားသာ ဖြစ်တန်ရာသည်၊ ပြည့်စုံသော မာဂဓဘာသာကို လေ့လာသင်ကြားသူပင် တတ်နိုင်ခဲ့စွ၊ အလိုအလျောက် ဘယ်မှာတတ်နိုင်ပါအံ့နည်း[၂]။

ထို့ပြင်လည်း၊ ပါဠိဟုဆိုအပ်သော မာဂဓဘာသာသည် သဘာဝနိရုတ္တိဖြစ်၍ နိရုတ္တိပဋိသမ္ဘိဒါဉာဏ်၏ အရာလည်း ဖြစ်၏။ နိရုတ္တိပဋိသမ္ဘိဒါဉာဏ်ကိုရလျှင် မာဂဓဘာသာကို အလိုအလျောက် တတ်နိုင်သည့်နည်းတူ မာဂဓဘာသာ၌ ကျွမ်းကျင်လိမ္မာခြင်းသည်လည်း ပဋိသမ္ဘိဒါဉာဏ်ကို ရခြင်း၏ အကြောင်းတပါးဖြစ်လေသည်[၃]။

မာဂဓဘာသာသည် ဆိုခဲ့ပြီးသော ဂုဏ်တို့နှင့်သာ ပြည့်စုံသည်မဟုတ်သေး၊ သာသနာတော်၏ အသက်ဟုဆိုအပ်သော ဝိနည်းကံဆောင်ရာတို့၌လည်း လွန်စွာကျေးဇူးများပေသည်[၄]။ ထိုစကားမှန်၏၊ ရဟန်းခံခြင်း, သိမ်သမုတ်ခြင်း စသော သာသနာတော်၏ မူလဘူတဖြစ်သည့် သံဃာ့ကံတို့ကို အောင်မြင်ထမြောက်အောင် ဆောင်ရွက်ရာ၌ ဆိုင်ရာကမ္မဝါစာတို့သည် မပါလျှင် မပြီးသော အရာများဖြစ်ကြ၏၊ ၎င်းကမ္မဝါစာတို့ကို သိထိလ, ဓနိတ, ဝိမုတ္တ, နိဂ္ဂဟိတ ပီသအောင် ရွတ်ဖတ်နိုင်မှ ကံမြောက်၏၊ ယင်းသို့ ရွတ်ဖတ်နိုင်ရန်မှာလည်း မာဂဓပါဠိဘာသာဆိုင်ရာ ရွတ်ဖတ်နည်းဖြစ်သည့် သိထိလ, ဓနိတ စသော ဗျဉ္ဇနဗုဒ္ဓိဆယ်ပါးကို ကျွမ်းကျင်ရပေမည်။ ယင်းသို့ ကျွမ်းကျင်မှသာ ကမ္မဝါစာကို မပျက်မစီးစေပဲ ကံအထမြောက်အောင် ရွတ်ဖတ်နိုင်မည် ဖြစ်ပေသည်[၅]။ မာဂဓဘာသာကို မတတ်လျှင်ကား ကမ္မဝါစာတို့ကို အောင်မြင်ထမြောက်အောင် ရွတ်ဖတ်နိုင်မည်

---

၁။ ယောပိ အာဒိမကပ္ပေ မဟာရဇ္ဇေ နိဗ္ဗတ္တော၊ တတ္ထ အညော ကထေန္တော နာမ နတ္ထိ၊ သောပိ အတ္တနော ဓမ္မတာယ ဧတံ သမုဋ္ဌာပေန္တော မာဂဓဘာသမေဝ ဘာသိဿတိ။ (အဘိ၊ ဋ္ဌ၊ ၂။ ၃၇၁)။ ဤ၌ 'ဘာသတိ' ဟု ကောန်အားဖြင့် မဆိုပဲ 'ဘာသိဿတိ' ဟု အနာဂတ် ဝိဘတ်ဖြင့် ဆိုအားသည်ကိုလည်း သတိပြုသင့်၏။

၂။ မောဂ်၊ နိသျ၊ နိဒါန်း —၈။

၃။ ပုဗ္ဗယောဂေါ ဗာဟုသစ္စံ၊ ဒေသဘာသာ စ အာဂမော ။ပ။ ပဋိသမ္ဘိဒပ္ပတ္တိယာ။ .... ဒေသဘာသာ နာမ ကေသတတေဝါဟာရကုသလတာ၊ ဝိသေသေန ပန မာဂဓိကေ ကောသလ္လံ။ (ပဋိသံ၊ ဋ္ဌ၊ ၁။၇)။ နိရုတ္တိပဋိသမ္ဘိဒါဉာဏလာဘီ ပုဂ္ဂလော အသိက္ခန္တောပိ မာဂဓဘာသံ ဇာနာတိ။ အညံ ဘာသံ သိက္ခန္တောဝ ဇာနာတိ၊ နာသိက္ခန္တော။ (ဘောဓိစိန္တာဘိဓာနဟောင်း၊ ၅-ဂါထာအဖွင့်)။ အဘိ၊ဋ္ဌ၊ ၂။၃၇၁-လည်း ကြည့်။

၄။ သာသနဿာယုဘာဝရုဠှာ၊ မာဂဓောဝိဓ ဝေယုတော။
သော ဟာနုဿဝန် ပဋိ-သမ္ဘိဒါယ စ ပစ္စယော။ (ဘောစိန္တ ၁၅)
သော ဟိ မာဂဓော သဒ္ဒေါ ကမ္မဝါစာနုဿဝနာဒ္ဒီ ယောဂတိ ပဋိသမ္ဘိဒါယ ပစ္စယော စ။ ၎င်း၊ ဒီပနီ။

၅။ ဝိ၊ ဋ္ဌ၊ ၄။ ၂၄၇-က-ကြည့်။ မ၊ ဋ္ဌ၊ ၄။ ၁၉-လည်းကြည့်။

မဟုတ်ပေ။ ယင်းသို့ဖြစ်၍ မာဂဓဘာသာသည် ဗုဒ္ဓမြတ်စွာသာသနာတော် အစွန်းရှည်စွာ တည်တံ့ရေး၌ အလွန် အရေးပါ အရာရောက်သော ဘာသာထူး ဘာသာမြတ် ဖြစ်လေတော့သည်။

ဘုရားရှင်သည် မာဂဓဘာသာဖြင့် ဒေသနာစမ္မက်ကို ဟောမြွက်တော်မူသည်ဟု ဆိုခဲ့၏၊ ထိုသို့ဖြစ်လျှင် မာဂဓဘာသာစကားမတတ်သူ ဝေနေယျတရားနာသူတို့မှာ တရားတော်ကို မည်သို့ နားလည်နိုင်ပါသနည်း ဟူသော ပြဿနာသည် ပေါ်ထွက်လာ၏၊ အဖြေကား—ဘုရားရှင်သည် မာဂဓဘာသာဖြင့်ပင် တရားတော်တို့ကို ဟောကြားတော်မူသည်မှာ အမှန်ပင်၊ ထိုသို့ ဘုရားရှင်က မာဂဓဘာသာဖြင့် ဟောကြားသော်လည်း တရားနာယူသူ ဓမ္မပဋိဂ္ဂါဟကပုဂ္ဂိုလ်တို့ကမူကား မိမိတို့ သက်ဆိုင်ရာ ကိုယ်ပိုင်ဘာသာဖြင့်ပင် နားလည်ကြလေသည်။ ဥပမာ—ဒမိဠလူမျိုးတို့ကလည်း ဒမိဠဘာသာစကားဖြင့် ဟောကြားနေသည်ဟုထင်၍ အန္ဓကလူမျိုးတို့ကသည်း အန္ဓကဘာသာဖြင့်ပင် ဟောညွှန်ပြသ ဆုံးမနေသည်ဟု ထင်လေသည်၊ ယင်းသို့ ထင်မြင်ခြင်းသည်ပင် အစိန္တေယျ ဂုဏ်တော်လေးပါးတို့တွင် ဝါစာအစိန္တေယျ ဂုဏ်တော်ဟူသော ဘုရားရှင်၏ အာနုဘော်ပင် ဖြစ်လေသည်[၁]။

အဋ္ဌကထာ, ဋီကာတို့၌ မာဂဓဘာသာဟုခေါ်သော ပါဠိဘာသာကိုပင် ရူပသိဒ္ဓိ စသော ကျမ်းတို့၌ မာဂဓီဘာသာဟု ခေါ်ဝေါ်သည်ကို တွေ့ရသည်၊ အဘယာရာမဆရာတော်လည်း မောဂ္ဂလ္လာန်နိသျှနိဒါန်း၌ မာဂဓီဘာသာဟုပင် သုံးစွဲရေးသားတော်မူသည်ကို တွေ့ရသည်၊ သို့ ခေါ်ဝေါ်ရေးသားကြသော်လည်း မာဂဓဘာသာသည် ပြာကြိုဋ်ဘာသာတို့တွင် အပါအဝင်ဖြစ်သော မာဂဓီဘာသာကား မဟုတ်ပေ။

ထိုစကားကို ချဲ့ဦးအံ့၊ ပြာကြိုဋ်ဘာသာတို့တွင်[၂] "မာဂဓီ" ခေါ်သော ဘာသာတခုလည်း အပါအဝင်ဖြစ်၏၊ ၎င်းဘာသာ၏ ဖြစ်ပေါ်ရာဒေသ သို့မဟုတ် ၎င်းဘာသာကို သုံးစွဲရာဒေသကား (မာဂဓီဟူသော ယင်းအမည်ကိုထောက်၍) မဂဓတိုင်းပင် ဖြစ်ပေသည်[၃]။ ဤမာဂဓီဘာသာကို အသောကမင်းကြီး၏ နိုင်ငံတော်မြောက်ပိုင်းနှင့် အရှေ့ပိုင်းရှိ ခါလသီ, မီရတ္ထ, လောရိယာ, သဟသာရာမ, ဗရာဗရ, ရာမဂဍ္ဍ, ဓောလိနှင့် ဇောဂဍ စသောဌာနတို့တွင် တည်ရှိသော အသောကကျောက်စာ

---

၁။ ဧကော စ ဘဂဝတော ဓမ္မဒေသနာဃောသော ဧကသ္မိံ ခဏေ ပဝတ္တမာနော နာနာဘာသာနံ သတ္တာနံ အတ္တနော ဘာသာဝသေန အပုစ္ဆံ အစိရံ ဂဟဏူပဂေါ ဟုတွာ အတ္ထာဓိဂမာယ ဟောတိ။ အစိန္တေယျော ဟိ ဗုဒ္ဓါနံ ဗုဒ္ဓါနုဘာဝေါတိ သဗ္ဗသတ္တာနံ သကသကဘာသာနုရူပတော သောတပထမာဂစ္ဆတီတိ ဝေဒိတဗ္ဗံ။ (ဗုဒ္ဓဝံ၊ဋ္ဌ၊ ၁၉-၂၀)။ ဒီ၊ဋ္ဌ၊၁။၂၈။ မ၊ဋ္ဌ၊၁။၅၇။ သံ၊ဋ္ဌ၊၁။၉၄။ အံ၊ဋ္ဌ၊၁။၉၄-စသည်တို့လည်းကြည့်။ တနည်းလည်း—ဘုရားရှင်သည် လူသားမန်တို့ စကားတခွန်းပြောချိန်တွင် ၁၂-ခွန်းပင် ပြောဆိုနိုင်အောင် လျင်မြန်သော စကားတော်ရှိရကား မာဂဓမတတ်သော တရားနာသူတို့အတွက် ၎င်းတို့ နားလည်နိုင်မည့် ဘာသာများဖြင့် လျင်မြန်စွာ ပြန်ဆိုဟောကြားတော်မူသည်ဟုလည်း ယူဆနိုင်သည်၊ အကြောင်းကား ကုလသမဂ္ဂစသော အပြည်ပြည် ဆိုင်ရာ လူမျိုးစုံစည်းဝေးသည့် ဌာနတို့၌ မိန့်ခွန်းပြောသူ၏ (သတ်မှတ်ထားသော ဘာသာဘို့တွင် တခုခုသော) ဘာသာစကားကို အခြားဘာသာတခုသို့ ပြန်ဆိုပြောကြားပေးသူများရှိရာ ၎င်းတို့ပြန်ဆိုမှုသည် မူလပြောသူနှင့် တပြိုင်နက်တည်း ပြောနေသည်ထင်ရလောက်အောင် လျင်မြန်သည်ကို တွေ့ရသောကြောင့်တည်း။ ၎င်းတို့ပင် ဤမျှ စွမ်းဆောင်နိုင်လျှင် အစိန္တေယျ ဂုဏ်တော်အခင် သဗ္ဗညုတဉာဏ်တော်ရှင် အဖို့မှာကား ဆိုဖွယ်ရာ မရှိပြီ။

၂။ ပါကတ, သောရသေနီ, မာဂဓီ, အဒ္ဓမာဂဓီ, ပေသာစီ, စူလိကာပေသာစီ, အပဗ္ဘံသတို့ကား ပြာကြိုဋ်ဘာသာမျိုးတို့တည်း။

၃။ မဂဓေသု ဘဝံ တံ၊ မာဂဓီ သမ္ဘဝေ ဟောတေ။ (ဆဋ္ဌာသာစန္ဒိကာ၊ ၃-၄)

များပေါ် တွင်တွေ့ရှိနိုင်ပေသည်။ ထိုနောက် နာဋကျ(ပြဇာတ်)ကျမ်းတို့တွင်အသုံးပြုသော ပြာကိုဋ်ဘာသာတို့တွင်လည်း မာဂဓီဘာသာပါရှိသည်ကို တွေ့ရှိရပြန်သည်။ မာဂဓီဘာသာကို အစောဆုံး အသုံးပြုသောကျမ်းကား အရှင်အဿဃောသ၏ နာဋကကျမ်းပင် ဖြစ်လေသည်၊ ၎င်း၏ နောက်တွင်ကား ဘာသ, ကာလိဒါသ စသော ဆရာကြီးတို့၏ နာဋကတို့၌၎င်း, မစ္ဆကဋိကာခေါ် နာဋက၌၎င်း, အခြား နာဋကကျမ်းများ၌၎င်း မာဂဓီဘာသာကို သုံးစွဲသည်ကို တွေ့ရှိနိုင်ပေသည်။

၎င်းပြင် ဝရရုစိဆရာ၏ ပါကတပ္ပကာသကျမ်း, စဏ္ဍဆရာ၏ ပါကတလက္ခဏကျမ်း, ဟေမစန္ဒြဆရာ၏ သိဒ္ဓဟေမစန္ဒြကျမ်း (အဌမပိုင်း), ကြမဒီသွရဆရာ၏ သံခိတ္တသာရကျမ်း, လက္ခမိဓရဆရာ၏ ဆဋ္ဌာသာစန္ဒြိကာကျမ်း, မာကဏ္ဍေယဆရာ၏ ပါကတသဗ္ဗသ္သကျမ်း, သိံဟရာဇဆရာ၏ ပါကတရူပါဝတာရကျမ်းစသော ပြာကိုဋ်ဘာသာကို အပြည့်အစုံပြသော သဒ္ဒါကျမ်းတို့တွင်လည်း မာဂဓီဘာသာကို တသီးတခြား ပြဆိုလျက်ရှိသည်ကို တွေ့ရလေသည်။

နာဋျသတ္ထရကျမ်းပြု ဘရတမုနိ၏ ပညတ်ချက်အရ ၌ မာဂဓီဘာသာကို နာဋကကျမ်းတို့တွင် ဘုရင်၏ နန်းတွင်းသူ နန်းတွင်းသားများ, တွင်းတူးသမားများ, အရက်ဆိုင်ပိုင်ရှင်များ, မြင်းထိန်းများ, လှမ်းခန်းသို့ရောက်နေသော ဇာတ်ဆောင်များနှင့် ကိုယ်ရံတော်များအတွက် အသုံးပြုရလေသည်[၁]။ ၎င်းပုဂ္ဂိုလ်တို့ပြောသော စကားများကို သက္ကတဘာသာဖြင့်မရေးပဲ မာဂဓီဘာသာဖြင့် ရေးရလေသည်။ မာကဏ္ဍေယ၏ ပါကတသဗ္ဗသ္သ၌မူကား အထက်ပါတို့သာမက ရက္ခိုက်များ, ဘိက္ခုများ, အထီးကျန်သူများနှင့် အစေခံ စသူတို့အတွက်လည်း မာဂဓီဘာသာကိုပင် အသုံးပြုရမည်ဟု ဆိုလေသည်[၂]။ ဆဋ္ဌာသာစန္ဒြိကာ၌လည်း အလားတူပင် တံငါသည် အလွန်ယုတ်နိမ့်သူတို့အတွက် မာဂဓီကိုသုံးရန် ညွှန်ကြားသည်ကို တွေ့ရပေသည်[၃]။

ယင်းသို့ အောက်တန်းစားတို့ အတွက်သာ မာဂဓီကိုအသုံးပြုရန် ဘရတမုနိစသော ရှေးသက္ကတပညာရှိကြီးတို့သတ်မှတ်ညွှန်ကြားခဲ့ကြရကား မာဂဓီဘာသာသည် အောက်တန်းစားတို့၏ ဘာသာစကားသာ ဖြစ်လေတော့သည်၊ ထို့ကြောင့်လည်း သရဿတီကဏ္ဌာဘရဏ စသော ကျမ်းတို့၌—

“ဒေဝါဒီ သက္ကတံ ပါဟု၊ ပါကတံ ကိန္နရာဒယော။
ပေသာစာဒီ ပိသာစာဒီ၊ မာဂဓံ ဟီနဇာတယော[၄]”

ဟု မာဂဓီဘာသာကို အောက်တန်းချ၍ မိန့်ဆိုခဲ့ခြင်း ဖြစ်လေသည်။

ဤသို့ သက္ကတကျမ်းဆရာတို့ အောက်တန်းချ၍ မိန့်ဆိုခဲ့ခြင်း ခံရသော မာဂဓီဘာသာကား ယခုအခါ ပါဠိဘာသာဟု ခေါ်အပ်သည့် မာဂဓဘာသာ မဟုတ်နိုင်ပေ။

---

၁။ မာဂဓီ တု နိရုတ္တာနံ၊ အန္တေပုရနိဝါသိနံ။ (၁၇၊ ၅၀။)။ သုရင်္ဂါနုဘာဝီနံ၊ သောဏ္ဍိကာဗျရက္ခိတိနံ။ ဗျသနေ နာယကာနံ စ၊ အတ္တရက္ခာသု မာဂဓီ။ (၁၇၊ ၅၆။)

၂။ ရက္ခသဘိက္ခုကပဏကစေဋ္ဌာဒျာ မာဂဓီ အာသဟု။

၃။ ဓီဝရာဒျတိနိစေသု မာဂဓီ ဝိနိယုဇ္ဇတေ။ (ဆဋ္ဌာသာစန္ဒြိကာ၊ နှ၁၅)

၄။ ဒုတိယ ပရိစ္ဆေဒ၊ ၉ဂါထာ။

ယင်း မာဂဓီဘာသာကား သုတိ (နားကြား) အားဖြင့်ရင်း, လိပိ (အရေးအသား) အားဖြင့်ရင်း ပါဠိဘာသာနှင့် မတူထူးခြား ကွဲပြားသည့်ပြင် သဒ္ဒါအစီအရင်တို့၌လည်း တခုနှင့်တခု ကွာခြားလေသည်။ အောက်ပါနိုင်းယှဉ်ချက်ကို[၁] ကြည့်ပါ။

| မာဂဓီ (ကဝိသမယာဂတ) | ပါဠိ |
|---|---|
| ဧဒမာနုရမ်ရဘာလကေ, | သတံ မာနုသမံသဘာရကော, |
| ကုမ္ဘရုဟဂ္ဂ ဝရှါဟိ ရဉ္ဇိဒေ၊ | ကုမ္ဘသဟဿံ ဝဿာဟိ သဥ္ဆိတံ၊ |
| အဏိရံ စ ပိအာမိ ဧဝါဏိဒေ, | အနိသံ စ ပိဝါမိ သောဏိတံ, |
| ဝလိစ္စဒံ ရမလေ ဟုဝီအဒိ။ | ဝဿသတံ သမရော ဘဝိဿတိ။ |

| မာဂဓီ (အသောကလေခါ) | ပါဠိ |
|---|---|
| ပိယဒသိ လာဇာ မာဂဓံ သံဃံ | ပိယဒဿီ ရာဇာ မာဂဓံ သံဃံ |
| အဘိဝါဒေတူနံ အာဟာ | အဘိဝါဒေတွာန အာဟ |
| အပါဗာဓတံ စ ဖာသုဝိဟာရတံ စာ။ | အပ္ပါဗာဓတံ စ ဖာသုဝိဟာရတံ စ။ |

အထက်ပါ နှိုင်းယှဉ်ချက်ကို ကြည့်လျှင် အောက်ပါ ထူးခြားချက်များကို တွေ့ရပေမည်။

| ပါဠိ၌ | သ | သည် | မာဂဓီ၌ | ၐ | ဖြစ်သည်။ |
|---|---|---|---|---|---|
| | တ | ။ | ။ | ဒ | ။ |
| | န | ။ | ။ | ဏ | ။ |
| | ရ | ။ | ။ | လ | ။ |
| | ဝ | ။ | ။ | ရင်း ဝ ဖျည်းပျောက်သည်။ | |
| | ဿ (ပုလ္လိင်-ပဌမာ ဧကဝုစ်) | | | ဧ | ဖြစ်သည်[၂]။ |

၁။ ဤနှိုင်းယှဉ်ချက်ကို မောဂ္ဂလ္လာန်နိဿနဒါန်းမှ ယူသည်၊ ဤမျှဖြင့် တင်းတိမ်ခြင်းမရှိသော ပုဂ္ဂိုလ်တို့သည် အသောကကျောက်စာတို့ကိုရင်း, ကုမာရပါလစရိတ, မတ္တိကာသကဋိကာ စသော မြန်မာကြို့ကာဗျ,နာဋကကျမ်းတို့ကိုရင်း, မြခဲ့ပြီး မြန်ကြို့သဒ္ဒါကျမ်းတို့ကိုရင်း ရှာဖွေကြည့်ရှုလေ့လာကြရာ၏။

၂။ ပဌမာ ဧကဝုစ်၏ ဧ-အပြုကို ပါဠိတော်၌လည်း အနည်းအကျဉ်းတွေ့ရသည်။ သုခေ ဒုက္ခေ ဓီဝေ သတ္တမေ။ (ဒီ၊၁။၅၃။မ၊၂။၁၈၅)။ နတ္ထိ အတ္တကာရေ နတ္ထိ ပရကာရေ နတ္ထိ ပုရိသကာရေ။ (ဒီ၊၁။၅၀)။ ယေ အဝိတက္ကေ အဝိစာရေ၊ သေ ပဏီတတရေ။ (ဒီ၊၂။၂၂၂)။ဝနပ္ပဂုမ္ဗေ ယထ ဖုဿိတဂ္ဂေ။ (ခုဒ္ဒက။၇။သုတ္တနိ။၁၁၄)။ (ရင်းမှတ်၌လည်းကြည့်)။ ဘောဂဝတိ နာမ မန္ဒိရေ၊ ဝါသာ ဟိရညဝတိယံ ဝုစ္စတိ။ နဂရေ နိမ္မိတေ ကဉ္စနမယေ၊ မဏ္ဍလသာ ဥရဂဿ နိဋ္ဌိတံ။ (ဇာ၊၂။၂၇၈)။ န ယောဓံ ဝတ္တဗ္ဗေ။ (ကထာဝတ္ထု။၁-စသည်)။ ယေ လောကာမိသသံယောဇနေ၊ သေ ပတုဓွေ။ ...ယေ အာဒေနဥ္ဇသံယောဇနေ၊ သေ ဘိန္ဒေ။ ...ယေ အာကိဉ္စညာယတနသံယောဇနေ၊ သေ ဝဋ္ဋေ။ ...ယေ နေဝသညာနာသညာယတနသံယောဇနေ၊ သေ ဥဋ္ဌိန္နမူလေ တာလာဝတ္ထုကတေ...။ (မ၊၃။၄၂၃)

အမြွက်မျှ ထုတ်ပြအပ်သော အထက်ပါထူးခြားချက်တို့ကို ကြည့်ခြင်းအားဖြင့်ပင် ပါဠိဘာသာနှင့် မာဂဓီဘာသာတို့ ကွာခြားပုံကို သိနိုင်လောက်ပေပြီ၊ ဤသို့လျှင် အသံအားဖြင့်၎င်း၊ အရေးအသားအားဖြင့်၎င်း၊ သဒ္ဒါအစီအရင်အားဖြင့်၎င်း ကွဲပြား ခြားနားသောကြောင့် ဤမာဂဓီဘာသာကို မာဂဓဘာသာခေါ် ပါဠိဘာသာနှင့် ရောထွေးမသွားစေသင့်ပေ[၁]။

မာဂဓီဘာသာလောက် ပါဠိဘာသာနှင့် အလှမ်းမဝေးသော ပြာကြိုဋ်ဘာသာတို့လည်း ရှိကြ၏၊ ၎င်းတို့တွင်လည်း ပေသာစီဘာသာသည် အခြားပြာကြိုဋ်ဘာသာတို့ထက် ပါဠိဘာသာနှင့် ပို၍နီးစပ်သည်ကို တွေ့ရှိရသည်၊ အချို့ပုဒ်တို့တွင် ပါဠိဘာသာနှင့် ထပ်တူထပ်မျှ တူညီသည်ကိုပင် တွေ့ရှိရပေသည်၊ အောက်ပါ နှိုင်းယှဉ်ချက်ကို ကြည့်ပါ။

| ပါဠိ | ပေသာစီ | သောရသေနီ | မာဂဓီ |
|---|---|---|---|
| လောက | လောက | လောအ | လောအ |
| နဂ | နဂ | ဏအ | ဏအ |
| သခီ | သခီ | သဟီ | ၐဟီ |
| ရဇတ | ရဇတ | ရအဒ | လအဒ |
| ကတ | ကတ | ကဒ | ကဍ |
| ကရ | ကရ | ကရ | ကလ |
| ဝသ | ဝသ | ဝသ | ဝၐ |
| မေဃ | မေဃ | မေဃ | မေဟ |
| သာရသ | သာရသ | သာရသ | ၐါလၐ |
| ဝစန | ဝစန | ဝအဏ | ဝအဏ |
| ပဉှ | ပဉှ | ပဉှ | ပညှ |
| အတ္ထ | အတ္ထ | အတ္ထ | အသ္တ |
| ဩ(ပုလ္လိင်-ပဌမာ) | ဩ | ဩ | ဧ |

၎င်းပြင် ပါဠိဘာသာနှင့် အလွန်နီးစပ်သော အရေးအသားကို ဂူဂျရတ်နယ်၌ ရှိသော ဂိရိနာရ် အသောကကျောက်စာတွင် တွေ့ရှိရသည်၊ နီးစပ်ပုံကို ဖတ်ရှု လေ့လာနိုင်ရန် ၎င်းကျောက်စာမှ စာတမ်းအချို့ကို အောက်တွင် ဖော်ပြလိုက်ပေသည်။

ဣယံ ဓံမလိပီ ဒေဝါနံ ပြိယေန ပြိယဒသိနာ ရာညာ လေခါပိတာ၊ ဣဓ န ကိံစိ ဇီဝံ အာရဘိတ္ပာ ပြဇူဟိတဗ္ပံ၊ န စ သမာဇော ကတဗျော၊ ဗဟုကံ ဟိ ဒေါသံ သမာဇမှိ ပသတိ ဒေဝါနံ ပြိယော ပြိယဒသိ ရာဇာ၊ အသ္တိပိတု ဧကစာ သမာဇာ သာဓုမတာ

၁။ သို့ရာတွင် ပါဠိတော်တို့၌ မာဂဓီဆန်သော အသုံးအနှုန်းအချို့ကိုကား တွေ့နိုင်သည်၊ ၎င်းတို့မှာ အထက်၌ ဖော်ပြခဲ့သော ပဌမာသိဝိဘတ်၏ ဧ-အပြုသည်တို့ပင် ဖြစ်သည်။

ဒေဝါနံ ပြိယသ ပြိယဒသိနော ရာညော၊ ဟေဝံ အာဟ ဒေဝါနံ ပြိယသ ပြိယဒသိနော ရာညော အနုဒိဝသံ ဗဟူနိ ပြာဏသတသဟဿာနိ အာရဘိသု သူပါထာယ၊ သေ အဇ ယဒါ အယံ ဓံမလိပိ လိခိတာ တီ ဧဝ ပြာဏာ အာရဘာရေ သူပါထာယ—ဒွေ မောရာ, ဧကော မဂေါ၊ သောပိ မဂေါ န ဓုဝေါ၊ ဧတေပိ တြိ ပြာဏာ ပဆာ န အာရဘိသရေ။

ဂျိန်းဝါဒီတို့ ဘုရားသုံးဘာသာအဖြစ် လက်ခံအသုံးပြုသော အဒ္ဓမာဂဓီ ဘာသာသည်လည်း ပါဠိဘာသာနှင့် နီးစပ်သည်ပင်၊ အောက်ပါ အာစာရင်္ဂသုတ်မှ ထုတ်နုတ်ချက်ကို ကြည့်ပါ။

**အဒ္ဓမာဂဓီ**

သုယံ မေ အာဝုသံ တေဏ
ဘဂဝယာ ဧဝံ အက္ခာယံ၊ ဣဟ်
ဧဂေသိံ နော သန္နာ ဘဝတိ၊ ဇံ
ဧဂေသိံ နော နာတံ ဘဝတိ၊
တံ ဇဟာ—"ကေ အဟံ အာသီ?
ကေ ဝါ ဣအော စုဧ ပေစ္စာ
ဘဝိဿာမိ?"

… … … … …

တထာ ဝိမုက္ကဿ ပရိန္နစာရိဏော၊
ဓိတိမတော ဒုက္ခခမဿ ဘိက္ခုဏော။
ဝိသုဇ္ဈတီ ဇံသိ မလံ ပုရေ ကဍံ၊
သမီရိယံ ရုပ္ပမလံဝ ဇောတိဏာ။

**ပါဠိ**

သုတံ မေ အာဝုသော တေန
ဘဂဝတာ ဧဝံ အက္ခာတံ၊ ဣဟ
ဧကေသံ နော သညာ ဘဝတိ၊ ဇံ
ဧကေသံ နော ဉာတံ ဘဝတိ၊
တံ ယထာ "ကော အဟံ အာသိံ?
ကော ဝါ ဣတော စုတော ပေစ္စ
ဘဝိဿာမိ?"

… … … … …

တထာ ဝိမုတ္တဿ ပရိညာစာရိနော၊
ဓိတိမတော ဒုက္ခခမဿ ဘိက္ခုနော။
ဝိသုဇ္ဈတိ ယသ္မိံ မလံ ပုရေ ကတံ၊
သမီရိတံ ရုပ္ပမလံဝ ဇောတိနာ။

## ပါဠိဘာသာနှင့် သက္ကတဘာသာ

ပါဠိဘာသာသည် ပြာကြိုဋ်ဘာသာတို့နှင့် တစိတ်တဒေသ တူညီမှုရှိသကဲ့သို့ သက္ကတဘာသာနှင့်လည်း တူညီမှုများ ရှိလေသည်။ သက္ကတဘာသာသည် ဝေဒိကသက္ကတ,[၁] နဝီန(နိမ္မိတ)-သက္ကတ[၂] ဟု ၂-မျိုးရှိရာ ဝေဒိကသက္ကတဟူသည် ဣရု, ယဇု, သာမ, အထဗ္ဗဏ ဟူသော ဝေဒ ၄-ကျမ်းနှင့် ၎င်းတို့၏ အခြံအရံကျမ်းများ၌ အသုံးပြုသည့် ရှေးဟောင်းသက္ကတဘာသာ ဖြစ်သည်၊ နဝီနသက္ကတဟူသည် ဣတိဟာသကျမ်း, ပုရာဏ်ကျမ်း, ကာဗျကျမ်း, နာဋကကျမ်း စသည်တို့၌ တွေ့ရသော နောက်ပေါ် သက္ကတဘာသာ ဖြစ်သည်၊ ယင်း နောက်ပေါ် ဖြစ်သော ဘာသာကိုပင် မြန်မာပြည်၌ သက္ကတဘာသာဟု ခေါ်ဝေါ်ကြသည်။

၎င်းသက္ကတဘာသာ ၂-မျိုးတို့တွင် ဝေဒိကသက္ကတသည် မူလ အရင်းအမြစ် ဖြစ်ပြီး နဝီနသက္ကတမှာ ၎င်းဝေဒိကသက္ကတမှ ဆင်းသက်ရွေ့လျား ပေါက်ပွါးလာသော ဘာသာဖြစ်ပေသည်၊ ယင်း ဘာသာ ၂-မျိုးလုံးသည်ပင် ဗြာဟ္မဏ (ဟိန္ဒူ) သာသနာဝင်တို့အဖို့ ထူးမြတ်သော ဘာသာဖြစ်ပေသည်၊ သို့သော် ရှေးဟောင်းဖြစ်သော ဝေဒိကသက္ကတကိုကား နဝီနသက္ကတထက် ပို၍ အလေးပြုကြလေသည်။

---

၁။ Vedic Sanskrit

၂။ Classical Sanskrit

## တိပိဋက ပါဠိ-မြန်မာအဘိဓာန်

ဝေဒိကသက္ကတသည် နဝီနသက္ကတထက် ရှေးကျသည်နှင့်အမျှ ယင်းထက် ပို၍လည်း ခက်လေသည်၊ နဝီနသက္ကတကိုသာ တတ်သူသည် ဣရုဝေဒ-စသော ဝေဒကျမ်းတို့သို့ သက်ဝင်ခြင်းငှါ မလွယ်ကူပေ။ ထို့ကြောင့်လည်း ပါဏိနိ, သိဒ္ဓန္တကောမုဒီစသော သဒ္ဒါကျမ်းတို့၌ ဝေဒိကသက္ကတဆိုင်ရာ သဒ္ဒါအစီအရင်တို့ကို သီးခြားပြသထားသည်ကို တွေ့ရှိရခြင်း ဖြစ်ပေသည်။

ထိုနှစ်မျိုးသော သက္ကတတို့မှာပင် ပါဠိဘာသာနှင့် နီးစပ် တူညီသော အချက် အများအပြားပင် တွေ့ရှိရသည်၊ အထူးသဖြင့် ပုဒ်နေ ပါဠိထားတို့၌ လုံးဝတူညီသောပုဒ်များနှင့် လုံးဝမတူသော်လည်း မှန်းဆသိနိုင်လောက်သောပုဒ်များ အမြောက်အမြားပင် တွေ့ရှိနိုင်ပေသည်။ အနည်းငယ် ထုတ်ပြရလျှင်— ဂမ္ဘီရ, ဇီဝိတ, သူကရ, မဓု, သုခ, သဘာ, ဂါထာ, မုခ စသောပုဒ်တို့သည် ပါဠိ, သက္ကတ နှစ်ဌာနလုံး၌ပင် လုံးဝတူညီသော ပုဒ်များဖြစ်၍ ဇျောတိ, ဒုးခ, မုက္တ, မုဒ္ဂရ, ယၐ္ဋိ, ဥတ္ထိတ, ဟၖဒယ စသောပုဒ်တို့ကား မှန်းဆသိနိုင်လောက်သော ပုဒ်များပင် ဖြစ်ပေသည်။ အောက်ပါ မေဃဒူတကာဗျမှ ဂါထာတပုဒ်နှင့် ဣရုဝေဒမှ ဂါထာတပုဒ်ကို ကြည့်လျှင်လည်း ပါဠိနှင့် သက္ကတတို့ နီးစပ်ပုံကို ရိပ်စားနိုင်ပေလိမ့်မည်။

### သက္ကတ (နဝီန)

အာလောကေ တေ နိပတတိ ပုရာ သာ ဗလိဗျာကုလာ ဝါ၊
မတ္သာဒၖၑျံ ဝိရဟတနု ဝါ ဘာဝဂမျံ လိခန္တီ။
ပၖစ္ဆန္တီ ဝါ မဓုရဝစနာံ သာရိကာံ ပဉ္ဇရသ္ထာံ၊
'ကစ္စိဒ္ဘတ္တုး သ္မရသိ ရသိကေ တွံ ဟိ တသျ ပြိယေ'တိ။ (ဥတ္တရမေဃ၊ ၂၅)။

### ပါဠိပြန်

အာလောကေ တေ နိပတတိ ပုရာ သာ ဗလိဗျာကုလာ ဝါ၊
မသာဒိသံ ဝိရဟတနု ဝါ ဘာဝဂမ္မံ လိခန္တီ။
ပုစ္ဆန္တီ ဝါ မဓုရဝစနံ သာရိကံ ပဉ္ဇရတ္ထံ၊
'ကစ္စိ ဘတ္တု၊ သရသိ ရသိကေ တွံ ဟိ တဿ ပိယာ'တိ။

### သက္ကတ (ဝေဒိက)

ယာဘိး သောမော မောဒတေ ဟၖၐျတေ စ၊
ကလျာဏီဘိရ် ယုဝတီဘိရ် န မရ္တး။
တာ အဓ္ဝရျော အပေါ အစ္ဆာ ပရေဟိ၊
ယဒ် အာသိဉ္စာ ဩၐဓီဘိး ပုနီတာတ်။ (ရိဂ်၊၁၀၊၃၀၊၅)။

### ပါဠိပြန်

ယာဘိ သောမော မောဒတေ ဟသတေ စ၊
ကလျာဏီဘိ ယုဝတီဘိ န မစ္စော။
တာ အဒ္ဒရ အာပေါ အစ္ဆာ ပရေဟိ၊
ယံ အာသိဉ္စ ဩသဓီဘိ ပုနာဟိ။

၎င်းပြင် ဝေဒီကသက္ကတဘာသာတွင် နဝီနသက္ကတနှင့်မတူပဲ ပါဠိဘာသာနှင့် တူညီနေသည့် အချက်များစွာရှိသည်ကိုလည်း လေ့လာတွေ့ရှိရပေသည်။ ယင်း တူညီချက်တို့တွင် အနည်းငယ်ကို ထုတ်ပြရသော်

ဝေဒီကသက္ကတတွင် သတ္တမီ (နာမ်) ဝိဘတ်ဖြင့် သုံးစွဲရမည့် နေရာ၌ ဆဋ္ဌီဝိဘတ်ဖြင့် သုံးစွဲခြင်း စသော ဝိဘတ္တိဝိပလ္လာသများ, ကေဝုစ်ကြိယာဖြင့် သုံးစွဲရမည့်နေရာ၌ ဗဟုဝုစ်ကြိယာဖြင့် သုံးစွဲခြင်း စသော ဝစနဝိပလ္လာသများ, အတိတ်ကာလဖြင့် သုံးစွဲရမည့် နေရာ၌ ပစ္စုပ္ပန်ကာလဖြင့် သုံးစွဲခြင်း စသော ကာလဝိပလ္လာသများနှင့် ဝဏ္ဏတပါးကို အခြားဝဏ္ဏတပါး ပြုခြင်းစသော ဝဏ္ဏဝိပလ္လာသများနှင့် တကွ လိင်္ဂဝိပလ္လာသ စသည့် ဗျတ္တယတို့ကို တွေ့ရှိရသည် ပါဠိဘာသာ၌လည်း ထိုနည်းအတူပင် ဤ ဝိပလ္လာသများကို တွေ့ရှိရပေသည်။ နဝီနသက္ကတ ဘာသာ၌ကား ဤ ဝိပလ္လာသမျိုးကို တားမြစ်လိုရှိပင် သက္ကတသဒ္ဒါကျမ်းများ ပေါ်ထွက်လာသည် ဖြစ်ရကား ဤသို့သော ဝိပလ္လာသမျိုးကို မတွေ့ရပေ။

နာမ်ပုဒ်တို့၏ အဆုံး၌ 'ဂတာ သေ, မေ့ာ သေ' စသည်တို့ကဲ့သို့ သေ-အက္ခရာ ဆုံးသော ပုံစံများ, 'ဒေဝေဘိ' စသော တတိယာဗဟုဝုစ်ပုံစံများ, 'ပတိနာ' စသော တတိယာကေဝုစ်ပုံစံများကိုလည်း ဝေဒီကသက္ကတနှင့် ပါဠိဘာသာတို့၌ တူညီစွာ တွေ့ရ၍ နဝီနသက္ကတ၌ကား ယင်းပုံစံမျိုးကို မတွေ့ရပေ။

၎င်းပြင် ပါဠိဘာသာ၌ စတုတ္ထီဝိဘတ်နှင့် ဆဋ္ဌီဝိဘတ်တို့ဝယ် ရုပ် အတူတူရှိသကဲ့သို့ ဝေဒီကသက္ကတ၌လည်း စတုတ္ထီအရာ၌ ဆဋ္ဌီ, ဆဋ္ဌီအရာ၌ စတုတ္ထီဝိဘတ်ကို သုံးသော အရာများရှိရကား[၂] စတုတ္ထီရုပ်နှင့် ဆဋ္ဌီရုပ်တို့ တခုနှင့်တခု တူညီကြသည်ကိုလည်း အတော်များများ တွေ့ရပေသည်။ နဝီနသက္ကတ၌ကား စတုတ္ထီရုပ်နှင့် ဆဋ္ဌီရုပ်တို့မှာ တခုနှင့်တခု အလွန်ပင် ကွာခြားကြလေသည်။

အာချာတ်ပုဒ်တို့၌လည်း ဂစ္ဆတေ, ဒဒါတိ, မရတိ, ဟနတိ စသော ရုပ်တို့ကို ဝေဒီကသက္ကတနှင့် ပါဠိဘာသာတို့မှာသာ တွေ့ရပြီး နဝီနသက္ကတ၌ကား ၎င်းရုပ်မျိုးကို လုံးဝ မတွေ့ရပေ။

ဤသို့ စသည်ဖြင့် နဝီနသက္ကတနှင့် မတူပဲ ဝေဒီကသက္ကတနှင့်သာ ရုပ် အစီအရင် တူသော အချက်များစွာတို့ ပါဠိဘာသာမှာ ရှိလေသည်၊ ဤအချက်ကပင်လျှင် ပါဠိဘာသာသည် နဝီနသက္ကတဘာသာထက် ရှေးကျကြောင်းကို ထင်ရှားစွာ ညွှန်ပြလျက် ရှိလေသည်။

ပြဆိုအပ်ခဲ့ပြီးသည့်အတိုင်း ဝေဒီကသက္ကတ၌ ပါဠိဘာသာနှင့် တူညီသောအချက် များစွာပင် ရှိသော်လည်း ဘုရားရှင်သည် မိမိ၏ စကားတော်ကို ဝေဒီကသက္ကတဘာသာသို့ ပြန်ဆို တင်ထားရန်ကိုကား ခွင့်ပြုတော် မမူခဲ့ပေ။

ချဲ့ဦးအံ့၊ မြတ်စွာဘုရား သက်တော်ထင်ရှား ရှိစဉ်အခါက အရွတ်အဖတ်ကောင်း အသံ ကောင်းဖြစ်ကြသော ဗြာဟ္မဏဇာတ်မှ ရဟန်းပြုလာသည့် ရဟန်းညီနောင် နှစ်ပါးတို့သည် ဘုရား စကားတော်ကို ဇာတ်ညံ့သူများလည်း သင်ယူကြသည်ကို မြင်၍ မာဂဓဘာသာကား အရွတ် အဖတ်မခက်, အနက်အဓိပ္ပါယ်သိလွယ်၍ လူတိုင်းသင်ယူနိုင်သည်၊ အရွတ်အဖတ် ခက်ခဲ၍ အနက်

၁။ ပါဏိနိ၊ ၃၊ ၁၊ ၈၅ သုတ်, ၎င်း ကာသိကာဝုတ္တိနှင့် ၆၊ ၁၊ ၇၀-သုတ်၏ မဟာဘာသာ-တို့ကြည့်။
၂။ စတုတ္ထျတ္ထေ ဗဟုလံ ဆန္ဒသိ။ ပါ၊ ၂၊ ၃၊ ၆၂။ ဆဋ္ဌျတ္ထေ စတုတ္ထီတိ ဝတ္တဗ္ဗံ။ ၎င်း၊ ဝါတ္တိက။

အဓိပ္ပါယ်မသိလွယ်သော ဝေဒိကသက္ကတဘာသာသို့ ပြန်ဆို တင်ထားရပါမူကား ဝေဒကျမ်းတို့ကဲ့သို့ ဗြာဟ္မဏဇာတ်ဝင်တို့သာ သင်ယူနိုင်၍ ဇာတ်ညံ့သူတို့ မသင်ယူနိုင်ရာ၊ ယခုမှာမူကား ဘုရားစကားတော်သည် ဇာတ်ညံ့သူတို့ပင် သင်ယူနိုင်၍ ထိုသူတို့လက်သို့ ရောက်နေသဖြင့် ပျက်စီးနေရသည်ဟု ဗြာဟ္မဏဇာတ်ဝင်တို့၏ စိတ်ရင်းအတိုင်း ဇာတ်ညံ့သူတို့ မသင်နိုင်စေရန် ရည်သန်၍ ဘုရားစကားတော်ကို ဝေဒိကသက္ကတ ဘာသာသို့ ပြန်ဆိုရန် လျှောက်ထားရာ ဘုရားရှင်က ၎င်းတို့၏ အကြံကို ကဲ့ရဲ့တော်မူပြီး "ဘုရားစကားတော်ကို ဝေဒိကသက္ကတဘာသာသို့ မတင်အပ်၊ တင်သောသူအား ဒုက္ကဋ်အာပတ်သင့်စေ" ဟု ပယ်မြစ်တော်မူပြီးလျှင် "ဘုရားစကားတော်ကို မိမိဥစ္စာ မာဂဓဘာသာဖြင့် သင်ကြားကြစေ" ဟု ခွင့်ပြုတော်မူခဲ့လေသည်[၁]။

အထက်ပါ အဖြစ်အပျက်ကို ပြဆိုသော စူဠဝဂ္ဂပါဠိတော်၌ "ဆန္ဒသော အာရောပေမ"ဟူရင်း၊ "န ဘိက္ခဝေ ဗုဒ္ဓဝစနံ ဆန္ဒသော အာရောပေတဗ္ဗံ"ဟူရင်း ပါရှိခဲ့ရာ ထိုတွင် "ဆန္ဒသော အာရောပေမ"ကို "ဝေဒံ ဝိယ သက္ကတဘာသာယ ဝါစနာမဂ္ဂံ အာရောပေမ"ဟု အဋ္ဌကထာဆရာ ဖွင့်ပြတော်မူခဲ့သည်[၂]။ အဋ္ဌကထာဆရာ၏ အာဘော်မှာ ဆန္ဒသော၌ 'ဆန္ဒ'ဟူသောသဒ္ဒါသည် အလိုဆန္ဒ၊ တဏှာ၊ ဝေဒ၊ အနုဋ္ဌုဘစသောဂါထာ ဟူသောအနက်တို့တွင် ဝေဒကျမ်းဟူသော အနက်ကို ဟောသည်ဖြစ်၍ ယင်းဆန္ဒအရ ဝေဒကျမ်းသုံး သက္ကတဘာသာ ဝါ ဝေဒိကသက္ကတဘာသာကို ယူရမည်၊ သို့ဖြစ်၍ မြတ်စွာဘုရား၏ စကားတော်ကို ဝေဒိကသက္ကတဘာသာသို့ မပြန်ဆိုရ၊ ဝေဒကဲ့သို့ ဖြစ်အောင် ဘာသာပြန်၍ မထားရဟု ဆိုလိုပေသည်။

ပြဆိုခဲ့ပြီးသည့်အတိုင်း ဝေဒိကသက္ကတဘာသာ၌ ပါဠိဘာသာနှင့် တူညီသော အချက်များ ရှိသော်လည်း ဝေဒိကသက္ကတသည် ဥဒါတ္တအသံ၊ အနုဒါတ္တအသံ၊ သွရိတအသံ၊ ဇိဝါမူလီယအသံ၊ ဥပဓ္မာနီယအသံ စသော ရှည် တို နိမ့် မြင့် အသံတို့ဖြင့် ခက်ခဲစွာ ရွတ်ဖတ်ရလျက် အနက်အဓိပ္ပါယ်လည်း ကွယ်ဝှက်သဖြင့် ပါဠိဘာသာကဲ့သို့ လွယ်ကူခြင်းမရှိ၊ ထိုခေတ်က အားလပ်ချိန်များစွာရှိ၍ အထက်တန်းစားဖြစ်သည့် ဗြာဟ္မဏဇာတ်ဝင်တို့သာ သင်ယူလေ့လာတတ်မြောက်နိုင်သော ဘာသာမျိုးဖြစ်၏၊ ဘုရားရှင်၏ ရည်ရွယ်တော်မူချက်မှာလည်း မဇ္ဈိမပဋိပဒါဟူသော သာသနာ့လမ်းစဉ်ကို လူတိုင်းနားလည်၍ တရားတော်အရသာကို စားသုံးစေလိုသည်ဖြစ်ရကား ဗြာဟ္မဏဇာတ်ဝင်တို့သာ သင်ကြားတတ်မြောက်နိုင်သည့် ဝေဒိကသက္ကတဘာသာသို့ ပြန်ဆိုတင်ထားခြင်းကို တားမြစ်တော်မူရလေသည်။ မှန်ပေ၏၊ ဘုရားရှင်၏ တရားတော်သည် အထက်တန်းစား လူတစုအတွက်သာ မဟုတ်ပဲ၊ အထက်တန်း အောက်တန်းမရွေး သတ္တဝါအားလုံးအတွက် ဖြစ်ရကား လူတမျိုးအတွက်သာ ရည်ရွယ်၍ တောင်းဆိုအပ်သော "ဘုရားစကားတော်ကို ဝေဒိကသက္ကတသို့ တင်ရန်" ဟူသော အဆိုကို ပယ်ချတော်မူခဲ့ခြင်း ဖြစ်ပေသည်။

"အနုဇာနာမိ ဘိက္ခဝေ သကာယ နိရုတ္တိယာ ဗုဒ္ဓဝစနံ ပရိယာပုဏိတုံ" ဟူသော ခွင့်ပြုတော်မူချက်၌လည်း "သကနိရုတ္တိ"အရ မာဂဓဘာသာကို ယူရမည် ဟု အဋ္ဌကထာဆရာ ဖွင့်ပြ

---

၁။ ဝိ၊ ၄၊ ၂၈၀-ကြည့်။ ၂။ ဝိ၊ ဋ္ဌ၊ ၄၊ ၃၅၆။

၃။ တထာ ဟိ ဗြာဟ္မဏာ ကညာစိ ကစ္ဆာစိ ရထာဝ္ဃာနေပိ ဒိသဥ္ဇာနေပိ အာယတေန သဒ္ဒေန မဇ္ဈိမာယတေန သရေန အစ္စာယတေန စ သရေန ဝေဒံ ပဌန္တိ လိခိတုမသက္ကုဏေယျန ဂီတာအာဒရေန ဝိယ။ (သဒ္ဒနီတိပါ မာလာ။ ၉၃)

တော်မူခဲ့သည်[၁]။ မှန်၏၊ ဘုရားရှင်ဖက်မှကြည့်လျှင် သို့မဟုတ် သာသနိကပုဂ္ဂိုလ်တို့ အကြည့်ဖြင့် ကြည့်လျှင် "သကာ နိရုတ္တိ=မိမိ၏ ကိုယ်ပိုင်ဘာသာ"ဟူရာ၌ သာသနာ၏ အမှန်အစဖြစ်တော်မူသည့် မြတ်စွာဘုရား ဟောကြား ပြောဆို သုံးစွဲခဲ့သော မာဂဓဘာသာသာပင် ဖြစ်ရပေမည်. ထို့ကြောင့် အထက်ပါခွင့်ပြုချက်၏ ဆိုလိုရင်းမှာ "ဘုရားစကားတော်ကို ကိုယ်ပိုင်ဘာသာဖြစ်သည့် မာဂဓဘာသာဖြင့် သင်ယူကြစေ"ဟူသည်ပင် ဖြစ်ပေသည်။

တနည်းလည်း—"သကာ နိရုတ္တိ" အရကို အဋ္ဌကထာဖွင့်သည့်နည်းမှတပါး တနည်းကြံဆ၍ "မိမိ မိမိတို့၏ ကိုယ်ပိုင်ဘာသာ, သင်ယူသူအသီးသီး၏ အမိဘာသာ" ဟု ယူလျှင်လည်း သင့်မြတ်ပေမည်၊ ယင်းသို့ ယူလျှင် ယခုအခါ ဘာသာအသီးသီးဖြင့် လူမျိုးအသီးသီးတို့ ဗုဒ္ဓဝစနကို သင်ယူနေကြခြင်းနှင့် နီးနော့မိမည်ဖြစ်ကြောင်းဖြင့် အဘယာရာမဆရာတော် မိန့်တော်မူခဲ့သည်ကိုလည်း အလေးဂရုပြု၍ မှတ်သားသင့်လေသည်[၂]။

ဤနေရာ၌ လိုရင်းအချုပ်မှာ—မာဂဓပါဠိဘာသာ ပျောက်ကွယ်စေလိုသော စိတ်ထားမရှိပဲ မိမိတို့လူမျိုး သိလွယ်စေခြင်းငှါ မြန်မာဘာသာ စသော မိမိတို့ဘာသာသို့ ပြန်ဆိုရေးသား သင်ကြားခြင်းသည် အပြစ်မရှိ၊ ဝေဠုလာ ရဟန်းတို့ကဲ့သို့ စိတ်ထားရှိမှု မြန်မာဘာသာ ပြန်ဆို တင်ထားခြင်းသည်ပင်သော်လည်း ဘုရားရှင် အလိုတော်ကျ မဟုတ်၍ အပြစ်ရှိမည် ကေန်ပင် ဖြစ်ပေသည်။

ပါဠိဘာသာနှင့် လုံးဝကင်း၍လည်း ဘုရားစကားတော်ကို သင်ယူနိုင်မည် မဟုတ်ပေ။ ဘာသာစကားတိုင်း၏ ဓမ္မတာဖြစ်သည့်အားလျော်စွာ ပါဠိဘာသာ၌ အခြား မည်သည့်ဘာသာနှင့်မျှ ပြန်၍မရသော စကားလုံးတို့ များစွာပင် ရှိပေသည်၊ နက်နဲသော တရားတော်အရာတွင် ထိုစကားလုံးမျိုးကို အများအပြား တွေ့ရ၏၊ ၎င်းစကားလုံးများကို မြန်မာဘာသာဖြင့်လည်း အတိအကျ ဘာသာမပြန်နိုင်၊ အခြား အင်္ဂလိပ် စသော အနောက်တိုင်းဘာသာတို့ဖြင့်လည်း ဘာသာပြန်၍ မရနိုင်ပေ၊ ၎င်း စကားလုံးတို့၏ အနက်အဓိပ္ပါယ်ကို မသိပြန်လျှင်လည်း ဗုဒ္ဓဘာသာ တရားတော်ကို ပိုင်နိုင်စွာ သိသည်ဟု မဆိုနိုင်ပေ။ သို့ဖြစ်၍ ဗုဒ္ဓတရားတော်ကို ပိုင်နိုင်စွာ သိမြင်လို, နားလည်လိုသူတို့သည် ပါဠိဘာသာကို အမှန်တကယ်တတ်မြောက်အောင် လေ့လာရပေသည်။ ဤသို့လျှင် ပါဠိဘာသာသည် ဘုရားရှင်၏ တရားတော်တို့ကို အမှန်အတိုင်း သိမြင်ရေး၌ မရှိလျှင် မဖြစ်သော ဘာသာတရပ်ဖြစ်၍ သာသနာတော်အား ကျေးဇူး အများဆုံး ပြုလျက်ရှိသော ဘာသာကြီးတရပ် ဖြစ်လေတော့သည်။

---

၁။ ဝိ-၄၊၂၇၀ နှင့် ဝိဋ္ဌ-၄၊၅၅၆။

၂။ မောဂ္ဂလ္လာန်နိဿယ နိဒါန်း-ပ။

## ပါဠိစာပေ

ပါဠိဘာသာ၏ အကြောင်းကို ရေးသားပြီးနောက် ပါဠိစာပေ၏ အကြောင်းကို ရေးသားရန် အခွင့်ရောက်လာပေသည်။ ပါဠိစာပေသည် အလွန်ကျယ်ဝန်းသော စာပေကြီးတရပ် ဖြစ်ရကား ၎င်း၏ သမိုင်းကို ဤနိဒါန်း၌ အကျယ်ရေးသားရန် မဖြစ်နိုင်ပေ။ အရေးကြီးသည့် အစိတ်အပိုင်းလောက်ကိုသာ အကျဉ်းချုပ်မျှ ရေးသား ဖော်ပြလိုပေသည်။

“ပါဠိစာပေ” ဟူသော စကားဖြင့် ပါဠိဘာသာ ဝါ-မာဂဓဘာသာဖြင့် ရေးသားထားသမျှသော စာပေအားလုံးကိုပင် ဆိုလိုပေသည်။ သို့ရာတွင် ပါဠိနှင့် တိုင်းရင်းဘာသာ ရောစပ်၍ ရေးသားအပ်သည့် နိဿယကဲ့သို့သော ကျမ်းစာမျိုးနှင့် ပါဠိပိဋကကို အမှီပြု၍ တိုင်းရင်းဘာသာဖြင့် ရေးသားအပ်သည့် ကျမ်းဂန်မျိုးတို့ကိုလည်း ပါဠိစာပေ၌ပင် ထည့်သွင်းရေတွက် အပ်ပေသည်။

ပါဠိစာပေ၌ အကျုံးဝင်သော ကျမ်းဂန်များကို အမျိုးအစားအားဖြင့် ခွဲဝေလျှင် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ၊ အနု၊ မဓု၊ လက်သန်း၊ ဂဏ္ဌိ၊ ယောဇနာ၊ ဒီပနီ၊ နိဿယ၊ အရကောက် စသည်ဖြင့် များလှစွာ၏။

ထိုတွင် ပါဠိတော် ဟူသည်မှာ မြတ်စွာဘုရားရှင် သာမုက္ကံသိကဒေသနာ အဖြစ်ဖြင့် ဟောတော်မူအပ်သော တရားတော်များနှင့် သာဝက စသည်တို့ ဟောသော တရားတော်များကို ပြသော စကားရပ်တို့ကို ဆိုလိုပေသည်။

**အဋ္ဌကထာ** ဟူသည်မှာ ပါဠိတော်၏ အနက် အဓိပ္ပါယ်ကို ဖွင့်ပြသောကျမ်း ဖြစ်လေသည်။ ဤကျမ်းမျိုးတွင် ပါဠိတော်၏ ပုဒ်နက်ကိုသာ မကပဲ ပါဠိတော်နှင့် စပ်သွယ်၍ သိသင့်သိထိုက်သော ခက်ခဲနက်နဲသည့် အဆုံးအဖြတ်များ၊ ဥဒါဟရဏ် ပုံပြင်သက်သေများကိုပါ ထည့်သွင်း၍ ဖွင့်ပြသည်ကို တွေ့ရှိရပေသည်။ များသောအားဖြင့် ဤကျမ်းတို့သည် ကျမ်းဦးအစ၌ အကျယ်တဝင့် ဖွင့်ဆိုပြီး နောက်အပိုင်းတို့၌မူကား ဂန္ထဂရုဒေါသကို ပယ်ရှားလျက် အသိခက်သော အရာများကိုသာ ဖွင့်ဆိုကြလေသည်။

**ဋီကာ** ဟူသည်မှာ အဋ္ဌကထာကိုပင် ဖွင့်ပြသောကျမ်း ဖြစ်လေသည်။ ယင်းကား အဋ္ဌကထာ ဖွင့်နည်းမျိုးကိုပင် အတုယူ၍ ဖွင့်ပြသောကျမ်း ဖြစ်လေရာ ၎င်းတွင် အဋ္ဌကထာ၌ အသိခက်သော အရာများကို ဖွင့်ပြခြင်း၊ တိမ်မြုပ်သော အဓိပ္ပါယ်တို့ကို ပေါ်လွင်စေခြင်း၊ အချို့အရာတို့၌ အဋ္ဌကထာလာ အယူအဆတို့ကို ဝေဖန်စိစစ်ခြင်း စသည်များကိုပါ တွေ့ရှိနိုင်ပေသည်။

**အနုဋီကာ** ဟူသည်မှာကား ဋီကာကိုပင် ထပ်ဆင့်၍ ဖွင့်ပြသောကျမ်း ဖြစ်ပေသည်။ ပါဠိစာပေတွင် ကျမ်းအမျိုးအစား တခုအနေဖြင့် အသိများသော်လည်း အမှန်မှာ အဘိဓမ္မာ မူလဋီကာ၏ အဖွင့်တကျမ်းကိုသာ အနုဋီကာဟု ခေါ်အပ်လေသည်[၁]။

**မဓု** ဟူသည်မှာ ဋီကာရင်းဖြင့် အနက်အဓိပ္ပါယ်မကုန်၍ ကြွင်းကျန်သည်ကိုရင်း, မသိသာသည်ကိုရင်း ကုန်စင်သိသာအောင် ဋီကာရင်းနှင့် ပေါင်း၍ပြသော ကျမ်းမျိုးဖြစ်လေသည် ယင်းသို့ ပြသည်ဖြစ်၍ သိသာမြိန်မြတ်လှသောကြောင့် ၎င်းကျမ်းမျိုးကို မဓုဒီပနီဟု ခေါ်လေသည်[၁]။

**လက်သန်း** ဆိုသည်မှာကား ပါဠိတော်, အဋ္ဌကထာ စသည်တို့၌လာသော အနက်အဓိပ္ပါယ်တို့ကို မှတ်သား ဆောင်လွယ်စေရန် အကျဉ်းအားဖြင့် ရေးသားအပ်သည့် ကျမ်းငယ်မျိုး ဖြစ်ပေသည်၊ လက်သန်းသည် လက်ချောင်းတို့တွင် အငယ်ဆုံးဖြစ်သကဲ့သို့ လက်ညှိုးလက်မအလား ကြီးမားသော အဋ္ဌကထာ, ဋီကာကျမ်းများကို ထောက်ဆ၍ လက်သန်းကျမ်းဟု ခေါ်ဆိုရခြင်းဖြစ်ပေသည်၊ အချို့ကလည်း အကျဉ်းချုပ် အမြွက်မျှသာ မှတ်၍ပြသောကျမ်းဖြစ်၍ လက္ခဏကျမ်း, ယင်းမှ လက္ခဏ်း, ယင်းမှတဖန် လက်သန်း ဖြစ်လာသည်ဟုလည်း ဆိုကြသည်[၁]၊ ၎င်းလက်သန်းကျမ်းသည်လည်း လက်သန်းအဋ္ဌကထာ, လက်သန်းဋီကာဟု ရှိပြန်သည်။

**ဂဏ္ဌိ** ဟူသည်မှာ အဋ္ဌကထာစသည်တို့ကဲ့သို့ ပုဒ်စဉ်ပါဠ်လျှောက်မဖွင့်ဆိုပဲ တိမ်မြုပ်ခဲကပ် အသိကြပ်၍ အဆစ်အဖုသဖွယ်ဖြစ်သည့် ခဲရာခဲဆစ် ပုဒ်, ပါဠ်, အဓိပ္ပါယ်လောက်ကိုသာ ဖွင့်ပြသည့် နက်နဲသောဉာဏ်၏ ကျက်စားရာကျမ်းမျိုး ဖြစ်ပေသည်[၂]။

**ယောဇနာ** ဟူသည်မှာ အဋ္ဌကထာ စသည်တို့၏ အနက်ကို လွယ်ကူသောနည်းဖြင့် ဖွင့်ပြသော ကျမ်းမျိုးဖြစ်သည် ဤကျမ်းမျိုးတို့တွင် အကျယ်တဝင့် ဖွင့်ဆိုချက်များကို များစွာမတွေ့ရပဲ အဋ္ဌကထာစသည်၏ ပုဒ်နက်, ဝါကျနက် စသည်ကိုသာ ဖွင့်ပြသည်များကို တွေ့ရှိရပေသည်။

**ဝိပနီ** ဟူသည်မှာလည်း အနက်အဓိပ္ပါယ်ကို ထင်ရှားစွာ ဖွင့်ပြသောကျမ်းမျိုး ဖြစ်ပေသည်၊ ဤကျမ်းမျိုးမှာ အချို့အရာ၌ အကြောင်းအရာ တခုတည်းကိုပင် အကျယ်တဝင့် ဖွင့်ဆိုရေးသားသောကျမ်းဖြစ်၍ အချို့အရာ၌ကား ဋီကာတို့ကဲ့သို့ ဖွင့်ပြသောကျမ်း ဖြစ်ပေသည်။

**နိဿယ (နိဿယ)** ဟူသည်မှာကား ပါဠိတော်စသည်တို့ကို ပါဠိတပုဒ်, မြန်မာတပုဒ် ပြန်နည်းအားဖြင့် အနက်မြန်မာပြန်သော ကျမ်းမျိုးဖြစ်ပေသည်၊ ဤကျမ်းမျိုးတို့တွင် အနက်မြန်မာပြန်သာ မကပဲ ဆိုင်ရာဆိုင်ရာ အမှာအထား အဆုံးအဖြတ်များကိုပါ တွေ့ရှိနိုင်သည်ဖြစ်၍ ပါဠိကျမ်းဂန်တို့ကို လေ့လာရာတွင် အားကိုးအားထား အပြုရဆုံးကျမ်းမျိုး ဖြစ်လေသည်။ ထို့ကြောင့်လည်း ဤကျမ်းမျိုးကို "နိဿယ (နိဿယ)=မှီရာ, အားကိုးရာ ကျမ်း" ဟု ခေါ်ဆိုရခြင်း ဖြစ်ပေသည်။

**အရကောက်** ဟူသည်မှာ ပါဠိတော်စသည်တို့တွင် ပါရှိသည့် တပုဒ်တပုဒ်စီ၏ဖြစ်စေ, စာပိုဒ်တပိုဒ်တပိုဒ်စီ၏ဖြစ်စေ ရသင့်ရထိုက်သော တရားများကို ကောက်၍ပြသောကျမ်းမျိုး ဖြစ်ပေသည်။ အထူးသဖြင့် အဘိဓမ္မာဆိုင်ရာတွင် ဤကျမ်းတို့သည် ကျေးဇူးအများဆုံးပြုသောကျမ်းတို့ ဖြစ်ပေသည်၊ ဤအရကောက်ကျမ်းများမရှိလျှင် အဘိဓမ္မာပါဠိတော်တို့သို့ သက်ဝင်ခြင်းငှါပင် မလွယ်ကူပေ။

---

၁။ သာသနာလင်္ကာရစာတမ်း စာမျက်နှာ ၄၆ ကြည့်ပါ။ ၂။ ၎င်းကျမ်း ၄၇ ကြည့်ပါ။

အထက်ပါတို့တွင် ပါဠိတော်စာပေသည် ပါဠိဘာသာ ဝါ-မာဂဓဘာသာကို သာမုက္ကံသိက-ဒေသနာတော်အဖြစ် ဘုရားရှင် အသုံးပြု ဟောကြားသည့် အချိန်ကစ၍ ဖြစ်ပေါ်ခဲ့ပြီး အခါသင့်အခွင့်သာတိုင်း ဟောကြားခြင်းအားဖြင့် တစတစ အဆင့်ဆင့် တိုးပွါးပြန့်ကျယ်လာခဲ့ပေသည်။ ယင်း သာမုက္ကံသိက ဒေသနာတော်အားလုံးကို ဘုရားရှင် သက်တော်ထင်ရှားရှိစဉ်အခါက အရှင်အာနန္ဒာ တပါးတည်းသာ အနက်အဓိပ္ပါယ်နှင့်တကွ ကြွင်းမဲ့ဥဿုံ အာဂုံဆောင်ခဲ့ပေသည်၊ အခြားသော မထေရ်တို့တွင်ကား အချို့က ပိဋကတပုံကိုသော်၎င်း၊ အချို့က နိကာယ်တရပ်ကိုသော်၎င်း မိမိတို့ စွမ်းအားရှိသမျှ အနက်အဓိပ္ပါယ်နှင့်တကွ အာဂုံဆောင်ခဲ့ကြသည်။

သို့ရာတွင် ဘုရားရှင် ပရိနိဗ္ဗာန်စံဝင်တော်မူပြီးနောက် ၃-လခန့်အကြာတွင် အရှင်မဟာကဿပ အမှူးရှိသော ရဟန္တာမထေရ် ၅၀၀-တို့ ပဌမသင်္ဂါယနာတင်ပွဲကို ဆင်နွှဲခဲ့ကြလေရာ ၎င်းပဌမ သင်္ဂါယနာတင်ပွဲအပြီးတွင် မြတ်စွာဘုရား၏ သာမုက္ကံသိက ဒေသနာတော်များ မပျက်မစီး အရှည်တည်တံ့ စိမ့်သောငှါ ရဟန္တာမထေရ်တို့သည် အစုလိုက်ခွဲဝေ၍ တာဝန်ယူပြီးလျှင် တရားတော်များကို နှုတ်တက်အာဂုံ ဆောင်တော်မူခဲ့ကြပေသည်။

ထိုသို့ တာဝန်ယူကြရာတွင် အရှင်ဥပါလိနှင့် တပည့်တို့အား ဝိနည်းပိဋကကို၎င်း၊ အရှင်အာနန္ဒာနှင့် တပည့်တို့အား ဒီဃနိကာယ်ကို၎င်း၊ အရှင်သာရိပုတြာ၏တပည့်တို့အား မဇ္ဈိမနိကာယ်ကို၎င်း၊ အရှင်မဟာကဿပနှင့် တပည့်တို့အား သံယုတ္တနိကာယ်ကို၎င်း၊ အရှင်အနုရုဒ္ဓါနှင့် တပည့်တို့အား အင်္ဂုတ္တရနိကာယ်ကို၎င်း အသီးအသီး တာဝန်ခွဲဝေပေးကြောင်းကို သီလက္ခန်အဋ္ဌကထာတွင် မိန့်ဆိုလျက်ရှိလေသည်[၁]။

ယင်းသို့ မထေရ်တို့ အဆက်ဆက်ဆောင်ယူခဲ့ကြရာ ပါဠိတော်၏ အနက်အဓိပ္ပါယ်ကို ဖွင့်ပြသော ကျမ်းများ လိုအပ်လာ၍ ပါဠိတော်၏ အဖွင့်ဖြစ်သည့် အဋ္ဌကထာခေါ် ကျမ်းများ၊ တဖန် အဋ္ဌကထာ၏ အဖွင့်ဖြစ်သည့် ဋီကာခေါ် ကျမ်းများပါ ပေါ်ပေါက်လာခဲ့ပြန်သည်။

ထို့တွင် ဘုရားရှင်ကိုယ်တော်တိုင် ဟောတော်မူခဲ့သော တရားတော်များကို၎င်း၊ ဘုရားရှင် သက်တော်ထင်ရှားရှိစဉ်နှင့် ဘုရားရှင်ပရိနိဗ္ဗာန်စံတော်မူပြီးမှ ထိုထိုသာဝကတို့ဟောသည့် တရား

---

၁။ ဒီ၊ဋ္ဌ၊၁။ ၁၄-၁၅။ ဤအဋ္ဌကထာ၌ အဘိဓမ္မာပိဋကကို မည်သည့်ပုဂ္ဂိုလ်တို့အား တာဝန်ပေးအပ်သည်ဟု ပြဆိုချက် မပါသော်လည်း တာဝတိံသာ၌ ဟောတော်မူအပ်သော အဘိဓမ္မာတရားကို ဘုရားရှင်က အရှင်သာရိပုတြာအား အကျဉ်းဟောပြီး အရှင်သာရိပုတြာက တဆင့် လင်းနို့သား ၅၀၀ ဖြစ်ခဲ့ဘူးသော မိမိ၏ တပည့် ရဟန်း ၅၀၀-တို့အား ဟောခဲ့ပုံကို၎င်း၊ အဘိဓမ္မာပိဋကာ၌ ချုပ်ရိုးအစဉ်သည် အရှင်သာရိပုတြာမှ စတင် ဖြစ်ပေါ်လာသည်ကို၎င်း ပြဆိုသော အဋ္ဌသာလိနီအဋ္ဌကထာ (၁၇-၁၈) လာ စကားအရ အရှင်သာရိပုတြာ၏ တပည့် အဆက်ဆက်တို့ကပင် အဘိဓမ္မာပိဋကကို မပျက်မကွက် ဆောင်ရွက်ခဲ့ကြသည် ဟု မှတ်ယူအပ်၏။ တရုတ်ရဟန်းတော် ဟူယင်ဆင်၏ မှတ်တမ်းတွင်လည်း မိမိ မထုရာပြည်သို့ရောက်စဉ် အဘိဓမ္မာကို လေ့လာကြသော ရဟန်းတို့ အရှင်သာရိပုတြာ၏ ဓာတ်တော်ကိန်းဝပ်သော စေတီတော်ကို နှစ်စဉ် ပူဇော်ကြသည်ကို တွေ့ရှိရကြောင်း မှတ်တမ်းရှိပေသည်။ (The Life of Hsuan-Tsang, စာမျက်နှာ-၇၇)

များကိုရင်း ပါဠိတော်ဟူ၍ ခေါ်ရပေသည်၊ ၎င်းပါဠိတော်များကား ဆဋ္ဌသင်္ဂါယနာတင်မူအရ စာအုပ်ရေ-၄၀ ရှိလေသည်။ ထိုအုပ်ရေ ၄၀-ရှိသော ပါဠိတော်သည် –

| | |
|---|---|
| ရသ အားဖြင့် | ၁-မျိုး |
| ဓမ္မဝိနယအားဖြင့် | ၂-မျိုး |
| ဝစနအားဖြင့် | ၃-မျိုး |
| ထိုအတူ ပိဋကအားဖြင့် | ၃-မျိုး |
| နိကာယ်အားဖြင့် | ၅-မျိုး |
| အင်္ဂါအားဖြင့် | ၉-မျိုး |
| ဓမ္မက္ခန္ဓာအားဖြင့် | ၈၄၀၀၀-ရှိလေသည်။ |

၎င်းတို့တွင် ရသ အားဖြင့် ၁-မျိုးဟူသည်မှာ ဗောဓိပင်နှင့် ရွှေပလ္လင်ကို အောင်မြင်တော်မူ၍ သမ္မာသမ္ဗုဒ္ဓဘုရားအဖြစ်သို့ ရောက်တော်မူသည်မှ အစပြုလျက် ပရိနိဗ္ဗာန်စံဝင်တော်မူသည့်တိုင်အောင် ၄၅-ဝါပတ်လုံး နတ်လူဗြဟ္မာ သတ္တဝါတို့အား ဟောညွှန်ပြသ ဆုံးမတော်မူသော တရားတော်ဟူသမျှသည် ဝိမုတ္တိရသ တမျိုးတည်းသာဖြစ်ပေသည်။ ဆိုလိုသည်မှာ ဘုရားရှင်ဟောတော်မူခဲ့သမျှ တရားတော်တို့သည် ကိလေသာတို့မှလွတ်သော အရဟတ္တဖိုလ်ချမ်းသာကို ရွက်ဆောင်ခြင်းအားဖြင့်, သို့မဟုတ် ကိလေသာတို့မှလွတ်သော မဂ်ဖိုလ်ဟူသောအကျိုးကို ရွက်ဆောင်ခြင်းအားဖြင့်, သို့မဟုတ် ကိလေသာတို့မှလွတ်သော မဂ်ဖိုလ်ကို ဖြစ်စေပြီးစေခြင်းကိစ္စအားဖြင့် ရေတွက်လျှင် ဝိမုတ္တိရသ တမျိုးတည်းသာဖြစ်သည်ဟု ဆိုလိုပေသည်[၁]။

ယင်းတမျိုးတည်းကိုပင် ဓမ္မ,ဝိနယ အားဖြင့် တဖန်ခွဲသော် ၂-မျိုး ဖြစ်ပြန်သည်၊ ဘုရားရှင်၏ စကားတော်အားလုံးသည်ပင် ကိလေသာတို့ကို ပယ်ဖျောက်တတ်သောကြောင့် ဝိနယလည်း မည်သည်၊ ဆုံးမသည့်အတိုင်း ကျင့်ကြံလိုက်နာသူတို့ကို အပါယ်စသော ဘေးဒုက္ခတို့သို့ မကျအောင် ဆောင်ထားတတ်သောကြောင့် ဓမ္မလည်းမည်တော့သည်၊ သို့ မည်သော်လည်း ဤဓမ္မဝိနယအခွဲ၌ကား ဝတ္ထုစ္ဆာအားဖြင့် ဝိနည်းပိဋကကို ဝိနယဟုခေါ်၍ ဝိနည်းမှကြွင်းသမျှ ဘုရားစကားတော်တို့ကို ဓမ္မဟုခေါ်ရပေသည်။ တနည်းလည်း ဝိနည်းသည် ပရိယတ်ပင်ဖြစ်၍ ဓမ္မမည်သည်ပင်ဖြစ်၏၊ သို့သော်လည်း ဓမ္မဝိနယဟု ယှဉ်တွဲ၍ သုံးစွဲသောအခါ "ယှဉ်ဖက်၏အနက်ကို ချန်၍ယူရသောနည်း" ဖြင့် ဓမ္မအရ ဝိနည်းမဟုတ်သော ဘုရားစကားတော်ကိုသာ ယူ၍ ဝိနယအရ ဝိနည်းတရားတော်ကို ယူရပေသည်[၂]။

တဖန် ဝစနအားဖြင့် ခွဲဝေသော် ပဌမဗုဒ္ဓဝစန, မဇ္ဈိမဗုဒ္ဓဝစန, ပစ္ဆိမဗုဒ္ဓဝစန-ဟူ၍ ၃-မျိုးဖြစ်ပြီးလျှင်[၃] ပိဋကအားဖြင့် ခွဲဝေသော် ဝိနည်းပိဋက, သုတ္တန်ပိဋက, အဘိဓမ္မာပိဋက-ဟု ၃-မျိုးဖြစ်ပြန်သည်။

---

၁။ ဒီ၊ ဋ္ဌ၊ ၁။ ၂၄။ သာရတ္ထ၊ ၁။ ၆၄။ သီ၊ ဋီ၊ သစ်၊ ၁။ ၈၄-၅-တို့ ကြည့်။

၂။ ဒီ၊ဋ္ဌ၊၁။ ၂၄။ သာရတ္ထ၊၁။ ၆၄-၅။ သီ၊ဋီ၊သစ်၊၁။ ၈၅-တိ ကြည့်။

၃။ ဤ ဝစနအားဖြင့်ခွဲပုံ အကျယ်ကို ပါရာဇိကဏ် အဋ္ဌကထာ, သီလက္ခန် အဋ္ဌကထာ, အဋ္ဌသာလိနီ အဋ္ဌကထာတို့၏ နိဒါနကထာတို့၌ ပြဆိုထားသည်။

ထို ၃-မျိုးတို့တွင် ဝိနည်းပိဋကသည်—

(၁) မဟာဝိဘင်္ဂ (၂) ဘိက္ခုနီဝိဘင်္ဂ
(၃) ခန္ဓက (၄) ပရိဝါရ ဟု အပိုင်း ၄-ပိုင်းရှိသည်။

ထိုတွင် မဟာဝိဘင်္ဂနှင့် ဘိက္ခုနီဝိဘင်္ဂတို့သည် (ပုံနှိပ်ပြီး ဆဋ္ဌသင်္ဂါယနာမူ၌) ပါရာဇိက ပါဠိတော်နှင့် ပါစိတ္တိယပါဠိတော်တို့ ဖြစ်၍ ခန္ဓကသည် မဟာဝဂ္ဂပါဠိတော်နှင့် စူဠဝဂ္ဂပါဠိတော်တို့ ပင် ဖြစ်ပေသည် [၁]။

သို့ဖြစ်လေရာ ဝိနည်းပိဋကသည်—

(၁) ပါရာဇိကပါဠိ (၂) ပါစိတ္တိယပါဠိ
(၃) မဟာဝဂ္ဂပါဠိ (၄) စူဠဝဂ္ဂပါဠိ
(၅) ပရိဝါရပါဠိ ဟု ကျမ်းအားဖြင့် ၅-ကျမ်းဖြစ်လေသည်။

ဤ ၅-ကျမ်းကိုပင် ဝိနည်း ၅-ကျမ်းဟု ခေါ်လေသည်။

သုတ္တန်ပိဋကသည်ကား—

(၁) ဒီဃနိကာယ် [၂] (၂) မဇ္ဈိမနိကာယ် [၂]
(၃) သံယုတ္တနိကာယ် [၂] (၄) အင်္ဂုတ္တရနိကာယ် [၂]
(၅) ခုဒ္ဒကနိကာယ် ဟု ၅-မျိုးရှိလေသည်။

ထိုတွင် ဒီဃနိကာယ်၌—

(၁) သီလက္ခန္ဓဝဂ္ဂ (၂) မဟာဝဂ္ဂ
(၃) ပါထိကဝဂ္ဂ ဟု ၃-ကျမ်း,

မဇ္ဈိမနိကာယ်၌—

(၁) မူလပဏ္ဏာသ (၂) မဇ္ဈိမပဏ္ဏာသ
(၃) ဥပရိပဏ္ဏာသ ဟု ၃-ကျမ်း,

---

၁။ ဤခွဲဝေပုံလည်း အဋ္ဌကထာတို့၌လာသော ခွဲဝေပုံအတိုင်း ဖြစ်သည်။ မဟာဝိဘင်္ဂနှင့် ဘိက္ခုနီဝိဘင်္ဂ ၂-ရပ်ပေါင်းကိုပင် "ဥဘတောဝိဘင်္ဂ" ဟု ခေါ်သည်။

၂။ ဤဒီဃနိကာယ်စသော နိကာယ် ၄-ရပ်ကို ဒီဃာဂမ စသည်ဖြင့်လည်း ခေါ်သည်၊ သုတ္တန္တပိဋကေ စတသော သင်္ဂီတိယော၊ တာသု ပဌမံ ကတာရ သင်္ဂီတိန္တိ။ ဒီဃာဂမတိ" အနေတ္တိ။ (ဒီဋ္ဌ၊၁။၁၄)။ သုတ္တန် ပိဋက၌ သင်္ဂီတိ(နိကာယ်)၄-မျိုးဟု ဤ၌ဆိုသော်လည်း ပါဠိတော်ကို နိကာယ်အားဖြင့် ခွဲဝေသောအခါ နိကာယ် ၅-ပါး ဖြစ်လာသည်ကိုလည်း သတိပြုအပ်သည်။ ပဌမသင်္ဂါယနာတင်ပုံအစီအစဉ်ကိုပြသော သီလက္ခန် အဋ္ဌကထာ (၁၈)၌ ခုဒ္ဒကပါဠိ စမ္မပဒ-စသည်ကို ခုဒ္ဒကနိကာယ်ဟု မသတ်မှတ်ပဲ ခုဒ္ဒကဂန္ထဟူသော သတ်မှတ် ချက်ပြုသည်ကို တွေ့ရသည်။

## နိဒါန်း

သံယုတ္တနိကာယ်၌ —

(၁) သဂါထာဝဂ္ဂသံယုတ် (၂) နိဒါနဝဂ္ဂသံယုတ်
(၃) ခန္ဓဝဂ္ဂသံယုတ် (၄) သဠာယတနဝဂ္ဂသံယုတ်
(၅) မဟာဝဂ္ဂသံယုတ် ဟု ၅-ကျမ်း,

အင်္ဂုတ္တရနိကာယ်၌—

(၁) ဧကကနိပါတ (၂) ဒုကနိပါတ
(၃) တိကနိပါတ (၄) စတုက္ကနိပါတ
(၅) ပဉ္စကနိပါတ (၆) ဆက္ကနိပါတ
(၇) သတ္တကနိပါတ (၈) အဋ္ဌကနိပါတ
(၉) နဝကနိပါတ (၁၀) ဒသကနိပါတ
(၁၁) ဧကာဒသကနိပါတ ဟု ၁၁-ကျမ်း,

ခုဒ္ဒကနိကာယ်၌—

(၁) ခုဒ္ဒကပါဌ (၂) ဓမ္မပဒ
(၃) ဥဒါန်း (၄) ဣတိဝုတ်
(၅) သုတ္တနိပါတ် (၆) ဝိမာနဝတ္ထု
(၇) ပေတဝတ္ထု (၈) ထေရဂါထာ
(၉) ထေရီဂါထာ (၁၀) ဇာတ်
(၁၁) နိဒ္ဒေသ (၁၂) ပဋိသမ္ဘိဒါ
(၁၃) အပဒါန် (၁၄) ဗုဒ္ဓဝံသ
(၁၅) စရိယာပိဋက ဟု ၁၅-ကျမ်း အသီးအသီးရှိလေသည်[၁]။

အဘိဓမ္မာပိဋကတ်၌ကား—

(၁) ဓမ္မသင်္ဂဏီ (၂) ဝိဘင်း
(၃) ဓာတုကထာ (၄) ပုဂ္ဂလပညတ်
(၅) ကထာဝတ္ထု (၆) ယမိုက်
(၇) ပဋ္ဌာန်း ဟု ၇-ကျမ်း ရှိလေသည်။

ယင်း ပိဋကတ် ၃-ပုံကိုပင် နိကာယ်အားဖြင့် ရေတွက်သောအခါ သုတ္တန်ပိဋကသည် ဆိုခဲ့ပြီး နိကာယ် ၅-ရပ်၌ အကျုံးဝင်၍ ဝိနည်းပိဋကနှင့် အဘိဓမ္မာပိဋကတို့သည် ခုဒ္ဒကနိကာယ်၌ အကျုံးဝင်ကြသည်[၂]။

---

၁။ ဤစာရင်းမှာ အင်္ဂုတ္တရာနိဒါန်းတို့၌ လာသည့်အတိုင်းဖြစ်သည်၊ ပဉ္စမသင်္ဂါယနာ၊ ဆဋ္ဌသင်္ဂါယနာတို့၌ သင်္ဂါယနာတင်သည့်အတိုင်း ရေတွက်မူ နေတ္တိ၊ ပေဋကောပဒေသ၊ မိလိန္ဒပဉှာတို့ကိုပါ ထည့်၍ ၁၈-ကျမ်းဖြစ်သည်။ နောက်၌ ထင်ရှားလတ္တံ့။

၂။ ကတမော ခုဒ္ဒကနိကာယော။ သကလံ ဝိနယပိဋကံ အဘိဓမ္မပိဋကံ ခုဒ္ဒကပါဌာဒယော စ ပုဗ္ဗေ ဒဿိတာ ပဉ္စဒသဘေဒါ၊ ဌပေတွာ စတ္တာရော နိကာယေ အဝသေသံ ဗုဒ္ဓဝစနန္တိ။ (ဝိဋ္ဌ၊၁။၂၂။ ဒီဋ္ဌ၊၁။၂၄။ အဘိဋ္ဌ၊၁။၂၆။)

နိကာယ် ၅-ရပ်, ပိဋကတ် ၃-ပုံ ဟူသော ပါဠိတော်ကိုပင် အင်္ဂါအားဖြင့် ရေတွက်သော် –

( ၁ ) သုတ်　　　　　( ၂ ) ဂေယျ
( ၃ ) ဝေယျာကရိုဏ်း　　( ၄ ) ဂါထာ
( ၅ ) ဥဒါန်း　　　　　( ၆ ) ဣတိဝုတ်
( ၇ ) ဇာတ်　　　　　( ၈ ) အဗ္ဘုတဓမ္မ
( ၉ ) ဝေဒလ္လ ဟု ၉-တန် ဖြစ်ပြန်သည်[၁]။

ဓမ္မက္ခန္ဓာအားဖြင့်သော်ကား —

ဒွါသီတိ ဗုဒ္ဓတော ဂဏှိံ၊ ဒွေ သဟဿာနိ ဘိက္ခုတော။
စတုရာသီတိ သဟဿာနိ၊ ယေ မေ ဓမ္မာ ပဝတ္တိနော[၂] —

ဟူသော အာနန္ဒထေရဂါထာနှင့်အညီ ရှစ်သောင်းလေးထောင် မြားမြောင်ကျယ်ဝန်းလှပေသည်[၃]။

ဤသို့လျှင် သာမုက္ကံသိက ဟူသော ဗုဒ္ဓဝစနကိုပင် ရသအားဖြင့် ၁-မျိုး, ဓမ္မဝိနယအားဖြင့် ၂-မျိုး, ဝစနအားဖြင့် ၃-မျိုး, ထို့အတူ ပိဋကအားဖြင့် ၃-မျိုး, နိကာယ်အားဖြင့် ၅-မျိုး, ဓမ္မက္ခန္ဓာအားဖြင့် ၈၄၀၀၀-ဟူ၍ ပဌမသင်္ဂါယနာတင်ပွဲ၌ အရှင်မဟာကဿပ အမှူးရှိသော ငါးရာသော ရဟန္တာထေရ်အရှင်တို့ အသီးအသီး ပိုင်းခြား သတ်မှတ်၍ သင်္ဂါယနာတင်တော်မူခဲ့ကြခြင်း ဖြစ်ပေသည်။

သို့ရာတွင် ပိဋကတ်တော်၌ ပဌမသင်္ဂါယနာတင်ပွဲ၏ နောက်မှ ထည့်သွင်းထားသော စကားရပ်များ, သုတ်များ, ကျမ်းဂန်များကို အတော်များများပင် တွေ့ရပေသည်[၄]။ ဝိနည်း စူဠဝဂ္ဂပါဠိတော်၌ လာသော ပဌမသင်္ဂါယနာတင်အကြောင်းကို ပြသည့် ပဉ္စသတိကက္ခန္ဓကနှင့် ဒုတိယ-

---

၁။ ဤ သုတ်, ဂေယျစသည်တို့၏ အဓိပ္ပါယ်ကို အင်္ဂကထာနိဒါန်းတို့မှာ ကြည့်။　　၂။ ထေရ။၃၄၇။

၃။ ဓမ္မက္ခန္ဓာ ရေတွက်နည်းကို ဒီ။ဋ္ဌ။၁။၂၅- နှင့် ၎င်းဋီကာတို့မှာ ကြည့်။ ဝိနည်းပိဋကတ်၌ ဓမ္မက္ခန္ဓာ ၂၁၀၀၀, သုတ္တန်ပိဋကတ်၌ ဓမ္မက္ခန္ဓာ ၂၁၀၀၀, အဘိဓမ္မာပိဋကတ်၌ ဓမ္မက္ခန္ဓာ ၄၂၀၀၀ ရှိကြောင်းကိုလည်း ထိုထိုကျမ်းငယ်တို့၌ ဆိုကြသည်၊ ပိဋကတ်တော်သမိုင်း (နှာ-၃၀၈-၉)ကြည့်၊ ဤဓမ္မက္ခန္ဓာ ရှစ်သောင်းလေးထောင် ဟူသော စကားလည်း အထက်ပါ ဒွါသီတိ-စသော ဂါထာ အရသာ ပြဆိုခြင်း ဖြစ်သည်၊ ကထာဝတ္ထု, မဓုရသုတ် စသော နောက်ပေါ်ကျမ်းများကိုပါ ထည့်သွင်း ရေတွက်လျှင် ရှစ်သောင်းလေးထောင်ထက် ပင် ပိုသေးသည်။ (ဓံ ပရိဒီပိတဓမ္မက္ခန္ဓဝသေနာတိ) ဣမိနာ ဓံ တေန အပရိဒီပိတာပိ ဓမ္မက္ခန္ဓာ သန္တီတိ ပကာသေတိ၊ တသ္မာ ကထာဝတ္ထုပကရဏမဓုရိယသုတ္တာဒီနံ ဝိမာနဝတ္ထုဒီသု ကောသည်ဥ ဂါထာနဥ ဝသေန စတုရာသီတိသဟဿတော ဝိ ဓမ္မက္ခန္ဓာနံ အဓိကတာ ဝေဒိတဗ္ဗာ။ (သာရတ္ထ၊၁။၁၃၃။)

၄။ ပါဠိတော်တို့၌ နောက်မှ ထည့်သွင်းအပ်သော စကားရပ်များ ရှိသော်လည်း ယင်းသို့ ရှိခြင်းသည် ပါဠိတော်၏ ကေဝလပရိပုဏ္ဏ-ဟူသော ဂုဏ်ကို မထိခိုက်ပေ။ မှန်၏၊ ဘုရားရှင်၏ တရားတော်သည် ကေဝလ-ပရိပုဏ္ဏ ဖြစ်သည်, ဝါ တစုံတရာထည့်စွက်ဖွယ် မရှိ, အလုံးစုံ ပြည့်စုံသည်ဟု ဆိုရာဝယ် ဘုရားရှင်၏ သစ္စာ ၄-ပါး တရားတော်, မဂ္ဂင်ရှစ်ပါးတရားတော် စသည်တို့ဝယ် သစ္စာတပါး တိုး၍ သစ္စာ ၅-ပါးဟူ၍၎င်း, မဂ္ဂင်တပါး တိုး၍ မဂ္ဂင် ၉-ပါးဟူ၍၎င်း ဤသို့ စသည်ဖြင့် ထည့်စွက်စရာ မရှိ၊ သစ္စာ ၄-ပါး, မဂ္ဂင်ရှစ်ပါး ဟူသော တရားတော်တို့သည် ထက်ဝန်းကျင်မှ ပြည့်စုံပြီး ဖြစ်သည်၊ မည်သူတစုံတဦးတယောက်မျှ ယင်းတရားတို့ကို ဖြည့်စွက်နိုင်စွမ်းမရှိဟု ဆိုလိုရင်း ဖြစ်ပေသည်။

သင်္ဂါယနာတင်အကြောင်းကို ပြသော သတ္တသတိကက္ခန္ဓကတို့သည် ပဥ္စမသင်္ဂါယနာတင်စဉ်က မပါဝင်နိုင်ခဲ့ကြပေ၊ နောင် ဒုတိယ၊ တတိယ သင်္ဂါယနာတင်သောအခါတို့ကျမှသာ သင်္ဂါယနာတင် မထေရ်တို့က ထည့်သွင်းထားခြင်းဖြစ်ကြောင်း ထင်ရှားသည်။

မှန်ပေသည်၊ သင်္ဂါယနာတင် မထေရ်အဆက်ဆက်တို့သည် ဘုရားရှင် ပရိနိဗ္ဗာန်စံပြီးနောက်၌ ထိုထိုသာဝကတို့ ဟောသောသုတ်များကိုလည်း ဘုရားရှင်ဟောတော်မူအပ်သောနည်း၌ တည်လျက် ဟောအပ်သည်ဖြစ်၍ ဘုရားစကားတော်ပင် မည်သောကြောင့် ပါဠိတော်၌ ထည့်သွင်း၍ သင်္ဂါယနာတင်ရိုး ပြုတော်မူကြသည်ကို ထိုထိုကျမ်းဂန်တို့တွင် တွေ့ရှိနိုင်ပေသည်။

သီလက္ခန်ပါဠိတော်လာ သုဘသုတ်[1]၊ သုတ်မဟာဝါပါဠိတော်လာ ပါယာသိရာဇညသုတ်၊ ဥပရိပဏ္ဏာသပါဠိတော်လာ ဂေါပကမောဂ္ဂလ္လာနသုတ်[1]တို့သည် ဘုရားရှင်ပရိနိဗ္ဗာန်စံတော်မူပြီး မကြာမီ အရှင်အာနန္ဒာစသော သာဝကကြီးတို့ ဟောသောသုတ်များ ဖြစ်ပေသည်၊ ထို့အတူပင် ဝိမာနဝတ္ထုပါဠိတော်လာ မလ္လိကာဝိမာန၊ ဝိသာလက္ခိဝိမာန၊ ပီတဝိမာန၊ ရှင်ရဋ္ဌပါလဝိမာန၊ ဥတ္တရ-(ပါယာသိ)ဝိမာနဝတ္ထုတို့သည်လည်း ဘုရားရှင်ပရိနိဗ္ဗာန်စံပြီးနောက်မှ ဖြစ်ပေါ်ခဲ့ကြ၍ ပဥ္စမ-သင်္ဂါယနာတင်စဉ်အခါ၌ သင်္ဂါယနာတင်မထေရ်တို့ ထည့်သွင်းခဲ့သော ပါဠိများပင် ဖြစ်ပေသည်။

မည်သည့်အချိန်မှာဟောသည်ဟု အတိအကျပြဆိုချက်မပါသော်လည်း ဘုရားရှင်ပရိနိဗ္ဗာန်စံပြီး အတော်ကြာမှ ဟောသည်ဟု ယူဆနိုင်သောသုတ်တို့လည်း ရှိပေသေးသည်။ ၎င်းတို့ကား မဇ္ဈိမ-ပဏ္ဏာသပါဠိတော်လာ မဓုရသုတ်နှင့် ဃောဋမုခသုတ်တို့ဖြစ်ပေသည်။ ယင်းသုတ်တို့တွင် သုဘသုတ်၊ ဂေါပကမောဂ္ဂလ္လာနသုတ်တို့မှာကဲ့သို့ "အစိရပရိနိဗ္ဗုတေ ဘဂဝတိ" ဟု မပါသည်ကို ထောက်လျှင် ဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီး အတော်ကြာမှ ဟောသောသုတ်များဟု မှတ်ယူရပေမည်။ သို့မှတ်ယူလျှင် ယင်းသုတ်များသည် ပဥ္စမသင်္ဂါယနာတင်စဉ်က မပါဝင်ပဲ ဒုတိယသင်္ဂါယနာတင် စသည်တို့မှသာ ထည့်သွင်းသင်္ဂါယနာတင်ခဲ့သော သုတ်များဟု မှတ်ယူနိုင်ပေတော့သည်။

ပဥ္စမသင်္ဂါယနာတွင် ကျန်မပါဟုဆိုနိုင်သော သုတ်တသုတ်ကိုလည်း တွေ့ရသေး၏၊ ထိုသုတ်ကား ဥပရိပဏ္ဏာသပါဠိတော်လာ ဗာကုလသုတ်ပင် ဖြစ်ပေသည်။ ဗာကုလမထေရ်သည် လူ့ဘောင်၌ အသက်-၈၀၊ ရဟန်းဘောင်၌ ဝါတော်-၈၀ ဤသို့အားဖြင့် အသက်-၁၆၀ ရှည်တော်မူသည်[2]၊ အသက်-၈၀ ပြည့်သည့်နှစ်၌ ရဟန်းပြု၍ ၈-ရက်မြောက်နေ့၌ ရဟန္တာအဖြစ်သို့ ရောက်သည်၊ ယင်းသို့ ဖြစ်ခြင်းကား ဓမ္မစကြာတရားဟောအပြီး အစဉ်သဖြင့် ဒေသစာရီ ကြွချီတော်မူရာ ကောသမ္ဗီပြည်[3]သို့ ဆိုက်ရောက်တော်မူသော ဘုရားရှင်ထံ ဆည်းကပ်၍ တရားတော်ကိုနာရသောကြောင့် ဖြစ်သည်[4]၊ ရဟန်းဘောင်တွင် ဝါတော်-၈၀ သိတင်းသုံး၍ လူ့ဘောင်က ရောင်းရင်းဖက် (မိတ်ဆွေ) ဖြစ်ခဲ့သော အစေလကဿပခေါ် တက္ကတွန်းရဟန်းကို တရားဟောချေချွတ်ပြီးနောက်မှ ပရိနိဗ္ဗာန်ပြုသည်[5]၊ ဤဆိုခဲ့သည့် အကြောင်းခြင်းရာကို ထောက်ဆသော် အရှင်ဗာကုလ၏ ရဟန်းဖြစ်ရာ

---

၁။ သုဘသုတ် ပဥ္စမသင်္ဂါယနာတင်၌ ပါ-မပါဟူသော ပြဿနာ၏ဖြေရှင်းချက်ကို ဒီဋ္ဌ၊၁။၂၅၆။ သာရတ္ထ၊ ၁။၆၇။ သီဋီ၊သစ်၊၁။၈၈-တို့၌ အကျယ်ပြထားသည်။ သုဘသုတ်နှင့် ဂေါပကမောဂ္ဂလ္လာနသုတ်တို့ ဓမ္မက္ခန္ဓာ ၈၄၀၀၀-၌ ဝင်-မဝင်ပြဿနာကိုလည်း သာရတ္ထ၊၁။၁၀၄။ သီဋီ၊သစ်၊၁။၁၃၃-၄-တို့၌ ဖြေရှင်းထားသည်။

၂။ ဒီဋ္ဌ၊၂။၆။ ၃။ မဇ္ဈိမဘာဏကတို့အလို ဗာကုလထေရ်။ အံဋ္ဌ၊၁။၂၄၀။

၄။ အံဋ္ဌ၊၁။ ၂၄၀။ မဋ္ဌ၊၄။၁၃၇။ ၅။ မ၃။၁၆၆-၈။

ကာလကို အစောဆုံးအားဖြင့် ဘုရားရှင် ဘုရားအဖြစ် ရောက်တော်မူသည့်နှစ်မှာ ထားဘိဦး ဘုရားရှင်သည် ဝါတော် ၄၅-၌ ပရိနိဗ္ဗာန်စံတော်မူရာ အရှင်ဗာကုလ၏ ပရိနိဗ္ဗာန်ပြုသည့်နှစ်မှာ ဘုရားရှင်ပရိနိဗ္ဗာန်စံတော်မူပြီးနောက် ၃၅-နှစ် သို့မဟုတ် ၃၆-နှစ် ဖြစ်ပေမည်။ ထိုအခါမှ ဖြစ်ပေါ်ခဲ့သော အဖြစ်အပျက်ကို မှတ်တမ်းတင်ထားသည့် ဗာကုလသုတ်သည် ပဌမသင်္ဂါယနာတင်တွင် မပါဝင်နိုင်သည်မှာ အလွန်ပင် ထင်ရှားနေပေပြီ။ သို့ဖြစ်ရကား ဗာကုလသုတ်ကို ဒုတိယ-သင်္ဂါယနာတင်မှာမှ ထည့်သွင်း၍ သင်္ဂါယနာတင်ခဲ့သည်ဟု မှတ်ယူရပေမည်။

ထို့အတူပင် ပေတဝတ္ထုပါဠိတော်လာ ဥတ္တရမာတုပေတိဝတ္ထုသည်လည်း ပဌမသင်္ဂါယနာတင်ပြီးနောက်မှဖြစ်ပေါ်သောအဖြစ်အပျက်ကို ပြဆိုထားသော ဝတ္ထုပင်ဖြစ်ပေသည်။ ၎င်းဝတ္ထုကို ဒုတိယ-သင်္ဂါယနာတင်ကျမှ ထည့်သွင်းကြောင်းကို ပေတဝတ္ထုအဋ္ဌကထာ၌[၁] ထင်ရှားစွာပင် ပြဆိုလျက် ရှိလေသည်။

ဒုတိယသင်္ဂါယနာတင်ပြီးနောက်မှ ဖြစ်ပေါ်လာသော အဖြစ်အပျက်ကိုလည်း ပေတဝတ္ထု-ပါဠိတော်တွင် တွေ့ရသေးသည်၊ ယင်းကား နန္ဒကပေတဝတ္ထုပင် ဖြစ်သည်။ ၎င်းအဖြစ်အပျက်သည် ဘုရားရှင်ပရိနိဗ္ဗာန်စံပြီးနောက် အနှစ် ၂၀၀-ကျော် အသောကမင်းလက်ထက်၌ ဖြစ်ခဲ့ပေရာ တတိယ-သင်္ဂါယနာမတင်မီဖြစ်၍ ဤဝတ္ထုကို တတိယသင်္ဂါယနာတွင် ထည့်သွင်းခဲ့ကြောင်း၊ ၎င်းအဋ္ဌကထာအရ သိရပေသည်[၂]။

အထက်ပါ အဖြစ်အပျက်မျိုး ဝါ- အကြောင်းခြင်းရာမျိုးနှင့် မရွေ့မနှောင်းဖြစ်သော အဖြစ်အပျက်တခုကိုလည်း ထေရဂါထာတွင် တွေ့ရပြန်သည်။ ယင်းကား အခြားမဟုတ် အသောကမင်းကြီး၏ ညီတော် တိဿမင်းသားအကြောင်းပင် ဖြစ်သည်။ ၎င်းထေရဂါထာအဖွင့်၌ တိဿမင်းသား ရဟန်းပြုကြောင်း, သို့ရဟန်းပြုပြီးနောက် ပဋိပတ်အားထုတ်ကြောင်းနှင့် ပရိနိဗ္ဗာန်စံကြောင်းအထိ ပြဆိုထားသည်ကို တွေ့ရပေသည်[၃]၊ ယင်းသို့ဖြစ်ရကား ညီတော်တိဿမထေရ်၏ အကြောင်းကိုပြဆိုသော ဂါထာများသည် ပဌမ, ဒုတိယ သင်္ဂါယနာတင်တို့တွင် မပါဝင်ခဲ့ပဲ တတိယ-သင်္ဂါယနာတင်မှဖြစ်စေ, ထို၏နောက်မှဖြစ်စေ ထည့်သွင်းထားသော ဂါထာများဖြစ်ကြောင်း ထင်ရှားပေသည်။

ကထာဝတ္ထုကျမ်းသည်လည်း ပဌမသင်္ဂါယနာတင် အဘိဓမ္မာကျမ်းများစာရင်းတွင် ပါဝင်သော်လည်း အဋ္ဌကထာများအဆိုအရ[၄] ထိုစဉ်က မာတိကာအကျဉ်းမျှသာ ရှိခဲ့သည်၊ နောင်အခါ အသောကမင်းတရားလက်ထက် တတိယသင်္ဂါယနာတင်ခါနီးအခါမှာမှ အရှင်မဟာမောဂ္ဂလိ-ပုတ္တတိဿမထေရ် ဟောခဲ့သောကျမ်း ဖြစ်လေသည်။

ဤကား အရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာတို့၌ ဖော်ပြထားသော သင်္ဂါယနာသုံးတန်စာရင်းတွင် ပါဝင်သော ပါဠိတော်တို့၌ လေ့လာစိစစ်ချက်တည်း။

အဆိုပါ သင်္ဂါယနာသုံးတန်စာရင်းတွင် မပါဝင်သော်လည်း ပါဠိတော်စာရင်းဝင်အဖြစ် ရှေးမထေရ်အဆက်ဆက်တို့ သတ်မှတ်လက်ခံ၍ ပါဠိတော်၌ထည့်သွင်းထားသောကျမ်းများလည်း ရှိသေးသည်။ ထိုကျမ်းတို့ကား နေတ္တိ, ပေဋကောပဒေသနှင့် မိလိန္ဒပဉှာကျမ်းတို့ ဖြစ်ပေသည်။

---

၁။ စာမျက်နှာ ၁၃၅။ ၂။ စာမျက်နှာ ၂၃၉။
၃။ ထေရ၊ဋ္ဌ၊ ၂။ ၁၂၄-၈။ ၄။ အဘိ၊ဋ္ဌ၊၁၊ ၄၆။ အဘိ၊ဋ္ဌ၊၃၊ ၁၁၅-၁၁၁။ ဝိ၊ဋ္ဌ၊၁၊ ၄၆။

ထို ၃-ကျမ်းတို့တွင် နေတ္တိကျမ်းနှင့်ပတ်သက်၍ နေတ္တိအဋ္ဌကထာ၌[1] ဆိုလတ္တံ့သောအတိုင်း ဖြေရှင်းထားသည်ကို တွေ့ရသည်။

"ဤနေတ္တိကျမ်းကို မဟာသာဝက (အရှင်မဟာကစ္စာယန) ဟောအပ်၍ ဘုရားရှင် အနုမောဒနာပြုအပ်၏"ဟု အဘယ်သို့သိသနည်း ? ဟူမူ ပါဠိအားဖြင့်ပင် သိသည်၊ထိုစကား မှန်၏၊ ပါဠိတော်ထက် သာ၍ ပမာဏမြောက်သော အခြားကျမ်းမည်သည် မရှိပေ၊ မဟာ-ပဒေသ ၄-ပါးတို့နှင့် မဆန့်ကျင်သော အကြင်ပါဠိသည် ရှိ၏၊ ထိုပါဠိသည် ပမာဏမြောက်ပေသည် မှန်၏၊ မကွဲရှဲအပ်သော ဆရာစဉ် အဆက်ဆက်သည် ပေဋကောပဒေသကဲ့သို့ ဤနေတ္တိကျမ်းကို ဆောင်ခဲ့သည်၊ ယင်းသို့ဖြစ်လျှင် အဘယ့်ကြောင့် နေတ္တိကျမ်း၌ နိဒါန်းကို မဟောအပ်သနည်း ? သာဝကဘာသိတဖြစ်သော သုဘာသုတ်၊ အနင်္ဂဏသုတ်၊ ကစ္စာယန-သံယုတ် စသည်တို့၏ နိဒါန်းကို ဟောအပ်သည်မဟုတ်လော ? ဟူမူ ဤနိဒါန်းကိုဟောခြင်း မဟောခြင်းသည် ကေန္ဒြက မဟုတ်ပေ၊ အကြောင်းကား သာဝကဘာသိတဖြစ်သော ပဋိသမ္ဘိဒါမဂ်၊ နိဒ္ဒေသစသည်တို့၏၎င်း၊ ဗုဒ္ဓဘာသိတတို့တွင် ဓမ္မပဒ၊ ဗုဒ္ဓဝံသ စသည်တို့၏၎င်း နိဒါန်းကိုမဟောအပ်သောကြောင့်ဖြစ်ပေသည်၊ နိဒါန်းမပါသောကြောင့်လည်း ယင်းကျမ်းတို့ ပမာဏမမြောက် မဟုတ်ကြပေ၊ ထို့အတူပင် ဤနေတ္တိကျမ်း၌လည်း မှတ်အပ်၏၊

တနည်းလည်း — ပါဠိတော်၏အနက်ကို ဖွင့်ပြရာကျမ်းဖြစ်သောကြောင့် ဤနေတ္တိကျမ်း၏ နိဒါန်းကို သီးခြားဆိုဖွယ် မလိုတော့ပေ၊ ပဋိသမ္ဘိဒါမဂ်၊ နိဒ္ဒေသ စသည်တို့၏ နိဒါန်းကို ဆိုဖွယ်မလိုသကဲ့သို့တည်း၊ ဤသို့ မှတ်အပ်၏"။

၎င်းပြင် နေတ္တိကျမ်း၏အဆုံး၌ "ဧတ္တာဝတာ သမတ္တာ နေတ္တိ ယာ အာယသ္မတာ မဟာကစ္စာ-ယနေန ဘာသိတာ ဘဂဝတာ အနုမောဒိတာ မူလသင်္ဂီတိယံ သင်္ဂီတာတိ"ဟု လာရှိသော နိဂုံး ဝါကျကို ထောက်လျှင် ဤနေတ္တိကျမ်းကို မူလ(ပဌမ)သင်္ဂါယနာ၌ သင်္ဂါယနာတင်အပ်သည်ဟု မှတ်ယူဖွယ်ရှိပြန်သည်။

ယင်းသို့ပင် ပါဠိတော်နိဂုံးဝါကျနှင့် နေတ္တိအဋ္ဌကထာဆရာ အရှင်ဓမ္မပါလ မထေရ်တို့က ဆိုသော်လည်း နေတ္တိကျမ်းနှင့်ပတ်သက်၍ ဆင်ခြင်ဖွယ်အချက်များကား မရှိမဟုတ် ရှိကြသည်သာ။ နေတ္တိကျမ်းကဲ့သို့ ထင်ရှားသောကျမ်းကို မဟာသာဝက အရှင်မဟာကစ္စာယနမထေရ် ဟောသည် ဖြစ်ခဲ့လျှင် ထိုမထေရ်၏ အဋ္ဌုပ္ပတ္တိကို ပြဆိုသော ပမာဏအမြောက်ဆုံးဖြစ်သည့် အင်္ဂုတ္တိုရ် အဋ္ဌကထာ၌ ပြဆိုသင့်ပါလျက် ယင်းကို မပြဆိုခဲ့ခြင်း၊ ပဌမသင်္ဂါယနာ၌ သင်္ဂါယနာတင်အပ် သည်မှန်လျှင် အရှင်မဟာဗုဒ္ဓဃောသသုတ်ပြသော ပဌမသင်္ဂါယနာဝင်ကျမ်းများ၌ ပါဝင်သင့်ပါ လျက် မပါဝင်ခဲ့ခြင်း၊ အဋ္ဌသာလိနီအဋ္ဌကထာနိဒါန်းဝယ် ကထာဝတ္ထုကျမ်းကို သာဝကဘာသိတဖြစ် သော်လည်း ဘုရားဟောနှင့်တစ္စာ လေးစားထိုက်သည်ကို ပြရာ၌ ဤနေတ္တိကျမ်းကို ဥဒါဟရဏ် အဖြစ် ထုတ်ပြထိုက်ပါလျက် ဤကျမ်းကိုအတိမပြပဲ မဓုပိဏ္ဍိကသုတ်ကို ထုတ်ပြခဲ့ခြင်း[2] စသည်တို့ကို ဆင်ခြင်ထောက်ထားလျှင် နေတ္တိကျမ်းကို[3] မဟာသာဝက အရှင်မဟာကစ္စာယနမထေရ် ဟော၍ ဘုရားရှင် အနုမောဒနာပြုသည်ဟူ၍၎င်း၊ ပဌမသင်္ဂါယနာ၌ ယင်းကျမ်း ပါဝင်သည်ဟူ၍၎င်း အဋ္ဌကထာ ဆရာ အရှင်မဟာဗုဒ္ဓဃောသမထေရ် ယူဆဟန် မရှိပေ။

သို့ပင်ဖြစ်သော်လည်း နေတ္တိကျမ်းသည် အဋ္ဌကထာဆရာ အရှင်မဟာဗုဒ္ဓဃောသခေတ် မတိုင် မီက ပေါ်ရှိခဲ့သည်မှာကား ထင်ရှားပေသည်၊ အကြောင်းကား ပါရာဇိကဏ်အဋ္ဌကထာ ဝေရဉ္ဇ-

---

၁။ စာမျက်နှာ ၃-၄။ ၂။ စာမျက်နှာ ၅-၆။

၃။ "ယခုအခါ တွေ့မြင်အပ်သည့်အတိုင်း အပြည့်အစုံဖြစ်သော နေတ္တိကျမ်းကို"ဟု ဆိုလိုသည်။

ကစ္စာယယ် သာတ္ထုံ့သဗျာနံ-ပုဒ်တို့ကိုဖွင့်ရာ၌[၁] နေတ္တိကျမ်းလာ အတ္ထပဒ ၆-ပါး၊ ဗျဉ္ဇနပဒ ၆-ပါးတို့ကို ၎င်း၊ မူလပဏ္ဏာသအဋ္ဌကထာ မူလပရိယာယသုတ် အဖွင့်(၃၂)၌ နေတ္တိကျမ်းလာ ဂါထာနှင့်တကွ လက္ခဏဟာရကို၎င်း ယူ၍ ဖွင့်ဆိုထားသည်ကို တွေ့ရသောကြောင့်တည်း။

ယင်းသို့ အရှင်မဟာဗုဒ္ဓဃောသခေတ် မတိုင်မီက ရှိခဲ့သော်လည်း နေတ္တိကျမ်းကို မဟာသာဝက အရှင်မဟာကစ္စာယနမထေရ် ဟော၍ ဘုရားရှင်က အနုမောဒနာပြုပြီး ပဌမသင်္ဂါယနာ၌ သင်္ဂါ-ယနာတင်ခဲ့သည်ဟူသော အယူအဆကို မည်သည့်အချိန်က ပေါ်ပေါက်ခဲ့သည်ဟု အတိအကျဖော်ပြရန်ကား မဖြစ်နိုင်ပေ၊ အရှင်မဟာဗုဒ္ဓဃောသခေတ်၏နောက် အရှင်ဓမ္မပါလမပေါ်မီ ခေတ်အတွင်း တချိန်ချိန်မှာ ထိုအယူအဆ ပေါ်ပေါက်လာသည်ဟုသာ မှတ်ယူအပ်ပေသည်။

"မူလသင်္ဂီတိယံ သင်္ဂီတာ"ဟူသော နေတ္တိကျမ်းလာ နိဂုံးစကားနှင့် နေတ္တိအဋ္ဌကထာ၌ ရှင်းပြချက်တို့ကို အရှင်မဟာဗုဒ္ဓဃောသ၏ မိန့်ဆိုချက်နှင့် ညီညွတ်စေရန် ဤသို့လည်း နိုးနှော၍ ယူဆကြသေး၏။ ယူဆပုံကား— "အရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာတို့၌ သင်္ဂါယနာသုံးတန် စာရင်းဝင်ကျမ်းအဖြစ်ဖြင့် ဖော်ပြထားသော ၁၅-ကျမ်းတို့အနက် နိဒ္ဒေသကျမ်းကဲ့သို့ပင် ပါဠိတော်တို့၏ အဖွင့်ဖြစ်သောကြောင့် ဤနေတ္တိကျမ်းကို အသီးအခြား မပြတော့ဘဲ နိဒ္ဒေသကျမ်းကိုသာ နိဒဿနနည်းဖြင့် ပြတော်မူခဲ့သည်၊ သို့ဖြစ်၍ ဤနေတ္တိကျမ်းကိုလည်း နိဒ္ဒေသကျမ်းကဲ့သို့ပင် သင်္ဂါယနာသုံးတန်ဝင်ကျမ်းဟု မှတ်ယူရမည်"ဟူ၏။ ဤယူဆချက်ကို လက်ခံနိုင်လျှင်ကား အထူးစိစစ်ဖွယ် မရှိတော့ပြီ။

ပေဋကောပဒေသကျမ်းမှာလည်း မဟာသာဝက အရှင်မဟာကစ္စာယနမထေရ်ပင် ဟောကြောင်း ၎င်းကျမ်း နိဂုံးစကားများက ဆိုပေသည်[၂]။ ဤကျမ်းလည်း အဋ္ဌကထာတို့တွင် ဈာန်စကားအဖွင့်တို့၌ "ပေဋကေ"ဟု အကိုးပါရှိရာ[၃] ယင်း ပေဋက-အရ ဋီကာများဖွင့်သည့်အတိုင်း[၄] ပေဋကောပဒေသကို ယူရသောကြောင့် နေတ္တိကျမ်းအတူပင် အရှင်မဟာဗုဒ္ဓဃောသမတိုင်မီက ရှိခဲ့သောကျမ်းဖြစ်ကြောင်း မှတ်ယူအပ်ပေသည်။

မိလိန္ဒပဉှာကျမ်းသည်လည်း အလွန်နောက်ကျသောခေတ်မှ ပေါ်လာသောကျမ်းဖြစ်ပေသည်။ မျိုးဦးအံ့— "တေ ဥဘောပိ ဒေဝေသု စ မနုဿေသု စ သံသရန္တာ ဧကံ ဗုဒ္ဓန္တရံ ခေပေသုံ၊ အထ အမှာကံ ဘဂဝတာပိ 'ယထာ မောဂ္ဂလိပုတ္တတိဿတ္ထေရော ဒိဿတိ၊ ဝေမေတောပိ ဒိဿန္တိ မမ ပရိနိဗ္ဗာနတော ပဉ္စဝဿသတေ အတိက္ကန္တေ ဧတေ ဥပ္ပဇ္ဇိဿန္တိ၊ ယံ မယာ သုခုမံ ကတွာ ဒေသိတံ ဓမ္မဝိနယံ၊ တံ ဧတေ ပဉှပုစ္ဆနဩပမ္မယုတ္တိဝသေန နိဇ္ဇဋံ နိဂ္ဂုမ္ဗံ ကတွာ ဝိဘဇိဿန္တီ'တိ

---

၁။ စာမျက်နှာ ၉၉။

၂။ ပေဋကောပဒေသေ မဟာကစ္စာယနေန ဘာသိတေ.........။ (ပေဋကော၊ ၁၇၃)။ ထေရဿ မဟာကစ္စာယနဿ ပေဋကောပဒေသော။ (၎င်း။၃၂၈)။ ထေရဿ မဟာကစ္စာယနဿ ဇမ္ဗုဝနဝါသိနော ပေဋကောပဒေသော သမတ္တော။ (၎င်း။၃၄၁။)

၃။ ဝိသုဒ္ဓိ၊၁၁၄၊ အဘိ၊ဋ္ဌ၊၁၊ ၂၁၀။ ဝိသုဒ္ဓိ၊၁၊ ၁၃၇။

၄။ မဟာကစ္စာယနတ္ထေရေန ဒေသိတာ ပိဋကာနံ သံဝဏ္ဏနာ ပေဋကံ၊ တဒေဝ ပေဋကေ။ (ဝိသုဒ္ဓိ၊ ဋီ၊၁၊၁၆၅၊ သာရတ္ထ၊၁၊ ၃၈၅)။ ပေဋကောတိ မဟာကစ္စာယနတ္ထေရေန ကတံ နေတ္တိပ္ပကရဏဿ သာခိပကရဏံ၊ တံ ပန ပိဋကာနံ ဝဏ္ဏနာဘူတတ္တာ "ပေဋက"န္တိ ဝုတ္တံ။ (ဝိမတိ၊၁၊ ၃၂)။ ပါရာဇိကဏ်ကဏ္ဍဋ္ဌကထာ ၁၂၁၈-နှင့် နေတ္တိဋ္ဌ၊၁၊၄၇၊၄၈၊၂၈၀-တို့လည်း ကြည့်။

နိဒ္ဒိဋ္ဌာ”ဟူသော မိလိန္ဒပဉှာ(၃)လာ စကားအရ အရှင်နာဂသိန်နှင့် မိလိန္ဒဘုရင်တို့သည် မြတ်စွာဘုရားပရိနိဗ္ဗာန်ပြုပြီးနောက် အနှစ် ၅၀၀-ကျော်မှ ပေါ်ခဲ့ကြသော ပုဂ္ဂိုလ်ထူးတို့ဖြစ်ကြ၏၊ ၎င်းတို့၏ အဖြစ်အပျက်ပင် အနှစ်-၅၀၀ ကျော်လျှင် မိလိန္ဒပဉှာကျမ်းပေါ် ပေါက်ရာခေတ်မှာ ထို့ထက်ပင် နောက်ကျပေဦးမည်၊ သို့ဖြစ်၍ မိလိန္ဒပဉှာကျမ်းသည် ဝဋ္ဋဂါမဏိမင်းလက်ထက် ပိဋကတော်တို့ကို ပေထက်အက္ခရာ တင်ပြီးသည့်နောက်မှ[1] ပေါ်လာသောကျမ်း ဖြစ်သည် ဟု ကောက်ချက်သင့်ပေသည်။

ထိုသို့ နောက်ကျသောကာလမှ ပေါ်လာသောကျမ်းဖြစ်သော်လည်း မိလိန္ဒပဉှာကျမ်းသည် ဗုဒ္ဓဝါဒဆိုင်ရာ ခဲရာခဲဆစ်အဖုအထစ်သဖွယ်ဖြစ်သော အရာဌာနတို့ကို ဘုရားရှင်အလိုတော်ကျ ဖြေရှင်းပြသော ကျမ်းဖြစ်၍ ဘုရားဟောနှင့်မခြား အလားတူပင် အလေးပြုခြင်းကို ခံခဲ့ရပေသည်၊ အဋ္ဌကထာဆရာ အရှင်မဟာဗုဒ္ဓဃောသသည်လည်း မိမိ၏အဋ္ဌကထာတို့တွင် အရေးတကြီးဖြေရှင်းဖွယ်ရှိသော နေရာဌာနတို့၌ မိလိန္ဒပဉှာကျမ်းကိုပင် ထုတ်ဖော်ကိုးကား၍ ဖြေရှင်းခဲ့သည်များကို တွေ့ရပေသည်[2]။ ဤမိလိန္ဒပဉှာကျမ်း၏ နောက်၌ကား ပါဠိတော်ကဲ့သို့ အသိအမှတ်ပြုအပ်သည့်ကျမ်းများ မပေါ်ထွက်တော့ချေ၊ ပါဠိတော်စာပေခေတ်မှာ မိလိန္ဒပဉှာကျမ်းဖြင့် အဆုံးသတ် နိဂုံးချုပ်သွားသည်ဟုပင် ဆိုရပေမည်။

ဤသို့လျှင် ခုဒ္ဒကနိကာယ်ဝင် ပါဠိတော်အရေအတွက်မှာ အဋ္ဌကထာ၌ ပြအပ်သည့် ၁၅-ကျမ်းအပြင် နေတ္တိ, ပေဋကောပဒေသ, မိလိန္ဒပဉှာတို့ကိုပါ ပေါင်းထည့်၍ ၁၈-ကျမ်း ဖြစ်လာလေတော့သည်၊ ယင်း ၁၈-ကျမ်းကိုပင် သုတ္တန္တပိဋက ခုဒ္ဒကနိကာယ်ဝင် ပါဠိတော်အဖြစ်ဖြင့် သတ်မှတ်၍ ပဉ္စမသင်္ဂါယနာ, ဆဋ္ဌသင်္ဂါယနာတို့၌ သာသနာ့ဝန်ဆောင် ဆရာတော်တို့ သင်္ဂါယနာတင်တော်မူခဲ့ကြလေသည်။

အထက်၌ ဖော်ပြခဲ့သည့် ပါဠိတော်ကျမ်းတို့သည် သီဟိုဠ်ကျွန်းသို့ ရောက်မှ ပေထက်အက္ခရာတင်အဖြစ်သို့ ရောက်သော်လည်း ဇမ္ဗူဒိပ်ခေါ် ဣန္ဒိယပြည်၌ ဖြစ်ပေါ်ခဲ့ကြသော ကျမ်းဂန်များဖြစ်၍ ဣန္ဒိယပါဠိစာပေများပင် ဖြစ်ပေသည်။

---

၁။ ဤပေထက်အက္ခရာတင်ခြင်းကို “စတုတ္ထသင်္ဂါယနာ”ဟူသောအမည်ဖြင့် ရေးကျသော မှတ်တမ်းတို့၌ မှတ်တမ်းတင်သည်ကို မတွေ့ရပေ။

ပိဋကတ္တယပါဠိံ စ၊ တဿာ အဋ္ဌကထမ္ပိ စ။
မုခပါဌေန အာနေသုံ၊ ပုဗ္ဗေ ဘိက္ခူ မဟာမတီ။
ဟာနိံ ဒိသွာန သတ္တာနံ၊ တဒါ ဘိက္ခူ သမာဂတာ။
စိရဋ္ဌိတတ္ထံ ဓမ္မဿ၊ ပေါတ္ထကေသု လိခါပယုံ။ (ဒီပဝံသ။ ၂၀၊ ၂၁။ မဟာဝံသ။ ၃၃။ ၁၀၀၊ ၁၀၂။)

အရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာတို့၌လည်း သင်္ဂါယနာ ၃-တန်ကိုသာ ပြဆိုသည်ကို တွေ့ရသည်၊ ဝဇီရဗုဒ္ဓိဋီကာ (၅၄၃)၌ကား ပေါတ္ထကာရောဟိ မဟာထေရေဟိ တိဟတ္တဒိပေ မဟာထေရေဟိ ပေါတ္ထကဲ အာရောပိတကာလေ ဌပိတာတိ အဓိပ္ပါယော၊ “စတုတ္ထသင်္ဂီတိသဒိသာ ပေါတ္ထကာရုဠှသင်္ဂီတိ အဟောသိ”တိ ဝုတ္တံ-ဟု ဆိုသည်။ သာရတ္ထ (၁။ ၄၅၆)နှင့် ဝိမတိ (၂။ ၂၇၂) ဋီကာတို့၌လည်း အလားတူပင် ဆိုကြသည်။

၂။ ဝိ-ဋ္ဌ ၁။ ၁၉၅။ ဝိ-ဋ္ဌ ၂။ ၁၀၉။ ဒီ-ဋ္ဌ ၁။ ၂၄၆။ ဒီ-ဋ္ဌ ၃။ ၈၄။ မ-ဋ္ဌ ၁။ ၈၆။ မ-ဋ္ဌ ၂။ ၂၄၄၊ ၂၈၅။ မ-ဋ္ဌ ၃။ ၂၅၃။ သံ-ဋ္ဌ ၂။ ၂၉၊ ၂၇၁။ အံ-ဋ္ဌ ၁။ ၄၉၊ ၇၂၊ ၃၅၉၊ ၃၈၉။ အံ-ဋ္ဌ ၃။ ၇၂၊ ၁၈၂။ အဘိ-ဋ္ဌ ၁။ ၁၅၁၊ ၁၅၅၊ ၁၅၇၊ ၁၆၁၊ ၁၆၃၊ ၁၆၄၊ ၁၆၆၊ ၁၈၆။ သုတ္တနိ-ဋ္ဌ ၂။ ၁၇၃။

## သီဟိုဠ်နိုင်ငံ ပါဠိစာပေ

သီဟိုဠ်ကျွန်းသို့ ဗုဒ္ဓသာသနာရောက်ပြီးနောက်မှ ပေါ်လာသော သာသနာဆိုင်ရာကျမ်းဂန်တို့ကို ကား သီဟိုဠ်ပါဠိစာပေဟုပင် ခေါ်ရပေမည်၊ ၎င်း သီဟိုဠ်ပါဠိစာပေခေတ်ဆိုင်ရာ ကျမ်းဂန်တို့ကား အဋ္ဌကထာ, ဋီကာ, အနုဋီကာ-စသည်ဖြင့် များစွာ ရှိလေသည်။

၎င်းတို့တွင် အဋ္ဌကထာသည်[၁] မြတ်စွာဘုရားလက်ထက်ကပင် ရှိခဲ့သည်၊ သို့သော် အဋ္ဌကထာ ဟူသောအမည်ဖြင့် မထင်ရှားခဲ့ပဲ ပကိဏ္ဏကဒေသနာ=အထွေထွေတရားတော်ဟူသော အမည်ဖြင့် သာရှိခဲ့လေသည်၊ မြတ်စွာဘုရားသည် တရားတော်တို့ကို ဟောတော်မူပြီးနောက် ၎င်းတရားတော်တို့ တွင် ခဲခက်သောနေရာတို့၌ သိသာထင်ရှားစိမ့်သောငှါ ထပ်၍ ဖွင့်ပြလျက် အကျယ်ဟောတော်မူအပ် သည့် ဒေသနာမျိုးရှိခဲ့ရာ ယင်းဒေသနာသည် ပါဠိတော်ဟူသော အမည်တွင် မပါဝင်ပဲ သီးခြား ရှိနေခဲ့လေသည်၊ ထိုသီးခြားဒေသနာတော်ဖြစ်သည့်ပကိဏ္ဏကဒေသနာကိုလည်း သင်္ဂါယနာအဆက် ဆက်တွင် ထိပ်ခေါင်တင်မထေရ်တို့ သင်္ဂါယနာတင်၍ ဆောင်ယူခဲ့ကြလေသည်။

တတိယသင်္ဂါယနာတင်ပြီးနောက် အရှင်မဟိန္ဒမထေရ် သီဟိုဠ်ကျွန်းသို့ သာသနာပြုကြွသောအခါ သင်္ဂါယနာ ၃-တန်တင် ပါဠိတော်တို့နှင့်တကွ အဋ္ဌကထာဟု ခေါ်နိုင်သည့် ပကိဏ္ဏကဒေသနာ များကိုပါ ဆောင်ယူသွားတော်မူသည်၊ ၎င်းအဋ္ဌကထာတို့ သီဟိုဠ်ကျွန်းသို့ ရောက်ပြီးနောက် သီဟိုဠ်ကျွန်းသားတို့ အလွယ်တကူ သင်ယူနိုင်စိမ့်သောငှါ သာသနာ့ဝန်ဆောင် မထေရ်တို့က ယင်းပကိဏ္ဏကဒေသနာအဋ္ဌကထာများကို သီဟိုဠ်ဘာသာသို့ ပြန်ဆိုခဲ့ကြလေသည်၊ ထိုမှနောက် ကာလကြာမြင့်သောအခါ သီဟိုဠ်ဘာသာဖြင့် အဋ္ဌကထာအမျိုးမျိုးတို့ ပေါ်ပေါက်ခဲ့ပြန်လေသည်။ သီဟိုဠ်ဘာသာဖြင့်သာမက ဒမိဠ်(တမိဠ်)ယတောင်ပိုင်းဘာသာတို့ဖြင့် ရေးသားအပ်သော အဋ္ဌကထာတို့ လည်း ရှိပြန်လေသည်။ အရှင်မဟာဗုဒ္ဓဃောသသည် သီဟိုဠ်ကျွန်းသို့ ကြွရောက်ပြီးနောက် အဋ္ဌကထာသစ်များကို ပြုစုသောအခါ ၎င်းအဋ္ဌကထာများကိုပင် အမှီပြု၍ ရေးသားပြုစုခဲ့ခြင်း ဖြစ်လေသည်။

အရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာသစ်များ မပေါ်မီ ရှေးယခင်က ပေါ်နှင့်နေသော အဋ္ဌကထာတို့ကား၊ မဟာအဋ္ဌကထာ, မဟာပစ္စရိအဋ္ဌကထာ, စူဠပစ္စရိအဋ္ဌကထာ, ကုရုန္ဒီအဋ္ဌကထာ, အန္ဓကအဋ္ဌကထာ, အရိယအဋ္ဌကထာ, သင်္ခေပအဋ္ဌကထာ စသည်တို့ ဖြစ်လေသည်[၂]၊ ယင်းတို့တွင် လည်း မဟာဝိဟာရဝါသီ အရှင်တို့၏အယူကို အမှန်အတိုင်းထုတ်ဖော်ပြသည့် မဟာအဋ္ဌကထာသည် အရှင်မဟာဗုဒ္ဓဃောသ အလေးစားဆုံး အဋ္ဌကထာဖြစ်ပေသည်။ မိမိ၏ အဋ္ဌကထာသစ်များကို ပြုစုရာ၌ မဟာအဋ္ဌကထာကို အထည်ကိုယ်ပြု၍ အခြား မဟာပစ္စရိအဋ္ဌကထာစသည်တို့ကိုကား အကြောင်းအားလျော်စွာ ရံခါရံခါမှသာ ဖော်ပြရေးသားသည်ကို တွေ့ရပေသည်။

---

၁။ ဤအဘိဓာန် "အဋ္ဌကထာ"ပုဒ်ကိုလည်း ကြည့်။

၂။ သံဝဏ္ဏနံ တဉ္စ သမာရဘန္တော၊ တဿာ မဟာအဋ္ဌကထံ သရီရံ၊
ကတွာ မဟာပစ္စရိယံ တထေဝ၊ ကုရုန္ဒိနာမာဒိသု ဝိဿုတာသု။ (ဝိနည၊ ၁။ ၂။)
ဧတ္ထ အာဒိသဒ္ဒေန စူဠပစ္စရိအန္ဓကအရိယအဋ္ဌကထာပန္နဝါရာဒယော သင်္ဂဟိတာ။ (ဝဇိရ။ ၁၈)။ အာဒိသဒ္ဒေန အန္ဓကဋ္ဌကထံ သင်္ခေပဋ္ဌကထဉ္စ သင်္ဂဏှာတိ။ (သာရတ္ထ၊၁။ ၂၀။ ဝိမတိ၊၁။ ၆။)

၎င်းအဋ္ဌကထာတို့တွင် မဟာအဋ္ဌကထာ, မဟာပစ္စရီအဋ္ဌကထာ, ကုရုန္ဒီအဋ္ဌကထာဟူသော ဤအဋ္ဌကထာ ၃-စောင်ကို သီဟဠဋ္ဌကထာဟူ၍လည်း ခေါ်သည်[၁]။ ၎င်းတို့တွင် အရှင်မဟိန္ဒ ဆောင်ယူခဲ့သော မူလအဋ္ဌကထာကိုပင် မဟာအဋ္ဌကထာဟု ခေါ်သည်[၂]၊ မဟာပစ္စရီအဋ္ဌကထာကား ဖောင်ပေါ်၌နေလျက် ရေးသားပြုစုအပ်သော အဋ္ဌကထာဖြစ်သည်၊ ကုရုန္ဒီအဋ္ဌကထာကိုကား ကုရုန္ဒီဝလ္လိမည်သောကျောင်း၌ ရေးသားအပ်သောကြောင့် ယင်းသို့ခေါ် ဆိုအပ်လေသည်[၃]။ စူဠပစ္စရီ-အဋ္ဌကထာ, သင်္ခေပအဋ္ဌကထာတို့ကား အထက်ပါ အကျယ်ဖြစ်သောအဋ္ဌကထာတို့၏ အကျဉ်းချုပ်များပင် ဖြစ်ဟန်တူပေသည်။ အန္ဓကအဋ္ဌကထာဟူသည်မှာကား ဣန္ဒိယတောင်ပိုင်း ဘာသာတခုခုဖြင့် ရေးသားအပ်သော အဋ္ဌကထာဖြစ်ပေမည်[၄]။

ဖော်ပြခဲ့ပြီးသော အဋ္ဌကထာများအပြင် အရှင်မဟာဗုဒ္ဓဃောသသည် သီဟိုဠ်ကျွန်းဝယ် ပရိယတ်,ပဋိပတ်၌ ကျော်ကြားသော ထိုထိုမထေရ်တို့၏ အယူဝါဒများ, ထေရသလ္လာပခေါ် စာတတ်မထေရ်တို့၏ ဆွေးနွေးချက်များ[၅], ဇမ္ဗူဒိပ်၌ထင်ရှားသောမထေရ်(ပရသမုဒ္ဒဝါသီထေရ်)တို့၏ အယူအဆများ[၆], ရှေးရှေးဆရာတို့၏ အယူအဆများနှင့် ထိုထိုနိကာယ်ဆောင် ဘာဏကမထေရ်တို့၏ ဝါဒများကိုပါ ကြည့်ရှုလေ့လာတိုက်ဆိုင်၍ အဋ္ဌကထာသစ်များကို ရေးသားခဲ့သည်ကိုလည်း တွေ့ရှိရပေသည်။

အထက်ပါ အဋ္ဌကထာများနည်းတူပင် ဒီပဝံသခေါ်သော ကျမ်းတစောင်လည်း အရှင်မဟာ-ဗုဒ္ဓဃောသ၏ကျမ်းများ မပေါ်မီ ရှေးယခင်က ပေါ်နှင့်နေသောကျမ်း ဖြစ်ပေသည်။ ၎င်းကျမ်းကား ဗုဒ္ဓသာသနာတော်နှင့် ပတ်သက်သည့် ဣန္ဒိယနှင့် သီဟိုဠ်ရာဇဝင်သမိုင်းကို ဂါထာတို့ဖြင့် ရေးသားထားသည့်ကျမ်း ဖြစ်၏၊ ၎င်းကျမ်း၏ ကျမ်းပြုဆရာကား အမည်မထင်ရှားခဲ့ပေ၊ အမည်မသိမထေရ်တပါးသော်၎င်း, မထေရ်အများသော်၎င်း ရေးသားခဲ့သည်ဟု ခန့်မှန်းရပေသည်။

၎င်းဒီပဝံသကျမ်းကို သာသနာနှစ် ၈၆၈-မှ ၈၉၅ (အေဒီ ၃၂၅-မှ ၃၅၂)ခုနှစ်တိုင် သီဟိုဠ်ကျွန်း၌ မင်းပြုသည့် မဟာသေနမင်း၏ အကြောင်းဖြင့် အဆုံးသတ်ထားသည်ကို တွေ့ရှိရသဖြင့် ၎င်းကျမ်းသည် အေဒီ ၄-ရာစုနှစ်အတွင်း ပြုစုအပ်သောကျမ်းဟု မှတ်ယူနိုင်ပေသည်။ စာပေအရေးအသား ပြေပြစ်ချောမွေ့မှုနည်းသဖြင့် ဤကျမ်းသည် စာပေဂုဏ်မြောက်လှသောကျမ်းဟု မဆိုနိုင်သော်လည်း ရှေးခေတ် ဣန္ဒိယပြည်နှင့် သီဟိုဠ်ကျွန်းဆိုင်ရာ ရာဇဝင်, သာသနာဝင်နှင့် ပတ်သက်၍

---

၁။ မဟာအဋ္ဌကထဉ္စေဝ၊ မဟာပစ္စရိမေဝ စ။
ကုရုန္ဒိဉ္စာတိ တိဿောပိ သီဟဠဋ္ဌကထာ ဣမာ။ (ဝိ၊ ဋ္ဌ၊ ၄။ ၂၆၃)
၂။ ဒီဃ,မဇ္ဈိမ,သံယုတ္တ,အင်္ဂုတ္တရအဋ္ဌကထာ နိဂုံးတို့၌ လာသော—
"သာ ဟိ မဟာအဋ္ဌကထာယ၊ သာရမာဒါယ နိဋ္ဌိတာ ဧသာ"နှင့်
"မူလဋ္ဌကထာသာရံ၊ အာဒါယ မယာ ဣမံ ကရောန္တေန"တို့ကို ယှဉ်ကြည့်ပါ။
၃။ ပစ္စရီ နာမ သီဟဠဘာသာယ ဥဠုမ္ပံ ကိရ၊ တသ္မိံ နိသီဒိတွာ ကတတ္တာ တမေဝ နာမံ ဇာတံ။ ကုရုန္ဒိ-ဝလ္လိဝိဟာရော နာမ အတ္ထိ၊ တတ္ထ ကတတ္တာ ကုရုန္ဒီ နာမ ဇာတာ။ (ဝဇိရဗုဒ္ဓိဋီကာ၊ ၁၈)။ သာရတ္ထ, ဝိမတိ တို့၌လည်း နည်းတူပင် ဆိုကြသည်။
၄။ အန္ဓကဘာသာဟူသည် တေလဂူဘာသာဖြစ်ကြောင်း မောဂ္ဂလ္လာန်နိဿယ နိဒါန်း(က)၌မိန့်ဆိုထားသည်၊ သို့ဖြစ်၍ အန္ဓကအဋ္ဌကထာသည် တေလဂူဘာသာဖြင့် ရေးသားအပ်သော အဋ္ဌကထာတစောင်ပင် ဖြစ်ပေမည်။
၅။ ဒီ၊ ဋ္ဌ၊ ၃။ ၆၆-ကြည့်။ ၆။ မ၊ ဋ္ဌ၊ ၃၊ ၁၃၅၊ ၁၃၉၊ ၂၁၀-ကြည့်။

ဗဟုဿုတ များစွာပေးနိုင်သော ကျမ်းဖြစ်သဖြင့် အဋ္ဌကထာဆရာတို့ပင် အလေးပြုအပ်သော ကျမ်းဖြစ်ပေသည်။ ထို့ကြောင့်လည်း အဋ္ဌကထာသစ်ဆရာ အရှင်မဟာဗုဒ္ဓဃောသသည် ဝိနည်းအဋ္ဌကထာ၏ နိဒါန်းဝယ် ဇမ္ဗုဒီပနှင့်သီဟိုဠ်ဆိုင်ရာ သာသနာဝင်ကိုပြဆိုရာ၌၎င်း[၁], ကထာဝတ္ထုအဋ္ဌကထာ၏ အစဝယ် အဓမ္မဝါဒီဂိုဏ်းများ ပေါ်ပေါက်ပုံကိုပြဆိုရာ၌၎င်း[၂] ဤဒီပဝံသကျမ်းကိုပင် အကိုးအကားမှီငြမ်းပြု၍ ရေးသားထားသည်ကို တွေ့ရပေသည်။

ဤဒီပဝံသကျမ်းနှင့်စပ်သွယ်၍ မဟာဝံသကျမ်းကိုလည်း သိသင့်သည်။ ၎င်းကျမ်းကား အရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာသစ်များပေါ်ပြီးနောက်မှ ပေါ်သောကျမ်း ဖြစ်လေသည်၊ ဤကျမ်း၌ဖော်ပြပါရှိသော ကာလအပိုင်းအခြားသည် ဒီပဝံသကျမ်း၌ပါရှိသော ကာလအပိုင်းအခြားနှင့် အတူတူပင်ဖြစ်လျက် မဟာသေနမင်းအကြောင်းဖြင့်ပင် အဆုံးသတ်ထားသည်ကို တွေ့ရပေသည်။ သို့သော်လည်း ဤကျမ်း၏ ထူးခြားချက်မှာ ဒီပဝံသကျမ်း၌တွေ့ရသော စာပေအဖြစ်အနာအဆာများကို ပယ်ထုတ်ရှောင်ကွင်းလျက် သာယာနာပျော်ဖွယ် ဂါထာဗန္ဓတို့ဖြင့် စာပေဂုဏ်မြောက်အောင် ချဲ့ထွင်ရေးသားထားခြင်းပင်ဖြစ်ပေသည်။ ဤကျမ်း၏ကျမ်းပြုဆရာကား အရှင်မဟာနာမဖြစ်၍ ၎င်းမထေရ်သည် အေဒီ ၆-ရာစု အဦးပိုင်းလောက်မှာ ဤကျမ်းကို ရေးသားခဲ့သည်ဟု ခန့်မှန်းကြသည်[၃]။ ဤကျမ်း၏အဆက်ကိုလည်း နောက်ဆရာတို့ ဆက်လက်ရေးသားခဲ့ကြသည်၊ ၎င်းအဆက်ကိုပင် ယခုအခါ "စူဠဝံသ"ဟု ခေါ်လေသည်။ ၎င်းကျမ်း၌ သီဟိုဠ်တကျွန်းလုံးကို အင်္ဂလိပ်တို့ သိမ်းယူသည်အထိ အဖြစ်အပျက်တို့ပါဝင်သည်[၄]။

အရှင်မဟာဗုဒ္ဓဃောသသည် မိမိပြုစုသည့် အဋ္ဌကထာသစ်များ၏ ကျမ်းဦးစကားရပ်တို့၌ မိမိသည် အရှင်မဟိန္ဒ သီဟိုဠ်ကျွန်းသို့ ဆောင်ယူလာသော သင်္ဂါယနာ ၃-တန်တင် ပကိဏ္ဏကဒေသနာဟုခေါ်အပ်သော မူလအဋ္ဌကထာကို ဘာသာပြန်ထားသည့် သီဟိုဠ်အဋ္ဌကထာကို မှီရင်းပြု၍ ၎င်းမှ သီဟိုဠ်ဘာသာကိုသာ ပယ်ပြီး မာဂဓဘာသာသို့ပြန်ဆိုရုံမျှသာ ပြုအပ်ကြောင်း မိန့်ဆိုရေးသားခဲ့သည်တို့ကို တွေ့ရပေသည်။ အထူးသဖြင့် ဝိနည်းအဋ္ဌကထာကိုရေးရာ၌ မဟာအဋ္ဌကထာကို မူလအထည်ကိုယ်ပြု၍ ၎င်းမှ သီဟိုဠ်ဘာသာကိုသာ ပယ်ပြီးလျှင် ကြွင်းကုရုန္ဒီစသော ရှေးအဋ္ဌကထာတို့မှ ယူသင့်သည့်အဆုံးအဖြတ်များကို ယူ၍ ရေးသားထားကြောင်း မိန့်ဆိုလျက် ရှိပေသည်။

ယင်းသို့ မိမိကိုယ်ကို အလွန်နှိမ့်ချ၍ မိန့်ဆိုခဲ့သော်လည်း အဋ္ဌကထာသစ်များကို ကြည့်ရှုလေ့လာသောအခါ အရှင်မဟာဗုဒ္ဓဃောသမထေရ်သည် ဘာသာပြန်ရုံ သက်သက်မျှသာ မဟုတ်သေးပဲ မိမိ၏ပင်ကိုယ်ဉာဏ်ကို အသုံးပြု၍လည်း ရေးသားထားအပ်သည့်နေရာများကို အများအပြားပင် တွေ့ရှိနိုင်ပေသည်။ ဝိနည်းအဆုံးအဖြတ်တို့တွင် မှီရာအဋ္ဌကထာတို့ တကျမ်းနှင့်တကျမ်း အယူအဆကွဲလွဲရာ၌ မိမိ၏ဉာဏ်ဖြင့် နှိုင်းချိန်၍ အဆုံးအဖြတ်ပေးခဲ့သည်တို့ကိုလည်း တွေ့ရသည်၊ ရံခါတွင်

---

၁။ ပါရာဇိကဏ်အဋ္ဌကထာ ဗာဟိရနိဒါန်းအဖွင့် ကြည့်။ ၂။ အဘိ၊ ၄၊ ၃။ ၁၀၅-၉ ကြည့်ပါ။

၃။ Wilhelm Geiger ၏ Pāli Literature and Language စာမျက်နှာ-၃၆။

၄။ ပရတ်ဝိရဲ့ ဗထာရေတွာ ရာဇာနံ လောကပိဋကံ။

ဣင်္ဂိရိသိနာမကာ သဗ္ဗံ ရဋ္ဌံ ကရကတံ ကရုံ။ (စူဠဝံသ နောက်ဆုံးဂါထာ)

ဤဂါထာ၌ ရာဇာနံ-အရ သိရိဝိက္ကမရာဇသီဟ (သီဟိုဠ် နောက်ဆုံးမင်း ၁၇၉၈-၁၈၁၅) ကို ယူ။ ဣင်္ဂိရိသိ-ဟူသည် အင်္ဂလိပ်ကိုပင် ပါဠိလိုခေါ်ခြင်း ဖြစ်သည်။

မိမိ၏ ပမာနမှီခိုအားထားရာဖြစ်သော မဟာအဋ္ဌကထာကိုပင် ယမာဂလိခိတဟုဆိုသောနေရာကို[၁] တွေ့ရ၍ အချို့နေရာတွင် မဟာအဋ္ဌကထာ၌လာသော အဆုံးအဖြတ်ကို ပယ်၍ မဟာပစ္စရီ အဋ္ဌကထာစသည်၌လာသော အဆုံးအဖြတ်ကို လက်ခံအတည်ပြုထားသည်များကိုလည်း၊[၂] တွေ့ရှိနိုင်ပေသည်။ မူလပဏ္ဏာသ အဋ္ဌကထာ ( မ၊ ဋ္ဌ၊ ၁။ ၃၀ ) တွင်လည်း ရှေးဆရာတို့ စိစစ်ခြင်းမပြုခဲ့သည့် အချက်ကို "အဝိစာရိတမေတံ ပေါရာဏေဟိ၊ အယံ ပန အတ္တနော မတိ..." စသည်ဖြင့် မိမိ၏ ကိုယ်ပိုင်ဉာဏ်စွမ်းကိုအသုံးပြုလျက် စိစစ်ဖွင့်ဆိုထားသည်ကိုတွေ့ရသည်။ ယမိုက်အဋ္ဌကထာ တနေရာတွင်[၃] ဝိဘင်း၏အဖွင့် သီဟဠဋ္ဌကထာ၌ဆိုထားသော စကားကို ပါဠိတော်နှင့်ချိန်ထိုး၍ ပယ်ထားသည်ကို တွေ့ရှိရသည်။ သို့ဖြစ်လေရာ အရှင်မဟာဗုဒ္ဓဃောသသည် အဋ္ဌကထာသစ်များကို ရေးသားခဲ့ရာ၌ ဘာသာပြန်ရုံ သက်သက်မျှကိုသာ ပြုလုပ်ခဲ့သည်မဟုတ်ပဲ အချို့အချို့နေရာများတွင် မိမိ၏ ထက်မြက်လှသောဉာဏ်ကို ပေါ်လွင်စေလျက် တိကျပြတ်သားသော ဆုံးဖြတ်ချက်များကိုလည်း ပေးခဲ့ရကား မိမိသည် အတုမဲ့ကျမ်းပြုပုဂ္ဂိုလ်ကြီး ဖြစ်ကြောင်းကိုလည်း ပြသတော်မူခဲ့သည်သာ ဖြစ်ပေသည်။

အရှင်မဟာဗုဒ္ဓဃောသမထေရ် ပြုစုခဲ့သော ကျမ်းတို့ကား ဝိနည်းပိဋက, ဒီဃနိကာယ်, မဇ္ဈိမနိကာယ်, သံယုတ္တနိကာယ်, အင်္ဂုတ္တရနိကာယ်, အဘိဓမ္မာပိဋက, ခုဒ္ဒကပါဌ, ဓမ္မပဒ, သုတ္တနိပါတ်, ဇာတ်နှင့် ပါတိမောက်၏ အဖွင့်အဋ္ဌကထာများအပြင် ဝိသုဒ္ဓိမဂ်အဋ္ဌကထာတို့ဖြစ်၍ ဆင့်သက်ယနော မူအရ စာအုပ်ပေါင်း ၁၅-အုပ် စာမျက်နှာပေါင်း ၁၃၀၀၀-ကျော်မျှ ရှိလေသည်။ ဤမျှများပြားသော အဋ္ဌကထာတို့ကို တဦးတည်းရေးသားပြုစုခဲ့သည်ကို ကြည့်သဖြင့်ပင် အဋ္ဌကထာဆရာ၏ လွန်ကဲသော ကရုဏာ, ထက်မြက်သော ဉာဏ်တော်နှင့် ကြီးကျယ်သော ဝီရိယစေတ်တို့ကို မှန်းဆကြည့်သိနိုင်လောက်ပေသည်[၄]။

အရှင်မဟာဗုဒ္ဓဃောသသည် သာသနာနှစ် ၉၀၀-မှ ၁၀၀၀-အတွင်း ထွန်းကားခဲ့သော ပုဂ္ဂိုလ်ကြီးဖြစ်လေရာ ထိုမထေရ်နှင့် တခေတ်တည်း ထွန်းကားသည်ဟု ယူဆရသော အခြား အဋ္ဌကထာဆရာတဦးလည်း ရှိသေးသည်၊ ထိုဆရာကား အရှင်ဗုဒ္ဓဒတ္တပင် ဖြစ်ပေသည်။ ဤမထေရ်သည် အရှင်မဟာဗုဒ္ဓဃောသ မဖွင့်ဆိုပဲ ခြွင်းချန်ထားခဲ့သော ကျမ်းများအနက်မှ ဗုဒ္ဓဝံသပါဠိတော်ကို ရွေးနုတ်၍ ၎င်းအဖွင့်အဋ္ဌကထာကို ရေးသားခဲ့လေသည်။ ဤအရှင်ဗုဒ္ဓဒတ္တသည် ဗုဒ္ဓဝံသအဋ္ဌကထာ အပြင် အဘိဓမ္မာဝတာရ, ဝိနယဝိနိစ္ဆယ, ဥတ္တရဝိနိစ္ဆယ စသော ကျမ်းပေါင်းများစွာကိုလည်း နောက်သား နောင်လာတို့အကျိုးငှါ ရေးသားပြုစုခဲ့ပေသေးသည်[၅]။

၎င်းဆရာ ၂-ဦးတို့ ဖွင့်ဆိုအပ်သော ပါဠိတော်များမှ ကြွင်းကျန်သည့် ပါဠိတော် အတော်များများ၏ အဋ္ဌကထာများကို ရေးသားပြုစုခဲ့သည့် ပုဂ္ဂိုလ်ကား အာစရိယဓမ္မပါလခေါ် အရှင်

---

၁။ ဝိ၊ ဋ္ဌ၊ ၁။ ၂၇၀။ ၂။ ဝိ၊ ဋ္ဌ၊ ၁။ ၂၇၇။

၃။ ယံ ပန ဝိဘင်္ဂပ္ပကရဏဿ သီဟဠဋ္ဌကထာယံ "စိတ္တဿ မုဟုတ္တံ ရူပံ သတ္တရသမံ စိတ္တံ ဥပ္ပါဒကာလေ နိရုဇ္ဈတိ" တိ ဝုတ္တံ၊ တံ ဣမာယ ပါဠိယာ ဝိရုဇ္ဈတိ။ အဋ္ဌကထာတော စ ပါဠိယေဝ ဗလဝတရာတိ ပါဠိယံ ဝုတ္တမေဝ ပမာဏံ။ ( အဘိ၊ ဋ္ဌ၊ ၃။ ၃၁၆။ )

၄။ အရှင်မဟာဗုဒ္ဓဃောသ၏ အတ္ထုပ္ပတ္တိအကျယ်ကို ဝိသုဒ္ဓိမဂ်နိဒါန်းကထာမြန်မာပြန်မှာ ကြည့်။ ဓမ္မပဒ-အဋ္ဌကထာနှင့် ဇာတ်အဋ္ဌကထာတို့ကို အရှင်မဟာဗုဒ္ဓဃောသ၏ လက်ရာမဟုတ်ဟုလည်း အနောက်တိုင်း ပါဠိပညာရှင်တို့ ယူဆကြသည်။

၅။ ဝိနယဝိနိစ္ဆယနှင့် ဥတ္တရဝိနိစ္ဆယ ၂-ကျမ်းတွဲ နိဒါန်းသည်း ကြည့်။

ဓမ္မပါလမထေရ်ပင် ဖြစ်ပေသည်။ ဤမထေရ်သည် ဥဒါန်း, ဣတိဝုတ်, ဝိမာနဝတ္ထု, ပေတဝတ္ထု, ထေရဂါထာ, ထေရီဂါထာ, စရိယာပိဋကနှင့် နေတ္တိပါဠိတော်တို့၏ အဋ္ဌကထာများကို ရေးသားခဲ့သည်။

ကြွင်းကျန်သည့် ပါဠိတော်တို့တွင်ကား နိဒ္ဒေသပါဠိတော်၏ အဋ္ဌကထာကို အရှင်ဥပသေနကရင်း, ပဋိသမ္ဘိဒါမဂ်ပါဠိတော်၏ အဋ္ဌကထာကို အရှင်မဟာနာမကရင်း ရေးသားစီရင်ခဲ့၍ အပဒါန်ပါဠိတော်၏အဖွင့်ဖြစ်သော အဋ္ဌကထာကို နှောင်းခေတ်ပေါ် အမည်မသိမထေရ်တပါး[၁] ဖွင့်ဆိုရေးသားခဲ့လေသည်။

နိကာယ်ငါးရပ် ပိဋကသုံးပုံဖြင့် ရေတွက်အပ်သော ပါဠိတော်စာပေသည် အဖွင့်ဖြစ်သော အဋ္ဌကထာကျမ်းတို့ဖြင့် ထွန်းကားစည်ပင်ခြင်းသို့ ရောက်ပြီးနောက် အဋ္ဌကထာတို့၌ ခက်ခဲသောဌာနတို့ကို ဖွင့်ပြမည့်ကျမ်းများ လိုအပ်လာပြန်ပေသည်၊ ထိုလိုအပ်နေသော အချက်ကိုလည်း အရှင်အာနန္ဒာစသော ရှေးဆရာတို့ကပင် ဖြည့်ခဲ့လေသည်၊ ထိုမထေရ်တို့ပြုစုသော ကျမ်းများသည် “ဋီကာ”ဟူသောအမည်ဖြင့် ထင်ရှားကြလေသည်။

ဋီကာတို့တွင် ရှေးအကျဆုံးဋီကာမှာ အဘိဓမ္မာ အဋ္ဌကထာ ၃-ကျမ်း၏ အဖွင့်ဖြစ်သော မူလဋီကာပင် ဖြစ်လေသည်[၂]၊ ယင်း မူလဋီကာကို ရေးသားသူမှာ အရှင်အာနန္ဒာ ဖြစ်သည်။ ယင်းဋီကာဆရာကား အရေးအသားတွင် ကျစ်လစ်သိပ်သည်း၍ အဘိဓမ္မာဆိုင်ရာ အယူအဆတွင်လည်း လွန်စွာ ပြောင်မြောက်လှပေရာ အဘိဓမ္မာဆိုင်ရာ အချို့သော ပြဿနာတို့တွင် အဋ္ဌကထာဆရာ အရှင်မဟာဗုဒ္ဓဃောသ၏ အယူအဆများကိုပင် ရဲဝံ့စွာ ဝေဖန်စိစစ်ခဲ့သော ပုဂ္ဂိုလ်ဖြစ်ပေသည်။ အရေးအသားကျစ်လစ်၍ အတွေးအခေါ်နက်နဲမှုကြောင့်ပင် ဤကျမ်းသည် သာသနာနယ်ပယ်တွင် အခက်ဆုံးကျမ်းအဖြစ် အသိအမှတ်အပြုခံရသော ကျမ်းတကျမ်းဖြစ်ပေသည်။

မူလဋီကာ၏ နောက်၌ကား ဥဒါန်းအဋ္ဌကထာစသည်ကို ရေးသားသော အရှင်ဓမ္မပါလမထေရ်, အရှင်သာရိပုတြာမထေရ်တို့က သုတ္တန်ဋီကာများကို ရေးသားခဲ့ပေသည်၊ ၎င်းတို့တွင် ဒီဃနိကာယ်, မဇ္ဈိမနိကာယ်နှင့် သံယုတ္တနိကာယ် အဋ္ဌကထာတို့၏ ဋီကာများနှင့် အင်္ဂုတ္တိုရ်ဋီကာတပိုင်းတစ[၃]ကို အရှင်ဓမ္မပါလမထေရ် ပြုစု၍ အင်္ဂုတ္တိုရ်ဋီကာသစ်ကို အရှင်သာရိပုတြာမထေရ် ရေးသားစီရင်ခဲ့လေသည်။ ဝိနည်းအဋ္ဌကထာ၏ ဋီကာများကား ၃-ကျမ်းရှိလေသည်၊ ထိုတွင် ဝဇိရဗုဒ္ဓိဋီကာကို အရှင်ဝဇိရဗုဒ္ဓိမထေရ်ကရင်း, သာရတ္ထဒီပနီဋီကာကို အရှင်သာရိပုတြာမထေရ်ကရင်း, ဝိမတိဝိနောဒနီဋီကာကို အရှင်ကဿပမထေရ်ကရင်း အသီးအသီး ရေးသားပြုစုခဲ့ကြလေသည်။ နေတ္တိဋီကာဟောင်းနှင့် ဝိသုဒ္ဓိမဂ်မဟာဋီကာကိုလည်း အထက်၌ ဆိုခဲ့သည့် အရှင်ဓမ္မပါလပင် ရေးသားတော်မူခဲ့ပေသည်။

---

၁။ အပဒါန်အဋ္ဌကထာကို အရှင်ဓမ္မပါလ ပြုစုသည်ဟု အချို့ဆရာတို့ ဆိုသော်လည်း ခိုင်လုံသော အထောက်အထား မရှိ။ အပဒါန်အဋ္ဌကထာ ဣ-မှ နိဒါန်းကြည့်။

၂။ ဋီကာတကာတို့၏ လက်ဦးအမြစ်အရင်းဖြစ်၍ မူလဋီကာဟု တွင်သတည်း။ (သာသနာလင်္ကာရ စာ တမ်း-၄၅)

၃။ ပိဋကတ်တော်သမိုင်း နှာ-၁၁၂-၁၁၃ ကြည့်။

ဋီကာကို ထပ်ဆင့်၍ ဖွင့်သောကျမ်းကို အနုဋီကာဟု ခေါ်ကြောင်း ဖော်ပြခဲ့ပြီ။ ဋီကာတိုင်းမှာကား အနုဋီကာ မရှိပေ၊ အဘိဓမ္မာအဋ္ဌကထာ၏ အဖွင့်ဖြစ်သော မူလဋီကာမှာသာ အနုဋီကာ ရှိပေသည်၊ ယင်း အနုဋီကာကိုလည်း အရှင်ဓမ္မပါလမထေရ်သည်ပင် ပြုစုပေသည်[၁]။ မူလဋီကာ၏ အဖွင့်ဖြစ်သည့်အားလျော်စွာ အနုဋီကာသည်လည်း စကားကျစ်လစ်၍ အတွေးအခေါ် ပြောင်မြောက်သည်ပင် ဖြစ်ပေသည်၊ မူလဋီကာဆရာက အဋ္ဌကထာဆရာ၏ စကားအချို့ကို ဝေဖန်ပြစ်တင်ခဲ့သည့်နည်းတူ အနုဋီကာဆရာကလည်း အဋ္ဌကထာဘက်မှလိုက်၍ မူလဋီကာ၏အဆို အမိန့်များကို စစ်ဆေးဝေဖန်ခဲ့ပေသည်။

---

၁။ ပါဠိမောက္ခ မာလလသေကရ၏ The Pāli Literature of Ceylon (နှာ-၁၁၇၊ ၂၁၂) ၌၎င်း, ထိုပါမောက္ခပင် တည်းဖြတ်သော Encyclopaedia of Buddhism (Fascicule, နှာ-၄၉) ၌၎င်း, ထို့ပြင် ပြုစုသော Dictionary of Pāli Proper Names ၌၎င်း အနုဋီကာကိုပြုစုသူမှာ ဥဒါန်းအဋ္ဌကထာ စသည်ကို ပြုစုသော အာစရိယဓမ္မပါလမထေရ် မဟုတ်ပဲ မူလဋီကာဆရာ အရှင်အာနန္ဒာ၏ တပည့် စူဠဓမ္မပါလမထေရ်သာ ဖြစ်ကြောင်း ပြဆိုထားသည်ကို တွေ့ရသည်၊ ၎င်းပြင် အာစရိယဓမ္မပါလမထေရ်သည် ခရစ်နှစ် ၇-ရာစုမတိုင်မီ ပေါ်ထွန်းခဲ့၍ အရှင်အာနန္ဒာသည် ခရစ်နှစ် ၈-ရာစု သို့မဟုတ် ၉-ရာစု လောက်မှာ ပေါ်ထွန်းခဲ့သည် ဟုလည်း ပြဆိုထားပြန်သေးသည်။

ထိုတွင် အာစရိယဓမ္မပါလမထေရ်၏ ခေတ်ကိုဆုံးဖြတ်ရာ၌ ၎င်းပါမောက္ခ၏ တခုတည်းသောအားကိုးမှာ တရုတ်ရဟန်းတော် ဟွယန်ဆင်၏ မှတ်တမ်းပင် ဖြစ်သည်၊ ဟွယန်ဆင်သည် ခရစ်နှစ် ၇-ရာစုအတွင်း၌ ဗုဒ္ဓနိုင်ငံသို့ ဘုရားဖူးကြလာသည်ဖြစ်၍ အရှင်ဓမ္မပါလ၏ အကြောင်းကို ယင်း၏မှတ်တမ်း၌ တွေ့ရလျှင် အရှင်ဓမ္မပါလသည် ၇-ရာစုမတိုင်မီ ပေါ်ထွန်းခဲ့သူဖြစ်ရမည်ဟူသော ကြံဆချက်ဖြင့် ဆုံးဖြတ်သားခြင်း ဖြစ်သည်။ သို့သော် ၎င်း ဆုံးဖြတ်ချက်သည် မခိုင်လုံပေ။ ဟွယန်ဆင်၏ မှတ်တမ်း၌ပါသော ဓမ္မပါလသည် အာစရိယဓမ္မပါလပင် ဖြစ်သည်ဟု တကန် မဆိုနိုင်ဖို့သာမက အာစရိယဓမ္မပါလ မဟုတ်သည့်ဘက်သို့ ညွှန်ပြနေသော အကြောင်းများကိုပင် ၎င်းမှတ်တမ်း၌ တွေ့ရှိနေရသည်။ ၎င်းမှတ်တမ်း၌ ဗောဓိသတ္တဓမ္မပါလဟု ဆိုထားသည်ကို၎င်း, ဓမ္မပါလပြုသည်ဟု ပြဆိုထားသော ကျမ်းတို့မှာ မဟာယာနကျမ်းများသာ ဖြစ်နေသည်ကို၎င်း ထောက်လျှင် ယင်းမှတ်တမ်းပါ ဓမ္မပါလသည် ဝိသုဒ္ဓိမဂ်ဋီကာ—စသည်ကိုပြုသော အာစရိယဓမ္မပါလမထေရ် မဟုတ်နိုင်ကြောင်း ထင်ရှားသည်။

ထို့ပြင်လည်း စူဠဝံသကျမ်းတွင် ခရစ်နှစ် ၉၁၃-မှ ၉၅၆-ခုနှစ် အထိ နန်းစံသော သေနမင်းသည် မင်းအဖြစ်သို့ ရောက်မြဲနေ ဘဝ သိဗ္ဗာဂါမမည်သော ရွာကို ပရိဝေဏအဖြစ် ပြုလုပ်ကြောင်းကို၎င်း, ခရစ်နှစ် ၉၅၆-မှ ၉၇၂-ခုနှစ် အထိ နန်းစံသော မဟိန္ဒမင်းသည် သိဗ္ဗာဂါမပရိဝေဏ၌ နေထိုင်သော ကရှင်ဓမ္မမိတ္တကို အဘိဓမ္မာ၏ အဖွင့်ကျမ်း ပြုစုစေ၍ အရှည်ဝါသီဖြစ်သော ဒါဌာနာဂမည်သောမထေရ်အား အဘိဓမ္မာတရား ဟောစေပုံ ကို၎င်း ပြဆိုထားသည်ကို တွေ့ရ၏။ (စူဠဝံ၊ ၅၄-ပရိစ္ဆေဒ၊ ဂါထာ ၃၅-ဂါထာများ)။ ဝိသုဒ္ဓိမဂ်ဋီကာ နိဂုံးစကားရပ်တွင်လည်း သိဗ္ဗ(သိဗ္ဗ?)ဂါမပရိဝေဏ၌ သီတင်းသုံး နေထိုင်လေ့ရှိသော ဒါဌာနာဂမထေရ် တောင်းပန်၍ ဝိသုဒ္ဓိမဂ်ဋီကာ ကျမ်းကို ပြုစုကြောင်း အာစရိယဓမ္မပါလမထေရ်ကိုယ်တိုင် မိန့်ဆိုထားသည်ကို တွေ့ရသည်။ အထက်ပါ စူဠဝံသ နှင့် ဝိသုဒ္ဓိမဂ်ဋီကာလာစကားတို့ကို ပေါင်းစပ်ကြည့်လျှင် ဒါဌာနာဂမထေရ်သည် ရံခါ သိဗ္ဗာဂါမပရိဝေဏ၌ နေ၍ ရံခါ တောကျောင်းမှာ နေသည်။ ဝိသုဒ္ဓိမဂ်ဋီကာကို ပြုစုရန် တောင်းပန်စဉ်က သိဗ္ဗာဂါမပရိဝေဏ၌ နေလျက်ရှိသည်ဟူသော အချက်မှာ ပေါ်လွင်လျက်ရှိသည်။ ယင်း ၂-ကျမ်းလာ ဒါဌာနာဂမထေရ်တို့သည် ပုဂ္ဂိုလ်တဦးတည်း မဟုတ်ဟု ဆိုဘိဦး အာစရိယဓမ္မပါလမထေရ်သည် သိဗ္ဗာဂါမရွာ ပရိဝေဏဖြစ်ပြီးသည့်နောက်မှ ဝိသုဒ္ဓိမဂ်ဋီကာကို ရေးသားခဲ့ကြောင်း ထင်ရှားရကား အာစရိယဓမ္မပါလမထေရ်သည် သေနမင်း, မဟိန္ဒမင်းတို့ လက်ထက် ဖြစ်သည့် ခရစ်နှစ် ၁၀-ရာစု အတွင်းမှာ ပေါ်ထွန်းခဲ့သော ပုဂ္ဂိုလ်ကြီးဖြစ်ကြောင်း ကောင်းကောင်းကြီး ထင်ရှားပေပြီ။

ယင်း အာစရိယဓမ္မပါလမထေရ်ထက် မူလဋီကာဆရာ အရှင်အာနန္ဒာက ရှေးကျကြောင်းသည်လည်း ဥဒါန်းအဋ္ဌကထာ, ဝိသုဒ္ဓိမဂ် မဟာဋီကာတို့၌ ပြဆိုထားသော စကားတို့ဖြင့်ပင် ထင်ရှားသည်။ (ဥဒါန်းအဋ္ဌကထာ

ဋီကာ, အနုဋီကာကျမ်းတို့နှင့် တပြိုင်နက်ရှင်း, မရှေးမနှောင်းရှင်း, ယင်းတို့နောက် အတော်ကြာနှောင်းသောကာလမှရှင်း ပေါ်ခဲ့သော သာသနာဆိုင်ရာ ပါဠိကျမ်းစာတို့လည်း ရှိပေသည်။ ထိုကျမ်းတို့ကား ဂဏ္ဌိကျမ်းများ[၁], လက်သန်းကျမ်းများ, သဒ္ဒါ, အလင်္ကာ, ဆန်း, အဘိဓာန်ကျမ်းများ စသည်ဖြင့် များစွာပင်ရှိသည်။

၎င်းတို့တွင် ဝိနည်းအဋ္ဌကထာ၏ ဂဏ္ဌိဖြစ်သော ကျမ်းများကား ဂဏ္ဌိပဒ, မဟာဂဏ္ဌိပဒ, မဇ္ဈိမဂဏ္ဌိပဒနှင့် စူဠဂဏ္ဌိပဒတို့ ဖြစ်သည်၊ ၎င်းတို့တွင် ဂဏ္ဌိပဒကျမ်းမှာ မာဂဓဘာသာရေး ဖြစ်၍

---

(၈၄)၌ "အနုရုဒ္ဓါစရိယေန ကတာ ပရမတ္ထဝိနိစ္ဆယနာမိကာ ဋီကာ ယံ ဂမ္ဘီရဋီကာ" ဟု မူလဋီကာကို ညွှန်းထားချက်, ဝိသုဒ္ဓိမဂ်မဟာဋီကာ ဒုတိယအုပ်၌ "ကြိယာစေတနောင် တဒါရုံ မကျ" ဟူသော မူလဋီကာ (၁။၁၃၄)လာ ဝါဒကို ပယ်ထားချက် (မဟာဋီ။ ၁၃၄), "ဇီဝိတဆက္ကု, စက္ခုသတ္တကကလာပ်" ဟု ယူသော မူလဋီကာ(၂။၁၀၈)လာ ဝါဒကိုပင် ပယ်ထားချက်(မဟာဋီ၊၂။၃၀၄-၇)တို့ကို ကြည့်ပါ။)

အနုဋီကာကို စူဠဓမ္မပါလမထေရ် ပြုစုသည်ဟု ဆိုထားချက်မှာလည်း ခိုင်လုံသော အထောက်အထားမရှိပဲ အတွေးနှင့်မတိမျှဖြင့်သာ ရေးသားထားခြင်း ဖြစ်လေသည်။ အာစရိယဓမ္မပါလမထေရ်ကို ခရစ်နှစ် ၇-ရာစုမတိုင်မီ ပေါ်ထွန်းသော ပုဂ္ဂိုလ်ဟု ယူဆထားမိရာ ၎င်းပုဂ္ဂိုလ်သည် ၈-ရာစု သို့မဟုတ် ၉-ရာစုမှ ပေါ်သော အရှင်အာနန္ဒာ ပြုစုသည့် မူလဋီကာ၏ အနုဋီကာကို ရေးသားသူ မဖြစ်နိုင်၊ အာစရိယဓမ္မပါလနှင့် အမည်တူ စူဠဓမ္မပါလသာ ဖြစ်ရမည်ဟု ကြံဆမိ၍ ယင်းသို့ ရေးသားမိခြင်း ဖြစ်ပေမည်။ အာစရိယဓမ္မပါလမထေရ် ရေးသားအပ်သည့် ဝိသုဒ္ဓိမဂ်ဋီကာ, သုတ္တန်ဋီကာများနှင့် အနုဋီကာကို တိုက်ဆိုင်ကြည့်ရှုလျှင် အနုဋီကာသည် အာစရိယဓမ္မပါလမထေရ်၏ လက်ရာဖြစ်ကြောင်း ၎င်းကျမ်းပါ စာသားတို့ကပင် သက်သေခံပေလိမ့်မည်၊ ခရစ်နှစ် ၁၂-ရာစုအတွင်း ပြုစုခဲ့သော အရှင်သုမင်္ဂလသာမိ၏ အဘိဓမ္မာဝတာရဋီကာသစ်နှင့် ဋီကာကျော်ကျမ်းတို့ကို လေ့လာကြည့်ရှုလျှင်လည်း အနုဋီကာကို အာစရိယဓမ္မပါလမထေရ် ရေးသားခဲ့ကြောင်း အလွန်ပင် ထင်ရှားပေသည်။

အဘိဓမ္မာဝတာရဋီကာသစ် (၁။၄၁-၄၅)၌ အဋ္ဌကထာလာ ဒုကိကမေဃာဝါရနှင့် စပ်၍ မူလဋီကာဆရာ၏ ဝိစင်ချက်စကားရပ်တို့ကို ထုတ်ပြပြီး "ဤနေရာ၌ အာစရိယဓမ္မပါလမထေရ်က ဤသို့မိန့်သည်" ဟု အနုဋီကာ (၁။၁၃၈)လာ စကားရပ်ကို ထုတ်နုတ်ပြဆိုထားသည်ကို တွေ့ရ၏။ ထို့အတူပင် ၎င်းဋီကာသစ် ဒုတိယအုပ် စာမျက်နှာ ၅၆, ၁၃၅-၇, ၁၈၅-တို့၌ရှင်း, ဋီကာကျော် စာမျက်နှာ ၅၃-၌ရှင်း အနုဋီကာကို အာစရိယဓမ္မပါလ ရေးသားကြောင်း ထင်ရှားစေသော စကားရပ်များကို တွေ့ရသည်။ ထို့ကြောင့် အနုဋီကာကို ရေးသားသူမှာ ဥဒါန်းအဋ္ဌကထာစသည်ကို ပြုစုသော ဗဒရတိတ္ထကျောင်းနေ အာစရိယဓမ္မပါလမထေရ်ပင် ဖြစ်ကြောင်း ယုံကြည်စွာ မှတ်အပ်ပေသည်။

မူလဋီကာကို ရေးသားရန် တောင်းပန်သူမှာ အရှင်ဗုဒ္ဓမိတ္တဖြစ်ကြောင်း အဋ္ဌသာလိနီ မူလဋီကာ နိဂုံးလာ စကားအရ သိရှိရ၏၊ ၎င်း အရှင်ဗုဒ္ဓမိတ္တသည် စူဠဝံသ (၅၄၊၃၅)၌ ပါသော အရှင်ဗုဒ္ဓမိတ္တ ဖြစ်ကောင်း ဖြစ်ပေမည်။ အကယ်၍ ဖြစ်ခဲ့လျှင် အရှင်အာနန္ဒာနှင့် အာစရိယဓမ္မပါလတို့ တပါးနှင့်တပါး ကာလအားဖြင့် အလွန်ကွာခြားကြမည် မဟုတ်ဟု မှတ်ယူနိုင်ပေသည်။ ဂန္ဓဝံသ (မြူဇူ-မူ)၌ကား မူလဋီကာကို အရှင်ဗုဒ္ဓမိတ္တ တောင်းပန်၍ အရှင်အာနန္ဒာ ပြုစုသည်ဟု တွေ့ရသည်။

၁။ သာသနာလင်္ကာရစာတမ်း (၄၇)၌ "ဝဇိရဗုဒ္ဓိမည်သော ဝိနည်းငါးကျမ်း ဂဏ္ဌိကို ဝဇိရဗုဒ္ဓိဆရာ ပြုသည်" ဟု မိန့်ဆိုချက်ရှိသည်။ ၎င်းဂဏ္ဌိကား ယခုအခါ ဝဇိရဗုဒ္ဓိဋီကာဟု ထင်ရှားသော ကျမ်းပင် ဖြစ်ဟန်တူပေသည်။

ကြောင်း ၃-ကျမ်းမှာ သီဟိုဠ်ဘာသာရေးကျမ်းများ ဖြစ်ကြသည်[၁]။ ၎င်းကျမ်းတို့သည် မြန်မာနိုင်ငံသို့ ရောက်လာဟန် မတူပေ။ သီဟိုဠ်နိုင်ငံမှာလည်း ယခုအခါတွင် မတွေ့ရတော့ပေ။ ဝဇိရ-ဗုဒ္ဓိဋီကာ, သာရတ္ထဒီပနီဋီကာလာ စကားတို့အရသာ[၂] ၎င်းတို့ ရေးကရှိခဲ့ကြောင်း သိရလေသည်။ ၎င်းတို့တွင် မဟာ, မဇ္ဈိမနှင့် စူဠဂဏ္ဌိပဒ ၃-စောင်ကို သီဟိုဠ်ကျွန်း အရှင်ဓောတပါလပြုသည်ဟု ပိဋကတ်တော်သမိုင်း[၃]၌ ဆိုသည်။

ဂဏ္ဌိဟူသောအမည်ဖြင့် ယနေ့ တွေ့မြင်အပ်သော အခြားကျမ်း ၂-ကျမ်းလည်း ရှိသည်၊ ၎င်းတို့ကား ဝိသုဒ္ဓိမဂ္ဂဂဏ္ဌိပဒနှင့် ပဋိသမ္ဘိဒါမဂ္ဂဂဏ္ဌိပဒတို့ပင် ဖြစ်သည်။ ၂-ကျမ်းလုံးပင် မာဂဓ-ဘာသာရေး ကျမ်းများ ဖြစ်လေသည်။ ထိုတွင် ဝိသုဒ္ဓိမဂ္ဂဂဏ္ဌိပဒမှာ ဝိသုဒ္ဓိမဂ် စူဠဋီကာဟုလည်း ထင်ရှားသည်၊ ထို့အတူပင် ပဋိသမ္ဘိဒါမဂ္ဂဂဏ္ဌိပဒသည် ပဋိသမ္ဘိဒါမဂ္ဂဋီကာ ဟူသော အခြားအမည်ဖြင့်လည်း ထင်ရှားပြန်သည်။ ၎င်း ၂-ကျမ်းတို့တွင် ပဋိသမ္ဘိဒါမဂ္ဂဂဏ္ဌိပဒကို သီရိပရက္ကမဗာဟုမင်းလက်ထက် မဟာထူပဝင်ကျမ်းကို ပြုစုသည့်မထေရ် ပြုစုသည်ဟု ပိဋကတ်တော်သမိုင်း[၄]၌ ဆိုသဖြင့် ၎င်းကျမ်းသည် သီဟိုဠ်ဖြစ်ကျမ်း ဖြစ်သည်၊ ဝိသုဒ္ဓိမဂ္ဂဂဏ္ဌိပဒမှာကား ပုဂံမြို့ အရှင်သဒ္ဓမ္မဇောတိပါလပြုစုသည်ဟု ၎င်းသမိုင်း[၅]၌ပင် ဆိုသဖြင့် မြန်မာပြည်ဖြစ်ကျမ်း ဖြစ်ပေသည်။

လက်သန်းကျမ်းများကား ဝိနည်းလက်သန်းကျမ်း, အဘိဓမ္မာလက်သန်းကျမ်းဟူ၍ ၂-မျိုးရှိရာ ပိဋကတ်တော်သမိုင်း[၆] အဆိုအရ ဝိနည်းလက်သန်း အဋ္ဌကထာမှာ ကျမ်းအရေအတွက်အားဖြင့် ၂၀-ရှိသည်၊ ၎င်းတို့တွင် ထင်ရှားသော ကျမ်းအချို့မှာ သာရတ္ထဒီပနီဋီကာဆရာ အရှင်သာရိပုတြာ ပြုစုသည့် ဝိနယသင်္ဂဟအဋ္ဌကထာ, အရှင်ဗုဒ္ဓဒတ္တပြုစုသည့် ဝိနယဝိနိစ္ဆယနှင့် ဥတ္တရဝိနိစ္ဆယ, အရှင်သဒ္ဓမ္မသိရိပြုစုသည့် ခုဒ္ဒသိက္ခာ, အရှင်မဟာသာမိပြုစုသည့် မူလသိက္ခာ စသည်တို့ ဖြစ်ပေသည်။

အဘိဓမ္မာလက်သန်း အဋ္ဌကထာများမှာလည်း ပိဋကတ်တော်သမိုင်း[၇] အဆိုအရ ၁၀-ကျမ်း ရှိလေသည်၊ ထိုတွင် အရှင်အနုရုဒ္ဓါ၏ အဘိဓမ္မတ္ထသင်္ဂဟကျမ်း, ပရမတ္ထဝိနိစ္ဆယကျမ်း, နာမရူပ-ပရိစ္ဆေဒကျမ်း, အရှင်ဗုဒ္ဓဒတ္တ၏ အဘိဓမ္မာဝတာရကျမ်း, အရှင်ကဿပ၏ မောဟဝိစ္ဆေဒနီကျမ်း, အရှင်ဓမ္မပါလ၏ သစ္စသံခိပ်ကျမ်း[၈] တို့မှာ ထင်ရှားသောကျမ်းများဖြစ်သည်။

နောင်အခါတွင် ယင်းကျမ်းများ၏ အဖွင့်ဋီကာကျမ်းများလည်း ထွက်ပေါ်လာကြပြန်သည်၊ ၎င်းကျမ်းတို့ကိုလည်း လက်သန်းအဋ္ဌကထာတို့၏ ဋီကာများဖြစ်၍ လက်သန်းဋီကာဟု ခေါ်ဝေါ်ကြသည်။

ဗုဒ္ဓသာသနာရေးနှင့်သက်ဆိုင်သော ပါဠိကျမ်းဂန်များ ပေါ်များလာသည့်နည်းတူ ပါဠိဘာသာကို ထိန်းကွပ်စောင့်ရှောက်သည့် ဘာသာစောင့် သဒ္ဒါကျမ်းများလည်း ပေါ်ထွက်ခဲ့သည်။ ယင်းသဒ္ဒါကျမ်းတို့တွင် အထင်ရှားဆုံးမှာ ကစ္စည်းမထေရ်၏ သဒ္ဒါကြီးခေါ် ကစ္စာယနဗျာကရုဏ်းကျမ်း

---

၁။ သာရတ္ထ၊ ၁၊ ၈၁။ ၂။ ဝဇိရ၊ ဒီး၊ ၁၇-စသည်။ ၃။ စာမျက်နှာ ၁၃၇။ ၄။ စာမျက်နှာ ၁၁၄။
၅။ စာမျက်နှာ ၁၁၅။ ၆။ စာမျက်နှာ ၁၁၈-၁၂၀။ ၇။ စာမျက်နှာ ၁၂၁-၁၂၄။

၈။ သစ္စသံခိပ်ကျမ်းကို အရှင်အာနန္ဒာ၏ တပည့်ကြီးဖြစ်သည့် စူဠဓမ္မပါလမထေရ်ရေးသားသည်ဟု ဂန္ထဝံသ (၆၀)၌ ဆိုသည်၊ ပါမောက္ခ မာလလသေကရ-ကလည်း ဂန္ထဝံသကိုပင် ကိုး၍ ယင်းအတူ ဆိုသည်။ ပိဋကတ်တော်သမိုင်း (နှာ-၁၂၄)၌ကား ဗဒရတိတ္ထကျောင်းနေ အရှင်ဓမ္မပါလ ပြုစုသည်ဟု ဆိုသည်။ ထို့အတူပင် သဒ္ဒနီတိပဒမာလာ (ဆဋ္ဌမှ ၁၀)နှင့် မဏိသာရမဉ္ဇူသာဋီကာ (ဟံသာဝတီမှု, ပဌမအုပ်, ၂၉၇၊၃၂၀)တို့၌လည်း အာစရိယဓမ္မပါလ (ဓမ္မပါလာစရိယ)ဟုပင် ဆိုသည်။

ပင်ဖြစ်ပေသည်၊ ဤကျမ်းကို ခရစ်နှစ် ၁၀၀-ကျော် ၂၀၀-အတွင်း၊ သို့မဟုတ် နောက်အကျဆုံးအား ဖြင့် ၄၀၀-အတွင်း (သာသနာနှစ် ၆၀၀, ၇၀၀, ၉၀၀ အတွင်း)လောက်တွင် ပြုစုခဲ့သည်ဟု ယခုခေတ် ပညာရှင်တို့ ယူဆကြသည်[1]။ သို့ဖြစ်လျှင် ဤကျမ်းသည် ဣန္ဒိယပြည်ဖြစ်ကျမ်း ဖြစ်ရပေမည်။ ဤကျမ်း၏ အခြံအရံဖြစ်သော ကျမ်းတို့လည်း ပေါ်များလှပေသည်။ ၎င်းတို့တွင် အရှင်ဝင်ရဟန်္တာ ပြုစုသည့် နျာသကျမ်း, အရှင်ဗုဒ္ဓပ္ပိယပြုစုသည့် ရူပသိဒ္ဓိကျမ်း စာကိုယ်နှင့်ဋီကာ, သီဟိုဠ်ကျွန်း အရှင်မေဓင်္ကရပြုစုသည့် ဗာလာဝတာရကျမ်းတို့ကား ထင်ရှားသော ကျမ်းတို့ဖြစ်ပေသည်။

ကစ္စာယနသဒ္ဒါကျမ်း၏ အခြံအရံမဟုတ်ပဲ မိမိ၏သီးခြား သုတ်, ဝုတ္တိ, ဥဒါဟရဏ်တို့ဖြင့် ရေးသား အပ်သော သဒ္ဒါကျမ်းလည်း သီဟိုဠ်ကျွန်းတွင် ပေါ်ထွက်ခဲ့ပေသည်၊ ၎င်းကား အရှင်မောဂ္ဂလ္လာန် ပြုစုသည့် မောဂ္ဂလ္လာနဗျာကရဏခေါ် မောဂ္ဂလ္လာန်သဒ္ဒါကျမ်းပင် ဖြစ်ပေသည်၊ ၎င်းသည်လည်း အရှင်မောဂ္ဂလ္လာန်ပင်ပြုစုသည့် မောဂ္ဂလ္လာနပဉ္စိကာကျမ်း, အရှင်သံဃရက္ခိတပြုစုသည့် သုသဒ္ဒသိဒ္ဓိ ကျမ်းနှင့် ယောဂနိစ္ဆယခေါ် သမ္ဗန္ဓစိန္တာကျမ်း[2], ရာဟုလသံဃရာဇာပြုစုသည့် ပဉ္စိကာပဒီပကျမ်း, အရှင်ပိယဒဿိပြုစုသည့် ပဒသာဓနကျမ်း, အရှင်မေဓင်္ကရပြုစုသည့် ပယောဂသိဒ္ဓိကျမ်းစသည်တို့ဖြင့် ခြံရံအပ်၍ သာသနာတော်တွင် ထင်ရှားသောကျမ်းပင် ဖြစ်လေသည်။

သီဟိုဠ်ပါဠိစာပေခေတ်မှာပင် ပါဠိစာပေအရေးအသားကိုပြသည့် အလင်္ကာကျမ်း, ဂါထာ စီကုံးနည်းဖွဲ့နည်းကိုပြသည့် ဆန်းကျမ်း, အနက်တူပါဠိပရိယာယ်ပုဒ်တို့နှင့် အနေကတ္ထပုဒ်တို့ကိုပြသည့် အဘိဓာန်ကျမ်းများ ပေါ်ထွက်ခဲ့ပေသည်။ ထိုတွင် အလင်္ကာကျမ်းနှင့် ဆန်းကျမ်း ၂-မျိုးလုံးကိုပင် အရှင်သံဃရက္ခိတမထေရ် ရေးသားပြုစုခဲ့ရာ အလင်္ကာကျမ်းမှာ "သုဗောဓာလင်္ကာရ" ဟူသော အမည်ဖြင့်၎င်း, ဆန်းကျမ်းမှာ "ဝုတ္တောဒယ" ဟူသော အမည်ဖြင့်၎င်း ထင်ရှားလေသည်။ အဘိဓာန် ကျမ်းကိုကား အရှင်မောဂ္ဂလ္လာန်မထေရ်ပြုစုသည်၊ ယင်းသည်လည်း "အဘိဓာနပ္ပဒီပိကာ" ဟူသော အမည်ဖြင့် ထင်ရှားသည်။

ထိုထိုသမိုင်းကို ပြဆိုသော ဝံသကျမ်းတို့လည်း သီဟိုဠ်ကျွန်းဖြစ်တို့သာ များလေသည်။ ထိုတွင် ဒီပဝံသနှင့် မဟာဝံသတို့အကြောင်းကို အထက်ကရေးသားခဲ့ပြီ။ အခြား ဝံသကျမ်းတို့ကား သီဟိုဠ် ကျွန်း အနုရာဓမြို့ရှိ စေတီပင်၏ အကြောင်းကို ပြဆိုသော မဟာဗောဓိဝံသကျမ်း, ဘုရားရှင်စွယ် တော်၏ အဋ္ဌုပ္ပတ်ကိုပြဆိုသော ဒါဌာဓာတုဝံသကျမ်း, သီဟိုဠ်ကျွန်း မဟာစေတီ၏အကြောင်းကို ပြဆိုသော မဟာထူပဝံသကျမ်း, နဖူးသင်းကျစ်တော်၏ အဋ္ဌုပ္ပတ်ကိုပြဆိုသော နလာဋဓာတုဝံသ ကျမ်း, ဆံတော်ခြောက်ဆူ၏အဋ္ဌုပ္ပတ်ကိုပြဆိုသော ဆကေသဓာတုဝံသကျမ်း, နောင်ပွင့်တော်မူမည့် အရိမေတ္တေယျ-ဘုရားရှင်၏ အကြောင်းကိုပြဆိုသော အနာဂတဝံသကျမ်းစသည်တို့ ဖြစ်ပေသည်။

ဤသို့လျှင် အရှင်မဟိန္ဒမထေရ် သီဟိုဠ်ကျွန်းသို့ ဗုဒ္ဓသာသနာတော်ကို ဆောင်ယူခဲ့သည်မှစ၍ တဟုန်ထိုး ကြီးပွားလာခဲ့သော သီဟိုဠ်ကျွန်းပါဠိစာပေသည် သာသနာနှစ် ၂၀၀၀-ခန့် (အေဒီ ၁၅-ရာစု)တိုင်အောင်ပင် ရောက်ရှိခဲ့ပေသည်၊ ဤခေတ်မှ နောက်တွင်ကား ပြောပလောက်အောင် ပါဠိစာပေဆိုင်ရာ ကျမ်းဂန်များ မပေါ်ထွက်တော့ချေ။

## မြန်မာနိုင်ငံ ပါဠိစာပေ

မြန်မာနိုင်ငံ ပါဠိစာပေခေတ်ကို လေ့လာရာ၌ မြန်မာနိုင်ငံသို့ ဗုဒ္ဓသာသနာ မည်သည့်အချိန် လောက်က ရောက်ရှိလာသည်ကို ထည့်သွင်းစဉ်းစားရပေမည်။

---

၁။ မောဂ္ဂလ္လာန်နိဿယ စာမျက်နှာ ၃၄၉-၃၅၀ ကြည့်။

၂။ အဘယာရာမဆရာတော်၏ သမ္ဗန္ဓစိန္တာ ဘာသာဋီကာ-နိဒါန်း ကြည့်။

ရာဇဝင်သမိုင်းကျမ်းဂန်တို့အရ ဘုရားရှင် သက်တော်ထင်ရှားရှိစဉ်ကပင် မြန်မာနိုင်ငံသို့ ဗုဒ္ဓသာသနာရောက်လာသည်ဟု ဆိုနိုင်သော်လည်း ခိုင်လုံသော သက်သေသာဓကများ လိုလျက်ရှိသည်။ ရှေးဟောင်းသုတေသနဌာန၏ တူးဖော်တွေ့ရှိချက်များအရဆိုသော် ဗုဒ္ဓသာသနာသည် မြန်မာနိုင်ငံသို့ ခရစ်နှစ် နှစ်ဦးပိုင်းလောက်ကပင် ရောက်ရှိခဲ့သည်ကို တွေ့ရပေသည်။ ယင်းဌာန၏ တူးဖော်တွေ့ရှိချက်ဟူသည်မှာလည်း အခြားမဟုတ် ခရစ်နှစ် ၁၈၉၇-ခုနှစ်တွင် ပြည်ခရိုင် မှော်ဇာမြို့အနီး မောင်ကန်ကုန်းနှင့် ခင်ဘကုန်းတို့၌ တွေ့ရှိရသော ရွှေပေစာချပ်များပင် ဖြစ်ပေသည်[၁]။ ၎င်းတို့၌ ရေးသားထားသော အက္ခရာအရေးအသားသည် ခရစ်နှစ် ၅-ရာစုအတွင်း ထင်ရှားခဲ့သော ဣန္ဒိယတောင်ပိုင်း ကဒမ္ဗအက္ခရာမျိုး ဖြစ်သည်ကို တွေ့ရှိရပေရာ ၎င်းရွှေပေစာများလည်း ခရစ်နှစ် ၅၀၀-ခန့်ကပင် ဖြစ်နိုင်ကြောင်း ခန့်မှန်းကြသည်။ ၎င်းရွှေပေစာများပေါ်၌ ရေးသားထားသော စာမျာမျာကား ဝိနည်း မဟာဝါပါဠိတော်မှ "ယေ ဓမ္မာ ဟေတုပ္ပဘဝါ" အစရှိသောဂါထာ, နိကာယ်ကြီး ၄-ရပ်နှင့် အဘိဓမ္မာပါဠိတော်မှ "စတ္တာရော ဣဒ္ဓိပါဒါ, စတ္တာရော သမ္မပ္ပဓာနာ" စသော တရားတော်များ, "ဣတိပိ သော ဘဂဝါ အရဟံ" စသော ရတနာ ၃-ပါး၏ဂုဏ်တော်များ ဖြစ်ပေသည်။ ၎င်းတို့ကို ပါဠိဘာသာဖြင့် ရေးသားထားသည်ကိုတွေ့ရသဖြင့် ပါဠိဘာသာသည်လည်း ခရစ်နှစ် နှစ်ဦးပိုင်းကပင် မြန်မာပြည်သို့ ရောက်ရှိနေသည်မှာ ထင်ရှားပေသည်။

ထိုသို့ အလွန်စောစွာ မြန်မာနိုင်ငံသို့ ပါဠိဘာသာရောက်လာခဲ့သော်လည်း ပုဂံမတိုင်မီဖြစ်သော ပြူခေတ်, မွန်ခေတ်တို့၌ ပါဠိဘာသာထွန်းကားခဲ့သည်ဟု အထိအကျယ်ဆရန်ကား ခဲယဉ်းလျက်ရှိသည်ကို တွေ့ရပေသည်၊ သထုံပြည် မနူဟာမင်း (အေဒီ ၁၂-ရာစု) ထံ၌ ပိဋကသုံးပုံ ပါဠိတော်များ ရှိကြောင်း ရာဇဝင်များအရ သိရပေသည်။ ပါဠိတော်ရှိလျှင် အဋ္ဌကထာ,ဋီကာတို့လည်း ရှိရမည်ပင် ဖြစ်သည်။ ယင်းတို့ရှိလျှင် ယင်းတို့ကို အမှီပြု၍ ထိုခေတ်ပညာရှိကြီးတို့သည် ပါဠိဘာသာဖြင့် ကျမ်းဂန်များကို ရေးသားပြုစုခဲ့မည်ပင် ဖြစ်သည်။ သို့သော်လည်း ၎င်းစာပေကျမ်းဂန်တို့သည် အနိစ္စသဘောအရ ပျက်စီးပျောက်ဆုံးကုန်သည့်အတွက် နောင်းခေတ်လူများလက်သို့ မရောက်ရှိခဲ့ခြင်းသာ ဖြစ်တန်ရာပေသည်။ အမည်မျှပင် ကြွင်းကျန်ခဲ့ခြင်းမရှိပဲ လုံးဝကွယ်ပျောက်သွားကြသည်မှာ မြန်မာနိုင်ငံပါဠိစာပေအဖို့ ဆုံးရှုံးမှုတရပ်ဟုပင် အသိအမှတ်ပြုရပေတော့မည်။

ယင်းသို့ ခေတ်ဦးပိုင်း မြန်မာနိုင်ငံပါဠိစာပေ အမွေအနှစ်ကို မရလိုက်သော်လည်း ပါဠိစာပေသမိုင်းအတွက် အားကိုးစရာအဖြစ်ဖြင့် ပုဂံခေတ်မှစ၍ ပေါ်ပေါက်ခဲ့သော ပါဠိစာပေကျမ်းဂန်များနှင့်တကွ ဂန္ထဝံသ, သာသနာလင်္ကာရစာတမ်း, ပိဋကတ်တော်သမိုင်း စသော ကျမ်းတို့ကား ရှိပေသည်။

ထိုတွင် ပိဋကတ်တော်သမိုင်းအရ မြန်မာနိုင်ငံတွင် အစောဆုံးပေါ်ခဲ့သော ပါဠိကျမ်းဂန်မှာ မနုသာရမူလသတ်ကျမ်းဟောင်း ဖြစ်ပေသည်။ ၎င်းကျမ်းကို ပုဂံပြည်၌ သက္ကရာဇ် ၁၆၃-ခုနှစ်

---

၁။ ၎င်းရွှေပေချပ်တို့တွင် မောင်ကန်ကုန်းမှ တွေ့ရှိရသော ရွှေပေချပ်များသည် ယခုအခါ အင်္ဂလန်ပြည် လန်ဒန်မြို့ ဗြိတိသျှပြတိုက်သို့ ရောက်ရှိနေသည်။ ခင်ဘကုန်းမှ တွေ့ရှိရသော ရွှေပေချပ် ၂၀-ကိုကား သီရိခေတ္တရာ ကုန်းမြေ ကမ္ဘာအေး ဘုရားအတွင်း၌ ပြသထားသည်ကို တွေ့ရှိနိုင်ပေသည်။ မောင်ကန်ကုန်း ရွှေပေချပ်များ အကြောင်းကို ရန်ကုန်တက္ကသိုလ် ပါဠိအသင်း မဂ္ဂဇင်း, အတွဲတစ်, အုပ်တနှစ် (သာသနာတော် ၂၅၀၀-ပြည့် အထိမ်းအမှတ်ထုတ်) စာစောင်, အင်္ဂလိပ်ဘာသာအပိုင်း, စာမျက်နှာ ၅၀-၅၃-တွင် သီရိပျံချီ ဦးသာမြတ် ရေးသားထားသည်ကို ဖတ်ရှုနိုင်ပေသည်။

နန်းတက်သော ပြုမင်းထီးလက်ထက် ပြုမင်းထီး[1] ၊ သိကြား ၊ ရသေ့ ဤ ၃-ယောက်သောသူမြတ်တို့ မာဂဓဘာသာဖြင့် စီရင်သည်ဟု သိရသည်[2]။

ဤမှုသတ်ကျမ်းများ၏နောက် ယခုအခါတွင် အလွယ်တကူတွေ့ရှိလေ့လာ ဖတ်ရှုနိုင်သော မြန်မာနိုင်ငံပါဠိစာပေခေတ်ဦး၏ သမိုင်းဝင်မှတ်တိုင်များကား —

မြစေတီကျောက်စာ[3] နှင့် ရွှေဂူကြီးဘုရားကျောက်စာတို့ပင် ဖြစ်ပေသည်။ ထိုကျောက်စာတို့တွင် မြစေတီကျောက်စာကို ပုဂံပြည် ကျန်စစ်မင်းကြီးနတ်ရွာစံသည့်နှစ်လောက်က ရေးထိုးခဲ့ခြင်းဖြစ်ပေသည်။ ၎င်းကျောက်စာ၌ ပါဠိ၊ မြန်မာ၊ မွန်၊ ပြူ ၄-ဘာသာတို့ဖြင့် ရေးထိုးထားရာ ပါဠိဘာသာဖြင့် ရေးထိုးထားသော မျက်နှာတွင် ပါဠိဂါထာများချည်း ရေးထိုးထားသည်ကို တွေ့ရသည်။ ၎င်းဂါထာများကို ကြည့်ရှုရခြင်းဖြင့် ထိုခေတ် ပုဂံပြည် ပါဠိစာပေ၏ အရည်အသွေးကို မှန်းဆနိုင်ပေသည်။ မှန်၏၊ ၎င်းကျောက်စာ၌ပါသော ဂါထာများမှာ သဒ္ဒါနည်းလည်းလှ၊ ဆန်းဂိုဏ်းလည်းကျသောဂါထာများချည်း ဖြစ်ပေသည်။ ထို့အတူပင် အလောင်းစည်သူမင်းကြီး၏ ကောင်းမှုတော်ဖြစ်သည့် ရွှေဂူကြီးဘုရား၌ ရေးထိုးထားသော ပါဠိကျောက်စာသည်လည်း အရေးအသား ညက်ညောစွာ အဆင့်အတန်းမြင့်သော ဂါထာတို့ချည်း ဖြစ်လေသည်။ ဤကျောက်စာ၏ ထူးခြားချက်ကား မြစေတီကျောက်စာမှာကဲ့သို့ မိမိရေးထိုးလိုသော အကြောင်းအရာကို ရိုးရိုးရေးထိုးထားခြင်းမဟုတ်ပဲ မင်းကြီး၊ ဘုရားဆုပန်ပုံကို ဂါထာ ၁၀၀-မျှဖြင့် အဆန်းတကျယ် တန်းဆာဆင်ကာ ရေးသားစီကုံးထားခြင်းပင်ဖြစ်ပေသည်။ ထို့ထက်ထူးခြားသည်မှာကား ၎င်းကျောက်စာ၏အဆုံး၌ ရွှေဂူကြီးဘုရား တောင် တည်သည့်နှစ်၊ ပြီးသည့်နှစ်တို့ကို သင်္ကေတဘာသာ ၃-ဂါထာတို့ဖြင့် ပြဆိုထားခြင်းပင် ဖြစ်လေသည်။

ပုဂံခေတ်မှာပင် မြန်မာတမျိုးသားလုံး ဂုဏ်ယူထိုက်သည့် ပါဠိကျမ်းစာတစောင် ပေါ်ထွက်ခဲ့သည်၊ ယင်းကား အရှင်အဂ္ဂဝံသမထေရ် ရေးသားအပ်သော သဒ္ဒနီတိခေါ် သဒ္ဒါကျမ်းကြီး ဖြစ်ပေသည်။ ၎င်းသဒ္ဒနီတိကား မိမိ၏ သုတ်ဝုတ္တိ၊ ဥဒါဟရဏ်တို့ဖြင့် သီးခြားရေးသားအပ်သော ကျမ်းဖြစ်၍ ကစ္စည်းသဒ္ဒါကြီး၏ အခွဲအစိတ်ဖြစ်သော ကျမ်းမဟုတ်ပေ။ ၎င်းကျမ်းကို ရေးသားရာတွင် ကျမ်းပြုဆရာတော်သည် မိမိခေတ်က ရှိသမျှသော ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ၊ ဂန္ထန္တရတို့နှင့်တကွ သက္ကတကျမ်းပေါင်းများစွာတို့ကို ၎င်းများအဲ့လှည့် အထပ်ထပ်ရှုကြည့်ပြီးမှ ရေးသားခဲ့ခြင်း ဖြစ်ပေသည်၊ ထို့ကြောင့်လည်း ဤကျမ်းကြီးသည် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာတို့မှ လာသော ဥဒါဟရဏ်တို့ဖြင့်၎င်း၊ သက္ကတကျမ်းများစွာမှ အဆိုအမိန့်များနှင့် ၎င်းအဆိုအမိန့်များကို စိစစ်ဝေဖန်ချက်တို့ဖြင့်၎င်း ဝေဆာလှပေသည်။ အကိုးအကားပြုရာတွင်လည်း ကျမ်းဂန် ငယ်သည်၊ ကြီးသည်ကို မခွဲခြားပဲ သာဓက မြောက်၊ မမြောက်ကိုသာ ဦးစားပေး

၁။ ယိုးမင်းယည်?

၂။ ပိဋကတ်တော်သမိုင်း စာမျက်နှာ ၂၃၃-၄။ ၎င်းသမိုင်း၌ပင် ပြဆိုအပ်သော ဒွတ္တပေါင်မင်း ဓမ္မသတ်ကျမ်းနှင့် ပြုမင်းထီးဓမ္မသတ်ကျမ်းတို့မှာ အပါယကတိမပါယံဂါထာ၊ အနေ့သုနဝသု ဓမ္မသတ္တေသုဂါထာတို့ဖြင့် အသီးအသီး အစချီသည်ဆိုသော်လည်း ၎င်းကျမ်းတို့သည် မာဂဓဘာသာသက်သက်ဖြင့် ရေးသားအပ်သော ကျမ်းဟု ကောက်မယူနိုင်သောကြောင့် ချန်လှပ်ထားခဲ့သည်။

၃။ ဤကျောက်စာကို စိုက်ထူစေသူမှာ ကျန်စစ်မင်းကြီးနှင့် တိလောကဝဋံသကာဒေဝီတို့၏ သားတော် ရာဇကုမာရမင်းသားတည်း။ ယင်းမင်းသား စိုက်ထူခဲ့သော ကျောက်စာဖြစ်၍ ဤကျောက်စာကို ယခုအခါ "ရာဇကုမာရ်ကျောက်စာ" ဟုလည်း အမည်မှည့်ကြသည်။ ဤနိဒါန်း၌ကား အသိများ၍ တွင်နေသော အမည်သို့လိုက်ပြီး မြစေတီကျောက်စာဟုပင် သုံးထားသည်။

သည်ကို တွေ့ရပေသည်။ ၎င်းကျမ်းတနေရာတွင် ကေကရကောသအမည်ရှိသော ဂါထာ ၃၂ပုဒ် မျှသာရှိသည့် သက္ကတကျမ်းကလေးကိုပင် ကိုးကားထားသည်ကို တွေ့ရပေသည်[၁]။

ယင်းကျမ်းကို ပဒမာလာ, ဓာတုမာလာ, သုတ္တမာလာဟု သုံးပိုင်းခွဲ၍ ပါဠိသဒ္ဒါကို ကျယ်ဝန်းစွာ ရေးသားခဲ့ပေရာ ယနေ့တိုင် ဤကျမ်းလောက် ကျယ်ဝန်းသော ပါဠိသဒ္ဒါကျမ်း မထွက်ပေါ်သေးချေ။ ပါဠိသဒ္ဒါကို ပြိုင်ဖက်ကင်းအောင် တတ်မြောက်သည်ဟု မိမိတို့ကိုယ်ကို ယူဆကြသည့် သိဟိုဠ်သား ရဟန်းတော်တို့သည်ပင် ဤသဒ္ဒနီတိကျမ်းကြီးကို တွေ့မြင်ဖတ်ရှုကြရသောအခါ ကျမ်းပြုဆရာတော် အရှင်အဂ္ဂဝံသမထေရ်၏ ကြီးမားလှသော ဉာဏ်ရည်စွမ်းပကားကို မချီးကျူးပဲ မနေနိုင်အောင် ရှိကြလေသည်[၂]။ ဤအရှင်အဂ္ဂဝံသမထေရ်သည် သက္ကရာဇ် ၅၁၆-ခုနှစ်၌ သဒ္ဒနီတိကျမ်းကို ရေးသားစီရင်ကြောင်း သာသနာလင်္ကာရစာတမ်း၌ ဆိုပေရာ[၃] ထိုအဆိုအတိုင်း မှန်လျှင် ဤအရှင်သည် အလောင်းစည်သူမင်းကြီးလက်ထက် ပေါ်ထွန်းခဲ့သော ပုဂ္ဂိုလ်ထူး တဆူ ဖြစ်ပေမည်။

သဒ္ဒနီတိကျမ်း ပေါ်ထွန်းပြီးနောက် ပုဂံခေတ်တလျှောက်တွင် များစွာသော ပါဠိကျမ်းတို့ ပေါ်ထွက်ခဲ့ရာ များသောအားဖြင့် သဒ္ဒါဖက်ဆိုင်ရာ ကျမ်းတို့သာ များလေသည်။ ယင်းသဒ္ဒါဖက်ဆိုင်ရာ ကျမ်းတို့သည် ကစ္စည်းသဒ္ဒါကျမ်း, မောဂ္ဂလ္လာန်သဒ္ဒါကျမ်း, သဒ္ဒနီတိသဒ္ဒါကျမ်း စသော ကျမ်းကြီးများကို ထောက်ဆ၍ သဒ္ဒါငယ်ကျမ်း အမည်ဖြင့် ထင်ရှားကြသည်။ ၎င်းတို့တွင် အထင်ရှားဆုံးကျမ်းတို့မှာ သဒ္ဒတ္ထဘေဒစိန္တာ, ကစ္စာယနသာရ, ကာရိကာ[၄] စသည်တို့ ဖြစ်လေသည်။

သဒ္ဒါကျမ်းများအပြင် သာသနာတော်ဆိုင်ရာ အခြားကျမ်းများလည်း ပေါ်ထွက်ခဲ့သည်ပင် ဖြစ်သည်။ ၎င်းတို့တွင် ဆပ္ပဒမထေရ် ရေးသားစီရင်အပ်သည့် နာမစာရဒီပကကျမ်းနှင့် ဝိနယဂူဠတ္ထဒီပနီကျမ်း, ပေါင်လောင်ရှင်ကဿပမထေရ်၏ မဟာမောဓိဝင် ဋီကာကျမ်းတို့မှာ ထင်ရှားသောကျမ်းများ ဖြစ်သည်။ သုတ္တနိဒ္ဒေသကျမ်းနှင့် သင်္ခေပဝဏ္ဏနာဋီကာကျမ်းတို့ကိုလည်း ပုဂံခေတ် ဆပ္ပဒ

---

၁။ သဒ္ဒနီတိပဒမာလာ, (ဆဋ္ဌမူ) နှာ-၃၂၁။

၂။ ဤသဒ္ဒနီတိကျမ်းကို Helmer Smith အမည်ရှိသော အနောက်တိုင်းသား ပါဠိ သက္ကတပညာရှင်ကြီး တဦးက ၁၉၂၈-ခုနှစ်မှစ၍ ရောမအက္ခရာဖြင့် ရိုက်နှိပ်ထုတ်ဝေခဲ့ရာ ယခုအခါ စာကိုယ် ၃-တွဲနှင့် အက္ခရာလိပ် ၂-တွဲ ထွက်ပေါ်ပြီးဖြစ်သည်။ ၎င်းစာအုပ်များကို တည်းဖြတ်ရာ၌ သဒ္ဒနီတိနိဿယမှ အရေးကြီးသော မြန်မာအနက်များကို ပါ အက္ခရာပယ်နည်းဖြင့် ပြဆိုထားသည်၊ ၎င်းပုဂ္ဂိုလ်ကြီး၏ကျေးဇူးကြောင့် ဥရောပနှင့်တကွသော သဒ္ဒနီတိကျမ်းကြီးသည် ကမ္ဘာသိကျမ်းကြီးအဖြစ်သို့ ရောက်ရှိနေပေပြီ။

၃။ စာမျက်နှာ ၁၁၈။ ပိဋကတ်တော်သမိုင်း (နှာ-၁၃၉)၌ကား သဒ္ဒနီတိကျမ်းကို ပုဂံပြည် ကျစွာမင်းလက်ထက် စီရင်အပ်ကြောင်း ဆိုသည်။ ဟံသာဝတီမြို့ သင်္ဘြောင်ကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတဆရာတော်အရှင် သောဘာနှင့်၏ မဟာဒွါရနိကာယသာသနဝံသဒီပနီ (နှာ-၁၁၃-၁၂၀)၌လည်း ပုဂံမြို့ မဟာအဂ္ဂပဏ္ဍိတစေတီကျောက်စာကို အထောက်အထားပြု၍ ပိဋကတ်တော်သမိုင်းကို ထောက်ခံထားသည်။ သာသနာလင်္ကာရစာတမ်း၌ ပြသော သက္ကရာဇ်အတွက် အထောက်အထား မတွေ့ရသေး။

၄။ ကာရိကာကို ကျန်စစ်မင်းလက်ထက် ပြုအပ်ကြောင်း သာသနာလင်္ကာရ စာတမ်း (၁၂၀)နှင့် ပိဋကတ်သမိုင်း (၁၄၀) တို့၌ ဆိုသည်၊ ထိုအတိုင်းမှန်လျှင် ကာရိကာကျမ်းသည် ပုဂံပြည်ဖြစ်ကျမ်းတို့တွင် အစောဆုံးကျမ်း ဖြစ်ပေမည်။

မထေရ်ရေးသည်ဟု သာသနာလင်္ကာရစာတမ်း (၁၁၈-၉)၌ ဆိုသည်။ ထိုအဆိုအတိုင်း မှန်လျှင် ယင်း ၂-ကျမ်းတို့ကိုလည်း ပုဂံခေတ်ပေါ် ကျမ်းများအဖြစ်ဖြင့် မှတ်ယူနိုင်ပေသည် [၁]။

ဤခေတ်တွင် ပါဠိစာပေလေ့လာမှုမှာ ရဟန်းတော်များသို့သာမကပဲ ဘုရင်စသော လူပုဂ္ဂိုလ်တို့သို့ပါ ပျံ့နှံ့သွားခဲ့သည်၊ ထို့ကြောင့်လည်း ပိဋကစာပေတတ်မြောက်သည်ဟု မြန်မာရာဇဝင်တွင် ကျော်ကြားသော ကျစွာမင်းကြီးသည် ပရမတ္ထဗိန္ဒုကျမ်းနှင့် သဒ္ဒဗိန္ဒုကျမ်းတို့ကို၎င်း၊ သံပျင်အမတ်သည် ဗျာသကျမ်း၏ အဖွင့်ဖြစ်သော ဗျာသပ္ပဒီပိကာခေါ် သံပျင်ဋီကာကို၎င်း ရေးသားနိုင်ခဲ့ခြင်း ဖြစ်ပေသည်။

နိဿယကျမ်းစာများလည်း ပုဂံခေတ်က အစပြုခဲ့သည်ကို တွေ့ရသည်။ မှန်၏၊ ပုဂံခေတ်နောက်ပိုင်း သက္ကရာဇ် ၆၈၇-ခုနှစ် ပုဂံမြို့တွင် နန်းတက်သော စောမွန်နှစ်မင်း၏ ညီတော် ရာဇသူနှင့် မြောက်သားတော် စောမြတ်လှတို့က မွေးဖွားသူ ညောင်ရမ်းသာဂရ ၂-မြို့စား ဂုဏ္ဍက္ကရာဇ်မင်းသားက ပုဂံမြို့တွင် ရွှေကျောင်းကြီးဆောက်လုပ် ကိုးကွယ်သည့် ဆရာတော်အရှင်ဂုဏဝဍ္ဎသကာသည် ဒီဃနိကာယ်ပါဠိတော် ၃-ကျမ်း၏ မြန်မာနိဿယများကို ရေးသားခဲ့ကြောင်းဖြင့် ပိဋကတ်တော်သမိုင်း[၂] တွင် လာရှိပေသည်။

ပုဂံခေတ်၏နောက် စစ်ကိုင်း, ပင်းယ, အင်းဝ, ဟံသာဝတီခေတ်တို့တွင်လည်း ပါဠိစာပေသည် ဝေဆာတိုးတက်ခဲ့ပေသည်။ ဤခေတ်များတွင် ပါဠိကျမ်းဂန်အများအပြား ပေါ်ပေါက်ခဲ့ရာ ၎င်းတို့တွင် ထင်ရှားသော ကျမ်းအချို့ကား အရှင်သဒ္ဓမ္မပါလ သိရိမဟာဓမ္မရာဇဂုရု ဆရာတော်၏ နေတ္တိဝိဘာဝိနီဋီကာကျမ်း, အရှင်ဉာဏကိတ္တိမထေရ်၏ ပါရာဇိကဏ်ယောဇနာနှင့် အဘိဓမ္မာယောဇနာကျမ်းများ [၃], အရှင်မဟာဝိဇိတာဝီ၏ ကစ္စာယနဝဏ္ဏနာကျမ်းနှင့် ဝါစကောပဒေသ

---

၁။ သတ္တုနိဒ္ဒေသနှင့် သမ္ဗန္ဓစိန္တာကျမ်းတို့၏ နိဂုံးတို့၌လာသော ဂါထာတို့တွင်ကား ဆပ္ပဒမထေရ်သည် သာသနာနှစ် ၁၈၉၀-ခုနှစ်တွင် သီဟိုဠ်သို့ကြွသည်ဟု ဆိုသောကြောင့် အထက်ပါကျမ်း ၂-ကျမ်းကိုပြုစုသော ဆပ္ပဒမထေရ်သည် သာသနာနှစ် ၁၇၁၇-ခုနှစ်၌ သီဟိုဠ်သို့ အရှင်ဥတ္တရာဇီဝမထေရ်နှင့် အတူကြွသော ဆပ္ပဒမထေရ် မဟုတ်နိုင်ပေ၊ ထုပါရုံဒါယကာ နရပတိကြီးလက်ထက် သီဟိုဠ်သို့ကြွသော ဒုတိယဆပ္ပဒမထေရ်သာ ဖြစ်ရပေမည်။ ထိုသို့ဖြစ်လျှင် ဤကျမ်းတို့သည် အင်းဝခေတ်ပေါ် ကျမ်းတို့သာ ဖြစ်သည်ဟု မှတ်ယူရပေမည်။ ဆပ္ပဒမထေရ်သည် သီဟိုဠ်ကျွန်းသို့ သာသနာနှစ် ၁၈၉၀-ခုနှစ်တွင် ကြွ၍ သိရိပရက္ကမဗာဟုမင်းကို အမှီပြုလျက် သာသနာတော်၏ အညစ်အကြေးကို သုတ်သင်တော်မူသည်။ ဇယဝဍ္ဎနအမည်ရှိသောမြို့၌ သိမ်လည်းသမုတ်တော်မူခဲ့သည်ဟု သတ္တုနိဒ္ဒေသနှင့် သမ္ဗန္ဓစိန္တာကျမ်းတို့၏ နိဂုံး၌ ဆိုထားသည်။ ထိုတွင် သိရိပရက္ကမဗာဟုမင်း ဟူသည်မှာ သာသနာနှစ် ၁၈၅၃-ခု၌ မင်းအဖြစ်သို့ရောက်သော ဆဋ္ဌပရက္ကမဗာဟုမင်းတည်း။ ဇယဝဍ္ဎနမြို့ဟူသည်မှာလည်း ထိုမင်း နန်းစံရာဖြစ်သည့် ယခုအခါ "ကောဋ္ဋေ (Kotte)" ဟု ခေါ်သည့်မြို့ဖြစ်သည်၊ ၎င်းမြို့သည် ယခုမြို့တော်ဖြစ်သော ကိုလံဘိုမြို့၏ အရှေ့ပိုင်းအရပ်များအနီး ဖြစ်သည်။ (ဆပ္ပဒမထေရ် ၂-ပါး အကြောင်းကို သီဟိုဠ် အရှင်ဗုဒ္ဓဒတ္တ၏ "Were there two Chappadas?" ဆောင်းပါးတွင်၎င်း, ဝံသဒီပနီ(၁၀၂)နှင့် မဟာဒွါရနိကာယသာသနဝံသဒီပနီ (၁၀၂၆ ၁၈၉-၇၇)တို့တွင်၎င်း ကြည့်။)

၂။ စာမျက်နှာ ၁၄၈။

၃။ ဤယောဇနာကျမ်းတို့ကို ယိုးဒယားတို့က ဇင်းမယ်ဖြစ်ကျမ်းဟုဆိုကြသည်။ ယိုးဒယားအက္ခရာဖြင့်လည်း ဤကျမ်းများကို ရိုက်နှိပ်ထားသည်ကို တွေ့ရသည်။ ဇင်းမယ်ဖြစ်ကျမ်းဟု ၎င်းတို့ဆိုခြင်းမှာ ကျမ်းနိဂုံးတို့တွင် ပါသော "အဘိနဝပုရ၏ အနောက်မြောက်ထောင့်အရပ်၌ တည်ရှိသော ပိန္နပင်ကျောင်း၌ သီတင်းသုံးသော ဉာဏကိတ္တိအမည်ရှိသောမထေရ် ရေးသားအပ်သော" ဟူသော စကားရပ်တွင် အဘိနဝပုရကို ထောက်၍ ဆိုခြင်းဖြစ်သည်၊ အဘိနဝပုရ၏အနက်မှာ မြို့သစ်ဖြစ်၏၊ ဇင်းမယ်ကို ယိုးဒယားသံဖြင့် "ချင်းမိုင်" ဟု ထွက်ရာ ချင်းမှာ မြို့ဖြစ်၍ မိုင်မှာ အသစ်ဟု အဓိပ္ပါယ်ထွက်သောကြောင့် အဘိနဝပုရဖြင့် ဇင်းမယ် ဆိုလိုသည်ဟု ယူဆကြခြင်းဖြစ်လေသည်။ သို့သော်လည်း အဋ္ဌသာလိနီယောဇနာ၏ နိဂုံး၌ ဂါထာများပါရှိရာ ၎င်းဂါထာတို့တွင်

သဒ္ဒါငယ်ကျမ်း၊ ဆုးတွင်းပစ်ဆရာတော်ဟု ထင်ရှားသည့် အရှင်နာဂိတမထေရ်၏ သဒ္ဒသာရတ္ထ-ဇာလိနီသဒ္ဒါငယ်ကျမ်း၊ ပင်းယ စတုရင်္ဂဗလအမတ်ကြီး၏ အဘိဓာန်ဋီကာကျမ်း၊ အရှင်အရိယဝံသမထေရ်၏ မဏိသာရမဉ္ဇူသာ ဋီကာကျမ်း၊ မဏိဒီပဋီကာကျမ်း၊ ဂန္ဓာဘရဏကျမ်းနှင့် ဇာတ်ဋီကာသစ်ကျမ်း၊ စစ်ကိုင်း အရှင်တေဇောသာရ၏ ပရိတ်ကြီးဋီကာကျမ်း၊ အရှင်တိလောကဂုရုဆရာတော်၏ ဓာတုကထာဋီကာဝဏ္ဏနာကျမ်း၊ အရှင်သဒ္ဓမ္မကိတ္တိဝရ၏ ကေတုမာလာသကျမ်း၊ တောင်ဖီလာဆရာတော်၏ ဝိနယာလင်္ကာရဋီကာကျမ်း၊ ဟံသာဝတီခေတ် အရှင်မဟာနာမထေရ်၏ မဓုဋီကာခေါ် မဓုသာရတ္ထဒီပနီဋီကာကျမ်း စသည်တို့ ဖြစ်လေသည်။

ဆိုခဲ့ပြီးခေတ်တို့တွင် ပါဠိသက်သက်စာပေသာမက ပါဠိနှင့်မြန်မာရောသောစာပေနှင့် ပါဠိကိုအမှီပြုသော မြန်မာစာပေတို့လည်း ထွန်းကားခဲ့ပေသည်။ ရွှေဥမင်ဆရာတော်၏ ဝိနည်းပါဠိတော်နိဿယနှင့် အဋ္ဌကထာနိဿယများ၊ အရှင်မဟာသီလဝံသ၏ နေတ္တိပါဠိတော်နိဿယ၊ နန်းကျောင်းဆရာတော်၊ ဒက္ခိဏာဝန်ဆရာတော်တို့၏ သဒ္ဒါကြီးနိဿယများ၊ ထိုထိုဆရာတော်တို့၏ မာတိကာအရကောက်စသော အကောက်ကျမ်းများ၊ အရှင်မဟာသီလဝံသ၊ အရှင်မဟာရဋ္ဌသာရတို့၏ ပျို့၊ လင်္ကာကျမ်းများ စသည်တို့ကား ဤခေတ်ပေါ်စာပေတို့တွင် ထင်ရှားသောကျမ်းအချို့ ဖြစ်ပေသည်။

ဤခေတ်အတွင်းမှာပင် စာဏကျနီတိ စသော သက္ကတနီတိတို့နှင့် အလားတူဖြစ်သော ပါဠိ-နီတိကျမ်းတို့ ပေါ်ထွက်ခဲ့သည်ကို တွေ့ရသည်၊ ၎င်းတို့တွင် စတုရင်္ဂဗလအမတ်ကြီး ရေးသားသည်ဆိုသော လောကနီတိနှင့် အရှင်မဟာသီလဝံသ၏ မဟာရဟနီတိတို့မှာ ထင်ရှားကျော်ကြားအသိများသော နီတိတို့ ဖြစ်ပေသည်။

၎င်းနောက် ကုန်းဘောင်ခေတ်တွင်လည်း အလားတူစာပေတို့ တိုးတက်ခဲ့ပေသည်။ ဤခေတ်တွင် ရှေးရေးကျမ်းတို့ကဲ့သို့ အရည်အသွေးမြောက်သော ပါဠိကျမ်းဂန်များ ထွက်ပေါ်ခဲ့သည်ကို တွေ့ရသည်၊ ၎င်းကျမ်းတို့ကား မောင်းထောင် သာသနာပိုင် ဆရာတော်၏ သီလက္ခန်-ဋီကာသစ်ကျမ်းနှင့် ပေဋကာလင်္ကာရခေါ် နေတ္တိမဟာဋီကာသစ်ကျမ်းတို့အပြင် ဆရာတော်ဦးဖုန်၏ နိရုတ္တိဘေဒသင်္ဂဟသဒ္ဒါငယ်ကျမ်း၊ ပဌမ ငါးခုန်ဆရာတော်၏ ခုဒ္ဒကပါဌဋီကာ၊ သမ္ဗန္ဓစိန္တာ-

---

'အတိဒုပ္ပသဟော, ဥဠာရမဟော, တေဇသေတိဘိန္ဒော'' ဟူသော ဂုဏ်တို့ဖြင့် အထူးပြု၍ သီဟသူရ (သီဟသူ) မင်းကို မိမိ၏ ကျောင်းဒကာအဖြစ်ဖြင့် ပြဆိုထားသည်ကို တွေ့ရသည်။ ''တေဇသေတိဘိန္ဒော=ဆင်ဖြူလေးစီး၏ အရှင်''ဟု ဆိုသဖြင့် ပင်းယခေတ် ဆင်ဖြူလေးစီးရှင် သီဟသူမင်း (ကျော်စွာမင်းဟုလည်း ခေါ်သည်)ကို ဆိုလိုကြောင်း ထင်ရှားသည်။၎င်းပြင် ဤယောဇနာတို့နှင့် တခေတ်တည်းပေါ်သော စတုရင်္ဂဗလ-အမတ်ကြီး၏ အဘိဓာန်ဋီကာနိဂုံးတွင်လည်း ''တေဇသေတိဘိန္ဒော, အတိဒုပ္ပသဟော, ဥဠာရမဟော'' ဟူသော ဂုဏ်ထူးတို့ဖြင့် သီဟသူမင်းကိုပင် ဂုဏ်ပြုထားသည်ကို တွေ့ရပေသည်။ ကျမ်းရင်းစာသားကို ကြည့်ရှုလေ့လာလျှင်လည်း ဤယောဇနာကျမ်းများ မြန်မာပြည်ဖြစ်ကျမ်းများ ဖြစ်ကြောင်း ထင်ရှားသည်။ မြန်မာနိုင်ငံ၌ တွင်ကျယ်သော ဝါကျာရမ္ဘ,ဒဠှီကရဏစသော အသုံးအနှုန်းများ,ပုဒ်များကို ရှုပ်ထွေးပြားရှုပ်၍ ကစ္စည်းသဒ္ဒါကြီးနှင့် မောဂ္ဂလ္လာန်သဒ္ဒါကျမ်းတို့မှ သုတ်များကို တိုက်ရိုက်ယူ၍ အသုံးပြုထားချက်များနှင့် ဓနုပ္ပတိပုဒ်နှင့် စပ်၍ ပုဂ်ဖြစ် သဒ္ဒနီတိကျမ်းကို အမည်ဖော်၍ ကိုးကားချက်များ စသည့် ထူးခြားချက်များသည် ဤကျမ်းတို့ မြန်မာပြည်ဖြစ်ကျမ်းဖြစ်ကြောင်းကို သေချာစွာ ညွှန်ပြလျက် ရှိသော အချက်အလက်တို့ပင် ဖြစ်လေသည်၊ သို့ဖြစ်၍ ဤယောဇနာကျမ်းတို့ကို ရေးသားသည့်ပုဂ္ဂိုလ်မှာ ပင်းယမြို့၌ နန်းစံသော ဆင်ဖြူလေးစီးရှင် သီဟသူမင်း (သက္ကရာဇ် ၇၁၂-၇၂၁) လက်ထက်တွင် ပေါ်ထွန်းခဲ့သော မြစ်ငယ်တောင် ပလိပ်ရွာအရှေ့ မြို့သစ်မြို့နေ အရှင်ဥာဏကိတ္တိမထေရ်ပင် ဖြစ်ကြောင်း ယုံကြည်စွာ မှတ်သားအပ်ပေသည်။ ပိဋကတ်တော်သမိုင်း၌ ကျမ်းပြုပုဂ္ဂိုလ်၏ဘွဲ့ကို ရှင်သိဒ္ဓိမင်္ဂလဟု ပြသည်၊ ယင်းဘွဲ့မှာ အရှင်ဥာဏကိတ္တိ၏ အခြားဘွဲ့အမည်တခုဟု ယူရန်ရှိပေသည်။

ဋီကာသစ်ကျမ်းများ စသည်တို့ ဖြစ်လေသည်။ ဘုရားကြီးဆရာတော်၏ ပါစိတျာဒိယောဇနာ ကျမ်း၊ သစ်ဆိမ့်ဆရာတော်၏ ကင်္ခါယောဇနာ မဟာဋီကာကျမ်းတို့သည်လည်း ဤခေတ်နောက်ပိုင်း၌ ထင်ရှားသော ပါဠိကျမ်းတို့ ဖြစ်ပေသည်။

ဤခေတ်တွင် နိဿယ, အရကောက်-စသော ပါဠိအမျိုး စာပေတို့ ပိုမိုမြောက်မြားစွာ ထွန်းကားခဲ့သည်ကိုလည်း တွေ့ရသည်။ ထိုတွင် တောင်တွင်းဆရာတော် ခင်ကြီးပျော်၏ ပုဒ်စစ်ကျမ်း၊ ညာသ်အရကောက်ကျမ်း၊ ယမိုက်ခက်ဆစ်နှင့် ပဋ္ဌာန်းအရကောက်ကျမ်းများ, ဆရာတော်ဦးဗုဒ်၏ ရူပသိဒ္ဓိနိဿယ, သဒ္ဒနီတိနိဿယ, ဘိက္ခုပါတိမောက် ဘိက္ခုနီပါတိမောက်နှင့် ခုဒ္ဒသိက္ခာနိဿယများနှင့် နေတ္တိဟာရဝိဘင်္ဂကျမ်းတို့အပြင် တောင်ဖီလာဆရာတော်၏ မာတိကာအရကောက်ကျမ်း စသည်တို့ ပါဝင်ပေသည်။

၎င်းပြင် ဤခေတ်၌ မြန်မာနိုင်ငံသာသနာဝင်နှင့် ဂန္ထဝင်ကို ပဓာနထား၍ ရေးသားအပ်သော မင်းတိုင်ပင်အမတ်ကြီး မဟာစည်သူကြံ၏ "သာသနာလင်္ကာရစာတမ်း"ခေါ် ကျမ်းစာတစောင် ပေါ်ထွက်ခဲ့ပေသည်၊ ဤကျမ်းကား ရတနာပုရ တော့ဖြူတည် နန်းတည် ဘဝရှင်မင်းတရားကြီး (ဘကြီးတော်ဘုရား)၏ အမိန့်တော်ဖြင့် အတွင်းဝန်ကြီး သိရိမဟာနန္ဒသကြံ မေးဆိုချက်ကို အမတ်ကြီးမဟာစည်သူကြံ ရေးသားဖြေဆိုအပ်သောကျမ်း ဖြစ်၍ ဤကျမ်း၌ ပဌမသင်္ဂါယနာတင်မှစ၍ ဘကြီးတော်ဘုရားလက်ထက်တိုင်အောင် သာသနာဝင်ဆိုင်ရာ မှတ်သားဖွယ် အဖြစ်အပျက်တို့ကို ပြဆိုထားသည်ကို တွေ့ရလေသည်။

ဤသာသနာလင်္ကာရစာတမ်းကိုပင် ကုန်းဘောင်ခေတ် နောက်ပိုင်းဖြစ်သည့် ရတနာပုံခေတ်၌ မောင်းထောင်ဆရာတော် အရှင်ပညာသာမိမထေရ်သည် သီဟိုဠ်ကျွန်း ဓမ္မညနိကာယကို စတင်တည်ထောင်သော သရဏင်္ကရဟူသောအမည်ဟောင်းရှိသော ဉာဏဝိမလသဘာဝရာဇာသာမိမထေရ်နှင့် အခြားမထေရ်တို့၏ တောင်းပန်ချက်ဖြင့် ပါဠိဘာသာသို့ ပြန်ဆို ရေးသားခဲ့လေသည်။ မန္တလေးမြို့တည် နန်းတည် ပဉ္စမသင်္ဂါယနာတင် ဘဝရှင်မင်းတုန်းမင်းတရားကြီး လက်ထက်တိုင်အောင်သော သာသနာဝင်ကိုပါ ထည့်သွင်း၍ ရေးသားထားသဖြင့် ပိုမိုစုံလင်သော သာသနာဝင်ကျမ်းစာတစောင် ဖြစ်လေသည်၊ ကျမ်းစာ၏အမည်ကိုလည်း "သာသနဝံသပ္ပဒီပိကာ"ဟု မှည့်လေသည်။ ဤကျမ်းသည် ပါဠိဘာသာဖြင့် ရေးသားအပ်သဖြင့် နိုင်ငံခြားသား ပါဠိပညာရှင်တို့ပါ ကြည့်ရှုနိုင်သောကျမ်း ဖြစ်ရကား သာသနာ့သမိုင်း, ပါဠိစာပေသမိုင်းတို့နှင့် ပတ်သက်၍ ၎င်းပညာရှင်တို့ မကြာမကြာ ကိုးကားဖော်ပြခြင်းကို ခံရသော ကမ္ဘာသိ မြန်မာဖြစ် ပါဠိကျမ်းစာတစောင် ဖြစ်လေသည်[၁]။

ဤရတနာပုံခေတ်တွင် မိမိ၏ သုတ်, ဝတ္ထု, ဥဒါဟရုဏ်များဖြင့် ရေးသားအပ်သည့် သီးခြား ပါဠိ-သဒ္ဒါကျမ်းတစောင် ထွက်ပေါ်ခဲ့သည်ကို တွေ့ရသည်၊ ၎င်းကား ယောအတွင်းဝန်မင်း ဦးဘိုးလှိုင်ရေးသားအပ်သည့် "သဒ္ဒဟင်္ဂဟ"ကျမ်း ဖြစ်လေသည်။ ၎င်းကျမ်းမှာ သိဒ္ဓန္တကောမုဒီခေါ် သက္ကတသဒ္ဒါကျမ်းကို များစွာအမှီပြု၍ ရေးသားအပ်သော ကျမ်းဖြစ်သဖြင့် အသုံးအနှုန်းများမှာ

---

၁။ ဤ သာသနဝံသပ္ပဒီပိကာကို လန်ဒန်ပါဠိစာပေအသင်း၏ ၁၈၉၇-ခုနှစ် ဂျာနယ်၌ ရောမအက္ခရာဖြင့်၎င်း၊ သာသနာနှစ် ၂၄၃၄-ခုနှစ်တွင် သီဟိုဠ်ကျွန်း သဒ္ဓမ္မဝံသမထေရ် တည်းဖြတ်၍ သီဟိုဠ်အက္ခရာဖြင့်၎င်း ရိုက်နှိပ်ထားလေသည်၊ B. C. law ကလည်း အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုထားပြန်ရာ ပါဠိမတတ်သော အင်္ဂလိပ်ပညာရှင်တို့ပင် ကြည့်ရှုလေ့လာနိုင်နေပေပြီ။

သက္ကတဆန်နေသည်ကို တွေ့ရသည်။ ယောမင်းကြီး၏ လက်ရာဖြစ်သည့်အတိုင်း တိကျပြတ်သားသော ဆုံးဖြတ်ချက်များကိုလည်း, ရှေးသဒ္ဒါကျမ်းအဆိုအမိန့်တို့ကို စိစစ်ချက်တို့ကိုလည်း တွေ့ရှိရသည်။ ၎င်းကျမ်းမှာ ပုံနှိပ်စာအုပ်အဖြစ်သို့ မရောက်ခဲ့သဖြင့် လူသိများသော ကျမ်းအဖြစ်သို့ မရောက်ခဲ့ချေ။ ရတနာပုံခေတ်ပေါ် သီးခြား ပါဠိသဒ္ဒါကျမ်းတစောင်ဖြစ်၍ မြန်မာတို့ ဂုဏ်ယူထိုက်သောကျမ်းတစောင် ဖြစ်လေသည်။

ဂဏ္ဌိကျမ်းများနှင့် ဝိနိစ္ဆယကျမ်းများလည်း ဤခေတ်တွင် အများအပြား ပေါ်ပေါက်ခဲ့ရာ ဆရာတော်ဦးသုတ၏ ပါရာဇိကဏ်ဂဏ္ဌိသစ်သည် ထင်ရှားသော ကျမ်းဖြစ်လေသည်။ ဤခေတ်၌ ပေါ်ထွက်ခဲ့သော နိသျတို့တွင်လည်း မြည်ဆရာတော်၏ အင်္ဂုတ္တိုရ်နိသျနှင့် ဝိသုဒ္ဓိမဂ် အင်္ဂုကထာနိသျတို့မှာ ယနေ့တိုင် ကျော်ကြားနေသောနိသျများ ဖြစ်ကြသည်။

ဤခေတ်မှနောက် မျှက်မှောက်ခေတ်တိုင်အောင် ပါဠိစာပေသည် မြန်မာပြည်၌ ထွန်းကားလျက်ပင်ရှိခဲ့ရာ ပါဠိဆိုင်ရာ စာပေကျမ်းဂန်များလည်း အမြောက်အမြား ထွက်ပေါ်ခဲ့သည်။ ထိုများစွာသော ကျမ်းတို့တွင် လယ်တီဆရာတော်၏ ပရမတ္ထဒီပနီ (ပါဠိ) ကျမ်းမှာ ကမ္ဘာကျော်ကျမ်းတကျမ်းပင် ဖြစ်ပေသည်။ ဆရာတော်၏ အခြားထင်ရှားသော ပါဠိကျမ်းမှာ နိရုတ္တိဒီပနီကျမ်းဖြစ်သည်၊ မြန်မာဘာသာဖြင့် ရေးသားအပ်သော ဆရာတော်၏ ဒီပနီကျမ်းများစွာတို့သည်လည်း သာသနာဝင် ရှင်လူအပေါင်းတို့၏ လောကုတ်လောကီ ၂-လီသောအကျိုးကို ယနေ့တိုင်ရွက်ဆောင်လျက်ရှိပေသည်။ လယ်တီဆရာတော်၏ ပရမတ္ထဒီပနီ ထွက်ပေါ်ပြီးနောက် တလိုင်းကုန်းဆရာတော်၏ အကုံရင့်ကာ, ဆရာတော် အရှင်ဉာဏိန္ဒာဘိဝံသ၏ ဝိဘာဝိနီယောဇနာ စသော ကျမ်းဂန်တို့လည်း အများအပြား ပေါ်ထွက်ခဲ့ပေသည်။

ဤခေတ်တွင် ပါဠိကိုအမှီပြုသော ပျို့လင်္ကာများလည်း အသင့်အတင့်ထွန်းကားသည်ကိုတွေ့ရသည်၊ ၎င်းတို့တွင် လောကီ-လောကုတ္တရာ ဗဟုသုတအမြှာမြှာတို့နှင့် ပြည့်စုံကြွယ်ဝ၍ အကျယ်ဝန်းဆုံး အပြည့်စုံဆုံးဟု ဆိုထိုက်သောကျမ်းမှာ မန်လည်ဆရာတော်၏ မဃဒေဝလင်္ကာသစ်ကျမ်းကြီးပင် ဖြစ်ပေသည်။ ယင်းကျမ်းကြီးသည် မြန်မာ့ပျို့ကဗျာစာပေသမိုင်းတွင် နောက်ဆုံးတောက်ထွန်းခဲ့သော မီးရှူးတန်ဆောင်ကြီးပင် ဖြစ်ပေတော့သည်။

ဆိုခဲ့ပြီးကျမ်းစာများမှတပါး အခြားအခြားသော ကျမ်းတတ်အကျော်အမော်ဖြစ်သည့် ထိုထိုဆရာတော်တို့ ရေးသားသော ကျမ်းဂန်များကိုကား ဤနိဒါန်းတွင် ပြည့်စုံအောင် ထုတ်ပြနိုင်မည် မဟုတ်၍ ဤမျှဖြင့်ပင် ပါဠိစာပေသမိုင်းအကျဉ်းကို အဆုံးသတ်ရပေတော့မည်။

## ၃

## ပါဠိအဘိဓာန်များ

ပါဠိဘာသာသည် ဣန္ဒိယပြည် ရှေးဟောင်းဘာသာများဖြစ်သည့် သက္ကတဘာသာ၊ ပြာကိုရ်ဘာသာတို့နှင့် လွန်စွာနီးစပ်ကြောင်းကို ဤနိဒါန်း အခန်း ၁-တွင် ပြဆိုခဲ့ပြီးပေပြီ။ ၎င်းဘာသာ ၂-မျိုးတို့တွင် သက္ကတဘာသာသည် အဋ္ဌာရသဝိဇ္ဇာခေါ် အတတ်ကြီး ၁၈-ရပ်၊ စတုသဋ္ဌိကလာခေါ် အတတ်ငယ် ၆၄-ရပ်၊ ဟိန္ဒူတရားကျမ်းဂန်များနှင့် မြောက်ပိုင်း ဗုဒ္ဓဘာသာ တရားကျမ်းဂန်တို့၏ တည်ရာ မှီရာဖြစ်သဖြင့် အလွန်များပြားကျယ်ဝန်းသော ဝေါဟာရသဒ္ဒါ၊ ပရိယာယ် ပုဒ်တို့ဖြင့် ပြည့်နက်လျက်ရှိပေသည်၊ သို့ဖြစ်လေရာ ထိုများပြားလှသော ဝေါဟာရတို့ကို သိမ်းကျုံးစုဆောင်းထားသော အဘိဓာန်ကျမ်းများလည်း အမြောက်အမြားပင်ရှိမည်မှာ ယုံမှားဖွယ်မရှိပေ။ ယင်းသို့ပေါ်ထွက်ခဲ့သော သက္ကတအဘိဓာန်ကျမ်းတို့တွင်လည်း အမရသီဟဆရာစီရင်သည့် အမရကောသခေါ် အဘိဓာန်ကျမ်းသည် အကျော်ကြားဆုံး၊ အသုံးအများဆုံးဖြစ်၍ အရပ်တကာတို့၌ပင် ပျံ့နှံ့လေသည်။ ထိုသို့ ပျံ့နှံ့ခြင်းမှာလည်း ၎င်းအမရကောသ အဘိဓာန်ကျမ်းသည် ပါဏိနိ စသောသဒ္ဒါကျမ်းတို့ဖြင့် စီရင်အပ်သော သဒ္ဒါများစွာကို သိမ်းကျုံး၍ယူခြင်း၊ သဒ္ဒါနည်း၍ အနက်များသော အဖွဲ့ရှိခြင်း၊ အစီအရင်ကောင်းခြင်း၊ နာမ်လိင် ၂-ပါးတို့ကို ကောင်းစွာပြခြင်းစသော ဂုဏ်တို့ကြောင့်ပင် ဖြစ်ပေသည်။

ယင်းသို့ အမရကောသ အဘိဓာန်ကျမ်းသည် တွင်ကျယ်ထင်ရှား အသုံးများသောကျမ်းဖြစ်သော်လည်း ၎င်းသည် သက္ကတဘာသာဖြင့် ပေါ်ထွက်ခဲ့သည့် အဘိဓာန်ကျမ်းများတွင် အစဆုံးပေါ်ထွက်ခဲ့သော ကျမ်းကား မဟုတ်ပေ။ ယနေ့ တွေ့မြင်အပ်သည့် သက္ကတအဘိဓာန်တို့တွင် ရှေးအကျဆုံး ပေါ်ထွက်ခဲ့သောကျမ်းကား နိဃဏ္ဍု ခေါ် ကျမ်းပင် ဖြစ်လေသည်။ ၎င်းကျမ်းမှာ ထိုခေတ်က ဣရု၊ ယဇု စသော ဝေဒကျမ်းများကို လေ့လာသူတို့ အလွယ်တကူ လေ့လာသက်ဝင်နိုင်စေရန် ၎င်းဝေဒတို့မှ ခက်ခဲသောပုဒ်တို့ကို ထုတ်နုတ်၍ စီစဉ်ရေးသားထားသော ပုဒ်အနက်မှတ်စုတမျိုးပင် ဖြစ်ပေသည်။

၎င်းကျမ်းသည် အမရကောသ-စသော နောက်ပေါ် အဘိဓာန်ကျမ်းတို့ကဲ့သို့ ကျယ်ဝန်းခြင်းမရှိပဲ ပုံနှိပ်ပြီးမှုနှင့် စာမျက်နှာ ၁၈-မျက်နှာမျှသာရှိသော ကျမ်းငယ်ကလေးဖြစ်သည်။ ၎င်းကျမ်းတွင် အဓျာယ (အခန်း) ၅-ခု ပါရှိရာ ပဌမ အဓျာယတွင် မြေကြီးအနက်ဟောပရိယာယ် ၂၁-ပုဒ်၊ ရွှေအနက်ဟော ပရိယာယ် ၁၅-ပုဒ်၊ ကောင်းကင်အနက်ဟော ပရိယာယ် ၁၆-ပုဒ် စသည်ဖြင့် အနက်တူ ပရိယာယ်ပုဒ်များကို စီစဉ်ပြသထားသည်၊ နောက် အဓျာယတို့၌လည်း ထို့အတူပင် အခြားအနက်ဟော ပရိယာယ်ပုဒ်တို့ကို စီစဉ်ရေးသားထားသည်ကို တွေ့ရှိရသည်။ ထူးခြားချက်မှာကား အမရကောသ-စသော နှောင်းခေတ်ပေါ် ကျမ်းများ၌ကဲ့သို့မဟုတ်ပဲ ကြိယာပုဒ်များကိုပါ အနက်တူရာစု၍ စီစဉ်ပြသထားခြင်းပင် ဖြစ်ပေသည်။ ဥပမာ-ဇလတိ (ထွန်းတောက်၏)ဟူသော ကြိယာပုဒ်နှင့် အနက်တူသော ကြိယာပုဒ်များကို "ဘြာဇတေ၊ ဘြာဂတေ၊ ဘြာဂျတိ၊ ဒီဒယတိ၊ ဓေါစတိ၊ မန္ဒတေ၊ ဘန္ဒတေ၊ ရောစတေ၊ ဇျောတတေ၊ ဒျောတတေ၊ ဒျုမတ်ဣတိ ကောဒဇ ဇွလတိကမ်ဝါအား[၁]" ဟု ပြဆိုထားခြင်းမျိုး ဖြစ်လေသည်။

ဤနိဃဏ္ဍုကျမ်းမျိုးကိုပင် ရည်ရွယ်၍ ပါဠိတော်တို့၌ ပညာတတ်ဗြာဟ္မဏတို့၏ ဂုဏ်အရည်အချင်းကို ပြရာတို့ဝယ် "နိဃဏ္ဍုကျမ်း၊ ကေဋုဘကျမ်းတို့နှင့်တကွ ဝေဒ ၃-ကျမ်းတို့ကို ကမ်းတဖက်

၁။ နိဃဏ္ဍု၊ ၁၁၁၆။

ရောက် တတ်မြောက်သည်[၁]"ဟု ဟောတော်မူခြင်းဖြစ်ပေမည်။ ထိုစကားမှန်၏၊ ဤနိဿယကျမ်းသည် ဝေဒ၏အခြံအရံဖြစ်သော ဝေဒင်္ဂကျမ်း ၆-ကျမ်းတို့တွင်ပါဝင်သည့် နိရုတ္တိကျမ်း၏မှီရာ တွဲဖက်ကျမ်းပင်ဖြစ်သည်။ ပါဠိတော်၌လည်း ဝေဒကျမ်း၏ အခြံအရံအနေဖြင့် နိဿယကျမ်းကို ပြဆိုထားရကား ဆေးကျမ်းတို့တွင် အပါအဝင်ဖြစ်သော ရာဇနိဃဏ္ဍုစသော ကျမ်းမျိုး ဖြစ်နိုင်စရာ အကြောင်းမရှိပေ။

ယင်းနိဿယကျမ်းသည် ဝေဒကိုလေ့လာသူတို့အား ကျေးဇူးပြုခဲ့သည် မှန်သော်လည်း နောက်၌ သက္ကတဘာသာသည် ကျယ်ပြန့်လာ၍ ဣတိဟာသ, ကာဗျ, နာဋက-စသော စာပေတို့ ထွန်းကားလာသောအခါ၌ကား ယင်းဖြင့် မလုံလောက်တော့သည်ဖြစ်၍ ထိုစာပေတို့ကို ခြုံနိုင်သော အမရကောသ-စသော အဘိဓာန်တို့ကို နောက်ဆရာတို့ရေးသားခဲ့ကြခြင်းဖြစ်ပေသည်။ ထိုသို့ရေးသားကြရာတွင်လည်း ဤနိဿယကျမ်းကလေးသည် ထိုအဘိဓာန်ကျမ်းသစ်တို့ စံနမူနာထားအပ်သည့် ရှေးပြေးကျမ်းကလေးပင် ဖြစ်တော့သည်။

ဆိုခဲ့ပြီးသည့် နိဿယကျမ်းနှင့် အမရကောသ-စသော သက္ကတအဘိဓာန်ကျမ်းတို့၌ လာသော သဒ္ဒါတို့သည် ပိဋကတော်နှင့် သင့်လျော်သည်လည်း ရှိ၍ မသင့်လျော်သည်လည်း ရှိ၏၊ ပါဠိဘာသာနှင့် သက္ကတဘာသာ ၂-မျိုးလုံးကို တတ်ကျွမ်းသူ ပေါများသော ပါဠိစာပေခေတ်ဦးပိုင်းတွင် ၎င်းအမရကောသ-စသော သက္ကတအဘိဓာန်ကျမ်းတို့ကပင် ပိဋကတော်အား အထိုက်အလျောက် ကျေးဇူးပြုခဲ့မည် ဖြစ်ပေသည်၊ ထို့ကြောင့်လည်း ထိုခေါ်ခေါပိုင်းအခါက ပါဠိ-မာဂဓအဘိဓာန်များ မပေါ်ထွက်ခဲ့ခြင်း ဖြစ်ဟန်တူပေသည်။

သာသနာတော်နှစ် ၁၇၀၀-လောက်သို့ ရောက်သောအခါတွင်မူကား မဟာပရက္ကမဗာဟုမင်းလက်ထက် သီဟိုဠ်ကျွန်း ပုလတ္ထိမြို့ ဇေတဝန်ကျောင်းတိုက်၌[၂] သီတင်းသုံးနေတော်မူသော အရှင်မောဂ္ဂလ္လာန် မထေရ်သည် အဘိဓာနပ္ပဒီပိကာခေါ် မာဂဓ အဘိဓာန်ကျမ်းကို ရေးသားပြုစုခဲ့ပေသည်။ ကျမ်း၏အစတွင် နိဿယကျမ်း၌ လာသော ပိဋကနှင့် သင့်လျော်သည်များကိုလည်း ထည့်သွင်း၍ ပြုစုသည်ဆိုသဖြင့် ဤကျမ်းကို မာဂဓသက်သက်ကိုသာ တတ်သူတို့အတွက် ကရုဏာရှေ့ထား၍ ရေးသားခဲ့သည်ကို သိနိုင်ပေသည်၊ ဤကို ထောက်၍လည်း ထိုခေတ်တွင် ပါဠိစာပေခေတ်ဦးပိုင်းမှာလောက် မာဂဓ, သက္ကတနှစ်ယံစုံတတ်သူတို့ မပေါ်များတော့သည်ကိုလည်း မှန်းဆနိုင်ပေသည်။

ယင်းမာဂဓအဘိဓာန်ကို ရေးသားရာ၌ အရှင်မောဂ္ဂလ္လာန်မထေရ်သည် သက္ကတဘာသာနှင့် ရှိနှင့်ပြီးဖြစ်သော အမရကောသအဘိဓာန်ကိုပင် စံနမူနာယူ၍ ရေးသားခဲ့ခြင်း ဖြစ်ပေသည်။ တကျမ်းလုံးအတွက် ကြိုတင်မှာထားချက်ဖြစ်သည့် ပရိဘာသာပိုင်းကို ပြဆိုရာ၌လည်း အမရကောသ၌

၁။ တက္ကသိုလ်ဝေဒါနံ ပါရဂူ သနိဿကျကေဋုဘာနံ။ ဒီ၊၁၊၈၊၂၈စသည်။

၂။ ပိဋကတ်တော်သမိုင်း (၁၄၅)၌ သီဟိုဠ်ကျွန်း, အနုရာဓမြို့တောင်, မဟာဝိဟာရကျောင်းတိုက်နေအရှင်မောဂ္ဂလ္လာန်ပြုသည်ဟု ဆိုသည်။ အဘိဓာန်နိဿယသစ် နိဒါန်းနှင့် The Pāli Literature of Ceylon, စာမျက်နှာ ၁၈၈-တို့ ကြည့်ပါ။

ပြထားသောနည်းကိုပင် ယူထားသည်ကို တွေ့ရသည်[၁]။ ကျမ်းအစိတ်အပိုင်း ဖြစ်သည့် ကဏ္ဍခွဲပုံ, ဝဂ်ခွဲပုံ, အမည်ပေးပုံတို့လည်း အမရကောသနှင့် အတန်ငယ်ဆင်တူလျက် ရှိသည်ကို တွေ့ရပေသည်။

ယင်းသို့ အမရကောသအဘိဓာန်ကို မှီငြမ်းပြု၍ အဘိဓာနပ္ပဒီပိကာကို ရေးသားခဲ့သည်ဆိုသော်လည်း အမရကောသကို မာဂဓဘာသာပြန်ဆိုရုံမျှကား မဟုတ်ပေ၊ ကျမ်းရေးသားပုံ အစီအစဉ်ကိုသာ မှီငြမ်းပြုခြင်း ဖြစ်လေသည်၊ အမှန်မှာ အရှင်မောဂ္ဂလ္လာန်သည် အဋ္ဌကထာ, ဋီကာနှင့်တကွသော နိကာယ် ၅-ရပ်, ပိဋက ၃-ပုံကို အထပ်ထပ်မွှေနှောက်ပြီးမှသာ ထို ပါဠိ, အဋ္ဌကထာ, ဋီကာ နည်းများနှင့်အညီ အဘိဓာနပ္ပဒီပိကာကို ရေးသားခဲ့ခြင်း ဖြစ်ပေသည်။

ထို့ကြောင့် မှန်၏၊ ပါဠိတော်, အဋ္ဌကထာတို့၌လည်း နောင်အခါ ထွက်ပေါ်လာမည့် အဘိဓာန်ကျမ်းတို့၏ ရွှေသွားစံနမူနာဖြစ်သည့် ဟောကြား, ရေးသားထားပုံမျိုးကို တွေ့ရှိရမည်ပင် ဖြစ်ပေသည်။ ၎င်းတို့ကား ကျမ်းသီးခြား တစောင်တဖွဲ့အနေမျိုးဖြင့် ရှိကြသည်ကား မဟုတ်ပေ, တစိတ်တဒေသအားဖြင့်သာ တွေ့ရှိရခြင်း ဖြစ်ပေသည်။ ယင်း တွေ့ရှိရသောစကားရပ်တို့သည်လည်း အဘိဓာန်အနေမျိုးဖြစ်စေလိုသည့် ရည်ရွယ်ချက်ဖြင့် ဟောကြားအပ်ခဲ့သည်မဟုတ်ပဲ ပုဒ်တခု၏ အနက်ကို ထင်ရှားစွာ သိမြင်နိုင်စေရန် ရှိသင့်သမျှသောအနက်တူ ဟောပုဒ်များနှင့် အချို့အရာတွင် ဟောနိုင်သမျှသော ပုဒ်နက်များကို ထုတ်ပြသည့်အနေဖြင့်သာ ဟောကြားခဲ့ခြင်း ဖြစ်ပေသည်။

ဥပမာအားဖြင့် ဓမ္မသင်္ဂဏီပါဠိတော်ဝယ် ဖဿ-ဟူသောပုဒ်၏ အနက်ကို အကျယ်ဖွင့်ပြရာ၌ "ဖဿော ဖုသနာ သံဖုသနာ သံဖုသိတတ္တံ[၂]" ဟူ၍၎င်း, စိတ္တပုဒ်၏အနက်ကို ဖွင့်ပြရာ၌ "စိတ္တံ မနော မာနသံ ဟဒယံ ပဏ္ဍရံ မနော မနာယတနံ မနိန္ဒြိယံ ဝိညာဏံ ဝိညာဏက္ခန္ဓော တဇ္ဇာ မနောဝိညာဏဓာတု[၂]" ဟူ၍၎င်း, ဝိတက္ကပုဒ်၏အနက်ကို ဖွင့်ပြရာ၌ "တက္ကော ဝိတက္ကော သင်္ကပ္ပေါ အပ္ပနာ ဗျပ္ပနာ စေတသော အဘိနိရောပနာ သမ္မာသင်္ကပ္ပေါ[၂]" ဟူ၍၎င်း, ပညာပုဒ်၏အနက်ကို ဖွင့်ပြရာ၌ "ပညာ ပဇာနနာ ဝိစယော ပဝိစယော ဓမ္မဝိစယော သလ္လက္ခဏာ ဥပလက္ခဏာ ပစ္စုပလက္ခဏာ ပဏ္ဍိစ္စံ ကောသလ္လံ နေပုညံ ဝေဘဗျာ စိန္တာ ဥပပရိက္ခာ ဘူရိ မေဓာ ပရိဏာယိကာ ဝိပဿနာ သမ္ပဇညံ ပတောဒေါ ပညာ ပညိန္ဒြိယံ ပညာဗလံ ပညာသတ္ထံ ပညာပါသာဒေါ ပညာအာလောကော ပညာဩဘာသော ပညာပဇ္ဇောတော ပညာရတနံ အမောဟော ဓမ္မဝိစယော သမ္မာဒိဋ္ဌိ[၃]" ဟူ၍၎င်း ရနိုင်သမျှသော ပရိယာယ်ပုဒ်တို့ကို ထုတ်၍ ဖွင့်ဆို ဟောကြားထားသည်တို့ကို တွေ့ရှိနိုင်ပေသည်။ နေတ္တိပါဠိတော် ပေဋကောပဒေသ်စသည်တို့၌လည်း ဤဖွင့်ပုံမျိုးကို တွေ့ရှိနိုင်သည်ပင် ဖြစ်သည်။

မဟာနိဒ္ဒေသ, စူဠနိဒ္ဒေသ ပါဠိတော်တို့၌လည်း အလားတူ ဖွင့်ဆိုချက်များကို တွေ့ရသည့်ပြင် ကိတ်ပစ္စည်းအဆုံးရှိသောပုဒ်နှင့် အာချာတ်ကြိယာပုဒ် စသည်တို့ကိုပင် ပရိယာယ်ပုဒ်များစွာဖြင့် ဖွင့်ပြသည်ကို တွေ့ရသည်။ အမြွက်မျှထုတ်ပြရသော်——

၁။ အောက်ပါ ဂါထာ ၂-ပုဒ်ကို ယှဉ်ကြည့်ပါ။

ပါယဘော ရူပဘေဒေန၊ သာဟစရိယာ စ ကုတြစိ။
ထီပုံနပုံသကံ ဒွေ ယံ၊ တဒွိသေသဝိဓိ ကွစိ။ (အမရကောသ)။
ဘိယျော ရူပန္တရာ သာဟစရိယေန စ ကတ္ထစိ။
ကွစာဟစ္စဝိဓာနေန၊ ဒွေ ယံ ထိပုံနပုံသကံ။ (အဘိဓာနပ္ပဒီပိကာ)။

၂။ အဘိ၊ ၁၁၁။ ၃။ အဘိ၊ ၁၉။

"ကာမယမာနဿာတိ ကာမယမာနဿ ဣစ္ဆမာနဿ သာဒိယမာနဿ ပတ္ထယမာနဿ ပိဟယမာနဿ အဘိဇပ္ပမာနဿ။ သမိဇ္ဈတီတိ ဣဇ္ဈတိ သမိဇ္ဈတိ လဘတိ ပဋိလဘတိ အဓိဂစ္ဆတိ ဝိန္ဒတိ[၁]" စသည်တို့တည်း။

အဋ္ဌကထာ၊ ဋီကာတို့၌ကား ဤနည်းမျိုးအပြင် ပုဒ်တခုက ဟောနိုင်သမျှသော အနက်တို့ကို ထုတ်ပြသည့်နည်း[၂] (ယခုခေတ် အဘိဓာန်ရေးနည်းမျိုး) များကိုပါ ဥဒါဟရဏ် ပုံစံများနှင့်တကွ ဖွင့်ပြသည်တို့ကို တွေ့ရပေသည်။

ဤဆိုခဲ့ပြီးသော အဖွင့်စကားရပ်တို့သည်ပင် အဘိဓာနပ္ပဒီပိကာကိုပြုစုသောအရှင်မောဂ္ဂလ္လာန်၏ အားထားရာ မှီခိုရာ ဖြစ်ခဲ့မည်မှာ ယုံမှားဖွယ်မရှိပေ။

အဘိဓာနပ္ပဒီပိကာ၌ ပါဝင်သောအခန်းများကား— သဂ္ဂကဏ္ဍ၊ ဘူကဏ္ဍ၊ သာမညကဏ္ဍ-ဟု အပိုင်းကြီး ၃-ပိုင်းဖြစ်ပေသည်။ ၎င်း ၃-ပိုင်းကိုပင် သဘောတရားပေါ်၌ ခွဲလျှင်ကား အပိုင်းကြီး ၂-ပိုင်းခွဲခြားနိုင်ပေသည်။ ထိုတွင် အနက်တူဝေါဟာရပုဒ်တို့ကိုပြသည့် အပိုင်းကို ပဌမပိုင်းဟု သတ်မှတ်၍ ဝေါဟာရပုဒ်တခု၏ ဟောနိုင်သောအနက်များကိုပြသည့်အပိုင်းကို ဒုတိယပိုင်းဟု သတ်မှတ်နိုင်ပေသည်။ ထိုသို့သတ်မှတ်လျှင် ပဌမပိုင်း၌ သဂ္ဂကဏ္ဍ၊ ဘူကဏ္ဍနှင့် သာမညကဏ္ဍမှ အချို့ဝဂ်များပါဝင်၍ ဒုတိယပိုင်း၌ သာမညကဏ္ဍမှ အနေကတ္ထဝဂ်နှင့် အဗျယဝဂ်တို့ ပါဝင်ပေမည်။

အပိုင်းကြီး ၃-ပိုင်းတို့တွင် သဂ္ဂကဏ္ဍ၌ ဘုရားအနက်ဟော ဝေါဟာရပုဒ်များကို ရှေးဦးစွာပြ၍ ၎င်းတို့နောက်၌ နိဗ္ဗာန်အနက်ဟောပုဒ်များ၊ ရဟန္တာအနက်ဟောပုဒ်များ၊ နတ်ပြည်အနက်ဟော ပုဒ်များ၊ အသုရာအနက်ဟောပုဒ်များ စသည်ဖြင့် နတ်လောကနှင့်ဆိုင်သော ပရိယာယ် သဒ္ဒါများနှင့်တကွ သာသနာဆိုင်ရာ အသုံးအနှုန်းများဖြစ်သည့် ကုသိုလ်၊ အကုသိုလ်၊ ဖဿ၊ ပညာ၊ စိတ်၊ ဝီရိယ စသည်တို့၏ ပရိယာယ်ပုဒ်များနှင့် အခြားအနက်ဟော ပရိယာယ်ပုဒ်များကို စုပေါင်းပြဆိုထားလေသည်။ ဘူကဏ္ဍကိုကား ဘူမိဝဂ်၊ ပုရဝဂ်၊ နရဝဂ်၊ စတုဗ္ဗဏ္ဏဝဂ်၊ အရညဝဂ်၊ သေလဝဂ်၊ ပါတာလဝဂ် ဟု အပိုင်းငယ်ကလေးများ ခွဲခြား၍ ထားပြန်သည်။ ထိုတွင် ဘူမိဝဂ်၌ မြေကြီးဆိုင်ရာ ဝေါဟာရများ၊ ပုရဝဂ်၌ မြို့ပြ ပြည်ရွာ အဆောက်အဦဆိုင်ရာ ဝေါဟာရများ၊ နရဝဂ်၌ လူဆိုင်ရာ ဝေါဟာရများ၊ စတုဗ္ဗဏ္ဏဝဂ်၌ ခတ္တိယ ဗြာဟ္မဏ ဝေဿ သုဒ္ဒ-ဟူသော အမျိုးလေးပါးဆိုင်ရာ ဝေါဟာရများ၊ အရညဝဂ်၌ တောနှင့် သစ်ပင် ဆေးမြစ်ဆိုင်ရာ ဝေါဟာရများ၊ သေလဝဂ်၌ တောင်ဆိုင်ရာ ဝေါဟာရများ၊ ပါတာလဝဂ်၌ နဂါးပြည်စသော အောက်လောကဆိုင်ရာ ဝေါဟာရများကို ပြဆိုထားလေသည်။ သာမညကဏ္ဍကိုလည်း ဝိသေသျာဓိနဝဂ်၊ သံကိဏ္ဏဝဂ်၊ အနေကတ္ထဝဂ်၊ အဗျယဝဂ် ဟု ခွဲခြားထားသည်။ ထိုတွင် ဝိသေသျာဓိနဝဂ်၌ လိင် ၃-ပါးနှင့် ဆက်ဆံသော ဝိသေသနပုဒ်များကိုငင်း၊ သံကိဏ္ဏဝဂ်၌ အထွေထွေ ဝေါဟာရများကိုငင်း၊ အနေကတ္ထဝဂ်၌ အနက်အများကိုဟောသော ပုဒ်များကို ၎င်းတို့ဟောနိုင်မည့် အနက်တို့နှင့်တကွငင်း၊ အဗျယဝဂ်၌ နိပါတ်ပုဒ်၊ ဥပသာရပုဒ်တို့နှင့် ၎င်းတို့၏ အနက်တို့ကိုငင်း စုပေါင်းပြဆိုထားပေသည်။

ဤသို့လျှင် အဘိဓာနပ္ပဒီပိကာသည် ၁၂၀၀-မျှသော ဂါထာတို့ဖြင့် များစွာသော ဝေါဟာရ သဒ္ဒါတို့ကို သိမ်းကျုံးယူငင်၍ ရေးသားအပ်ရကား ယနေ့တိုင်အောင်ပင် ပါဠိစာပေကို လိုက်စားသော ရဟန်းရှင်လူတို့အား ကျေးဇူးများစွာပြုလျက် ရှိပေသည်။

---

၁။ မဟာနိ။ ၂။

၂။ အတ္ထုဒ္ဓါရဖွင့်နည်းမျိုးကို ဆိုလိုသည်။ ဤနည်းကို ထိုထို အဋ္ဌကထာတို့၌ အလွယ်တကူ ရှာဖွေ တွေ့ရှိနိုင်ပေသည်။

# တိပိဋက ပါဠိ-မြန်မာအဘိဓာန်

အဘိဓာနပ္ပဒီပိကာ ပေါ်ပြီးသည့်နောက် ၎င်း၏အဖွင့်ဋီကာများကို သီဟိုဠ်ကျွန်း၌ ရေးသားခဲ့သည်ဟု သမိုင်းမှတ်တမ်းများ၌ မတွေ့ရပေ၊ သီဟိုဠ်ဆရာတို့ မရေးသားခဲ့ကြ၍ပင် မှတ်တမ်းများ၌ မတွေ့ရခြင်း ဖြစ်သည်ဟု မှတ်ယူရပေသည်။ မြန်မာနိုင်ငံမှာကား ပင်းယခေတ် ဆင်ဖြူလေးစီးရှင် သီဟသူမင်းလက်ထက် သာသနာနှစ်-၁၈၅၉ သက္ကရာဇ် ၇၁၄-ခုနှစ် အရောက်တွင် သိရိမဟာစတုရင်္ဂဗလ-အမတ်ကြီးသည် အဘိဓာန်ဋီကာကျမ်းကို ရေးသားခဲ့ရာ ယခုတိုင် သာသနာတော်တွင် အသုံးများ၍ ထင်ရှားသောကျမ်း ဖြစ်လေသည်။ အမတ်ကြီးသည် မိမိကိုယ်တိုင် မာဂဓ[1] သက္ကတဗျာကရဏ်းကျမ်းတို့၌ အဝါးဝစွာ တတ်မြောက်သည်ဖြစ်၍ သက္ကတကျမ်းပေါင်းများစွာကို အကိုးအကားပြု၍ အဘိဓာန်ဋီကာကို ရေးသားခဲ့ခြင်းဖြစ်ရာ အရေးအသားကပင် သက္ကတဆန်နေသည်ကို တွေ့ရပေသည်။ သက္ကတဋီကာများနည်းတူ အဘိဓာနပ္ပဒီပိကာလာပုဒ်တိုင်းကို ခေတ်ပစ္စည်းခွဲ၍ ဝိဂ္ဂဟ် ဝစနတ် လှစ်ဆိုထားသဖြင့် ပုဒ်တခု၏ခေတ်ပစ္စည်းနှင့် ဝိဂ္ဂဟ်ကိုသိလိုလျှင် ဤအဘိဓာန်ဋီကာကိုပင် အားကိုးကြရသည်၊ သို့ဖြစ်၍လည်း ဤကျမ်းသည် စာချ စာသင် ရှင်လူရဟန်းတို့ အမြဲမပြတ် လက်စွဲပြု၍ အသုံးပြုရသော ကျမ်းတစောင်အဖြစ် ထင်ရှားခြင်း ဖြစ်ပေသည်။

အဘိဓာန်ဋီကာသည် ဝိဂ္ဂဟ်, ဝစနတ်, ခေတ်, ပစ္စည်းခွဲနှင့် ပတ်သက်လျှင် အားကိုးအားထားပြုရသော ကျမ်းဖြစ်သည်မှန်သော်လည်း အဘိဓာနပ္ပဒီပိကာလာပုဒ်တို့ကို အစဉ်အတိုင်း ဖွင့်ဆိုထားသဖြင့် အလိုရှိသော ပုဒ်ကို အချိန်မကုန်ပဲ ရှာဖွေတွေ့ရှိနိုင်ရန် ခဲယဉ်းလျက်ပင် ရှိခဲ့ပြန်သည်၊ သို့ဖြစ်၍ ကြည့်ရှုရှာဖွေရာ၌ လွယ်သည်ထက် လွယ်အောင် စီစဉ်ရန် လိုအပ်လျက်ရှိလေရာ ယင်းလိုအပ်ချက်ကို သီဟိုဠ်ကျွန်း အရှင်သုဘူတိမထေရ်က ဖြည့်စွက်ခဲ့လေသည်။ ၎င်းမထေရ်စီစဉ်အပ်သည့် အဘိဓာနပ္ပဒီပိကာသူစိခေါ် ကျမ်းကား အဘိဓာန်ဋီကာ၌ ဝိဂ္ဂဟ်ဆို၍ ခေတ်ပစ္စည်းခွဲထားသမျှသော ပုဒ်တို့ကို အက္ခရာစဉ်ဖြင့် စီစဉ်ပြီးလျှင် ဆိုင်ရာဝိဂ္ဂဟ်စသည်တို့ကို ၎င်းပုဒ်များနှင့်အတူ ယှဉ်တွဲလျက် စီစဉ်ရိုက်နှိပ်ထားရာ အချိန်မကုန်ပဲ မိမိအလိုရှိသောပုဒ်၏ ဝိဂ္ဂဟ်စသည်ကို အလွယ်တကူတွေ့ရှိနိုင်သော ကျမ်းဖြစ်လေသည်။ အရှင်သုဘူတိမထေရ်သည် အဘိဓာန်ဋီကာလာ စကားရပ်တို့ကို စီစဉ်ရုံမျှသာ မဟုတ်ပဲ အချို့နေရာများ၌ သဒ္ဒနီတိနှင့် သက္ကတကျမ်းတို့မှ ဆိုင်ရာမှတ်သားဖွယ်တို့ကိုလည်း ဖြည့်စွက်ထားပေသေးရာ ၎င်းကျမ်းသည် သာ၍ပင် နှစ်သက်ဖွယ် ဖြစ်ပြန်လေသည်။

## အဘိဓာန်နိဿယများ

ပုဂံခေတ်၌ အဘိဓာန်နိဿယများ ပေါ်ထွက်ခဲ့သည်ဟု မှတ်တမ်းများ၌ မတွေ့ရပေ၊ သက္ကရာဇ် ၈၀၄-ခုနှစ်တွင် ရေးထိုးသည့် ပုဂံ ဇက်ကြီးအင်း တက်နွယ်ကျောင်း ကျောက်စာ၌မူကား ကျောင်းနှင့် တပါတည်း လှူသော ပိဋကပေစာများစာရင်းတွင် "အဘိဓာန်နိဿယရေးသည်[2]"ဟု တွေ့ရသည်၊ ထို့ကြောင့် ၎င်းအချိန်၌ အဘိဓာန်နိဿယထွက်ပေါ် လျက်ရှိနေပြီကို သိနိုင်ပေသည်။ မည်သည့်ခေတ်က ပေါ်သည်ဟု အတိအကျ ပြောဆိုရန် မဖြစ်နိုင်သော်လည်း ပင်းယခေတ်မှာပင် ပေါ်သည်ဟု ယူဆနိုင်ပေသည်။

---

၁။ အဘိဓာန်ဋီကာဆရာကိုးကားခဲ့သောကျမ်းစာတို့တွင် အချို့ကား-အမရကောသ, အမရကောသဝိဝရဏပဉ္စိကာ, နာနတ္ထသင်္ဂဟ, ကာတန္တ, ရုဒ္ဒကျမ်း, သူရိယသိဒ္ဓန္တ, ဟေကနေကာသ, ရတနကောသ, ရဘသ, ရတနမာလာ, နိဃဏ္ဍုယာ, မာလာဋီကာ, မေဓာ့တကာဗျ, နာမလိင်္ဂာနုသာသနတို့ ဖြစ်လေသည်။

၂။ ထေရ်ပမျက်နှာ, ကျောင်းအမှတ် ၂၇။

ထို့အတူပင် သက္ကရာဇ်-၁၁၀၀ မတိုင်မီအတွင်း အဘိဓာန်နိဿယများ ပေါ်ထွက်လျက်ရှိပြီကို ကျမ်းဂန် အထောက်အထားအရ သိရှိရပြန်သည်။ ယင်းကျမ်းဂန် အထောက်အထားကား အင်းဝခေတ်နောက်ဆုံးမင်းဖြစ်သည့် မဟာဓမ္မရာဇာဓိပတိ-ဘွဲ့ခံ ဟံသာဝတီပါ မင်းတရားလက်ထက် သက္ကရာဇ် ၁၁၀၈- ခုနှစ်တွင် ကျော်အောင်စံထား ဆရာတော် စီရင်အပ်သည့် အဘိဓာန်နိဿယပင် ဖြစ်လေသည်။ ၎င်းနိဿယ၌ ပဏာမခန်းတွင် ရှေးနိဿယတို့၌ အယုတ်အလွန် မညီမညွတ်ရှိသည်ကို ဘုရင်မင်းမြတ်မြင်တော်မူ၍ သတိုးမင်းကြီးအမည်ရှိသော အဂ္ဂသေနာပတိအမတ်ကြီးအား တဆင့် လျှောက်ထားတောင်းပန်စေသဖြင့် ယင်းနိဿယကို ရေးရကြောင်း ပြဆိုလျက် ရှိလေသည်၊ ထို့ပြင် ၎င်းနိဿယ ၁၅-ဂါထာ၌ “ဤတွင် ရှေးနိဿယတို့၌ ရှေ့ဟူသော ကိုယ်ရှိသည်ဟု သမှန်လေသည်ကား မှားလေစွ”ဟု၎င်း၊ ၃၄-ဂါထာ၌ “ရှေးနိဿယတို့၌ အပမေ-ပုဒ်ဖြတ်၍ ဣတ္ထိလိင်နပုံလိင်၌-ဟု သမှန်သည်ကား ဋီကာနှင့်မညီ” ဟု၎င်း၊ ၁၅-ဂါထာ၌ “ရှေးနိဿယတစောင်၌ မီးသေးဟု သမှန်သည်ကား မသင့်စနိုး”ဟု၎င်း ဤသို့စသည်ဖြင့် ရှေးနိဿယတို့ကို ရည်ညွှန်း၍ ပြဆိုအပ်သော အရာဌာနတို့ကို အတော်များများ တွေ့ရလေသည်၊ ဤတွေ့ရှိချက်များကပင် ကျော်အောင်စံထားနိဿယ မပေါ်မီ အနည်းဆုံး အဘိဓာန်နိဿယ ၂-စောင်ရှိပြီးဖြစ်သည်ကို ညွှန်ပြလျက် ရှိလေသည်။

ယနေ့ တွေ့မြင်အပ်သည့် အဘိဓာန်နိဿယတို့တွင် ရှေးအကျဆုံးနိဿယကား ပဌမ ကျော်အောင်စံထားဆရာတော် ရေးသားအပ်သော နိဿယပင်ဖြစ်ပေသည်၊ ၎င်းနိဿယမှာ စတုရင်္ဂဗလ အမတ်ကြီး၏ အဘိဓာန်ဋီကာကိုပင် မှီငြမ်းပြု၍ ရေးသားထားသော နိဿယဖြစ်၏၊ ပုဒ်တို့ကို အနက်ပေးရာ၌ ဗျူပ္ပတ်ပေါ်လွင်အောင် အနက်ပေးထားသဖြင့် နိဿယနက်ကိုရလျှင် ဋီကာကိုပါ အထိုက်အလျောက် ၎င်းမိနိုင်သော နိဿယဖြစ်ပေသည်၊ ထို့ကြောင့်လည်း ၎င်းနိဿယသည် ယနေ့တိုင်အောင် သာသနာဝင် ပုဂ္ဂိုလ်တို့နှင့်တကွ ပါဠိဘာသာကို လိုက်စားသော မြန်မာအမျိုးသားတို့အဖို့ အားကိုးရာတဆူ ဖြစ်ခဲ့လေသည်။

ယင်းသို့ ၎င်းနိဿယသည် အားကိုးရာတဆူ ဖြစ်ခဲ့သော်လည်း ၎င်း၌ ထင်ရှားသော မှားယွင်းချက်အချို့ပါရှိနေခဲ့လေသည်၊ ထို့ကြောင့်ပင် ပုဂံမင်းလက်ထက် သံတော်ဆင့်မင်း မဟာဇေယျသင်္ခယာ ဦးချိန်[၁] သည် ကျော်အောင်စံထား အဘိဓာန်နိဿယ၌ တွေ့ရှိရသော မှားယွင်းချက်တို့ကို သုတ်သင်သည့် အဘိဓာနတ္ထဝိသောဓနီမည်သော ကျမ်းစာတစောင်ကိုရေးသားခဲ့ခြင်းဖြစ်လေသည်။

သက္ကရာဇ် ၁၂၇၇-ခုနှစ်သို့ ရောက်သောအခါမှာမူကား အဘိဓာန်နိဿယ တစောင် ထပ်မံပေါ်ထွက်ခဲ့ပြန်သည်၊ နောက်ပေါ်နိဿယဖြစ်သဖြင့် ကျော်အောင်စံထားဆရာတော်၏ နိဿယမှ ထောက်၍ ၎င်းကို အဘိဓာန်နိဿယသစ်ဟု အမည်တပ်လေသည်၊ ဤနိဿယကို နိဿယသစ်ဟုခေါ်သဖြင့် ကျော်အောင်စံထားဆရာတော်၏ နိဿယမှာလည်း အလိုလိုပင် နိဿယဟောင်းဟူသောအမည်ကို ရလေတော့သည်။ ၎င်းအဘိဓာန်နိဿယသစ်ကို ရေးသားစီရင်သည့်ပုဂ္ဂိုလ်မှာ မာဃ, သက္ကတ ၂၄၅၁ သို့၌ တဖက်ကမ်းရောက် တတ်မြောက်ကျွမ်းကျင်တော်မူသော မန္တလေးမြို့ အဘယာရာမ ရွှေကူတိုက် အဂ္ဂမဟာပဏ္ဍိတ အဘယာရာမဆရာတော်ပင် ဖြစ်ပေသည်။ ဋီကာနှင့် နိဿယဟောင်း ရှိပြီးဖြစ်လျက် နိဿယသစ်တစောင်ကို ထပ်မံရေးသားရခြင်း၏ အကြောင်းကိုလည်း ဆရာတော်က နိဿယသစ်နိဒါန်းတွင်—

---

၁။ ဤပုဂ္ဂိုလ်သည် မင်းတုန်းမင်းတရားကြီးလက်ထက် အတွင်းဝန်, လှေသင်းဝန် ဖြစ်လာသည်။

"...... အဘိဓာန်ဋီကာသည် ဤမြန်မာပြည်တွင် ထင်ရှားကျော်ကြားအသုံးများသော်လည်း ကျမ်းရင်းဆရာကဲ့သို့ အဋ္ဌကထာနှင့်တကွ နိကာယ်ငါးရပ်ကို နှံ့စပ်အောင်ဘွေရှာ၍ အသေအချာ တိုက်ဆိုင်ရေးသားသည် မဟုတ်၊ အမရကောသဋီကာများကိုသာ ပမာဏထား၍ ရေးသားအပ်သည်ဖြစ်ရကား ပါဠိ အဋ္ဌကထာအဆို ကျမ်းဆရာ့ အလိုနှင့် ဆန့်ကျင်သော အချက်တို့ဖြင့် ရောပြွမ်းလျက် ရှိလေသည်။ သို့ဖြစ်၍ ထိုဋီကာဖြင့် ပညာရှိ သူခမိန်တို့ တင်းမတိမ် အားမရ မရောင့်ရဲနိုင်ကြလေကုန်။ ထိုဋီကာကို ပမာဏထား၍ ရေးသားအပ်သော ရှေးနိဿယတို့သည်လည်း ဋီကာနည်းကို မလွန်နိုင်ကြသည့်ပြင် အချို့အရာ ဋီကာဆရာ၏ အဆိုစကားလောက်ကိုပင် မရောက် မသိ မထိ မမီ ရှိကြလေသည်။

ထို့ကြောင့်' ကျမ်းဆရာ့အလိုတော်ကျ အာဂမာနုလောမဖြစ်သော နိဿယသစ်တကျမ်းကို ကြိုးပမ်းရေးသားရမူကား ကောင်းလေစွ' ဟူသော အကြံကို အရင်းခံ ရှေ့သွားပြုပြီးလျှင်......[၁]"။

ဟု ပြဆိုထားသည်ကို တွေ့ရပေသည်။ ထို့ပြင် အဘိဓာန်နိဿယသစ်ရေးသားရာ၌ ဆရာတော်သည် "ကျမ်းဆရာ၏မှီရာ အကြွင်းမရှိသော ပါဠိ အဋ္ဌကထာ သက္ကတ ကျမ်းပေါင်းများစွာတို့နှင့်တကွ လွန်ခဲ့သောနှစ်ပေါင်း ၇၀၀-ကျော်လောက်က ရေးသားခဲ့သော သီဟိုဠ်နိဿယဟောင်းတခုကိုလည်း သေချာကြည့်ရှု မှီငြမ်းပြုလျက် ဤအဘိဓာန်နိဿယသစ်ကျမ်းကို ကြိုးပမ်း တည်ထွင် စီရင်ရေးသား' ခဲ့ပေသည်။

ဤနိဿယသစ် ရေးသားပုံမှာ ပုဒ်တို့ကို အနက်ပေးရာ၌ နိဿယဟောင်းမှာကဲ့သို့ ဝိဂြိုဟ်နက်များကို ဖော်ရှု၍ပေးတော့ပဲ လိုရင်း ဟောနက်ကိုသာ ပေးထားလေသည်။ ဥပမာ-ဗုဒ္ဓေါ "သစ္စာ ၄-ပါးကို သိမြင်တော်မူသော မြတ်စွာဘုရား" ဟု မပေးတော့ပဲ "ဘုရား" ဟူသာ လိုရင်းအနက်ကို ပေးထားလေသည်။ တိမ်မြုပ်သော ပေါရာဏ စကားများကို ခေတ်သုံးဝေါဟာရများဖြင့် လဲလှယ်သုံးစွဲထားသည်၊ များစွာသော ပုဒ်အဆုံးအဖြတ်နှင့်တကွ မှတ်သားဖွယ် အဓိပ္ပါယ်ရှင်းလင်းချက်တို့ကို ပါဠိ အဋ္ဌကထာ ဋီကာတို့ကိုင်း ဆိုင်ရာ သက္ကတကျမ်းတို့ကိုင်း ကိုးကား၍ ဖော်ပြထားသည်ကို တွေ့ရပေသည်။ အထူးသဖြင့် သစ်ပင် ဆေးပင် ဝေါဟာရတို့ကို မြန်မာနက်ပြန်ရာ၌ ဆရာတော်သည် သေချာစေ့စပ်လှပေသည်၊ အချို့သော ဆေးပင်များကို ဟိန္ဒီလို မည်သို့ခေါ်သည်၊ ဟိန္ဒူဆေးဆိုင်များ၌ မည်သို့မေး၍ဝယ်လျှင် မည်သို့သောဆေးဖြစ်သည်ကိုရနိုင်သည်[၂] စသည်ဖြင့် မှတ်ချက်များဖြင့် ဝေဆာလှသည်၊ ယင်းသို့ဖြစ်လေရာ ဤနိဿယသစ်မှာ နိဿယသာမန်မျှသာ မဟုတ်တော့ပဲ မြန်မာဘာသာ ဋီကာအဆင့်ကို ဆောင်လျက်ရှိသော ကျမ်းတစောင်ဖြစ်လေသည်။

ဤသို့လျှင် ကျော်အောင်စံထား နိဿယသည် ဝိဂြိုဟ်နက်များကိုပါ ထည့်သွင်းထားသဖြင့် ရင်းနိဿယနက်ကိုရလျှင် ဝိဂြိုဟ်ဝန်ဆောင်ပြုရာ၌ များစွာ အထောက်အပံ့ရရကား ယင်းကိုလည်း လက်မလွှတ်နိုင်ကြပေ၊ ပုဒ်ပါဠိ အနက် အဓိပ္ပါယ် အမှာအထားများ ပြည့်စုံခိုင်လုံပြီး လိုရင်းအနက်ကိုသာ တိတိ ကျကျ ပေးထားသဖြင့် နိဿယသစ်ကိုလည်း လက်မလွှတ်နိုင်ကြပေ။ ဤသို့ဖြစ်ပေရာ အဘိဓာန်နိဿယဟောင်း နိဿယသစ် ၂-စောင်တို့သည် အဘိဓာန်လောကတွင် နေ့လနှစ်ပါးပမာ ဖြစ်လျက်ရှိလေသည်။

---

၁။ နိဒါန်း စာမျက်နှာ (င)။ ၂။ ဥပမာ စာမျက်နှာ ၂၁၃-စသည် ကြည့်။

အဘာယာရာမဆရာတော်၏ အဘိဓာန်နိဿယသစ်ကဲ့သို့ပင် ပုဒ်ပါဠိအနက်တို့ကို စိစစ်၍ ရေးသားအပ်သော အဘိဓာန်နိဿယသစ်တစောင်လည်း ၁၃၁၇-ခုနှစ်က ထွက်ပေါ်ခဲ့ပြန်သည်။ ကျမ်းပြုဆရာတော်မှာ မာဂဓ, သက္ကတ,ပြာကြိုဋ်စသော ဘာသန္တရတို့ကို နိုင်နင်းတော်မူသော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ မော်လမြိုင်,တောင်ဝေါက် ဆရာတော် ဦးစန္ဒာပါလပင်ဖြစ်ပေသည်။ ဤနိဿယသစ်ကျမ်းကိုလည်း ကျမ်းပြုဆရာတော်သည် 'အဘိဓာနပ္ပဒီပိကာကျမ်းကို အထူးထူးသော ပါဠိတော်, အဋ္ဌကထာ,ဋီကာ, သဒ္ဒါ, မာဂဓ, ပါကတ,ဒေသီ,သီဟိုဠ်, ယိုးဒယားစသော လိပ္ပန္တရ, ဘာသန္တရ ကျမ်းများ, နိဿယဟောင်းများနှင့် ညှိနှိုင်း တိုက်ဆိုင် သုတ်သင် ပြင်ဆင် စီရင်ကာ မြန်မာဘာသာ ပြန်ဆိုရေးသား'ခဲ့ခြင်း ဖြစ်ပေသည်။ ဤနိဿယကျမ်းတွင် ပုဒ်ပါဠိကို စိစစ်ရာ၌ သုံးနေကျ မာဂဓ, သက္ကတ ကျမ်းများသာမက ပြာကြိုဋ်ကျမ်းများကိုပါ ကိုးကားဆုံးဖြတ်ထားသဖြင့် တမူထူးခြားဆန်းသစ်လျက် ရှိပေသည်၊ ၎င်းပြင် အချို့သော မြန်မာဝေါဟာရတို့ကိုပါ အရင်းအမြစ် အားဖြင့်၎င်း, သတ်ပုံသတ်ညွှန်းအားဖြင့်၎င်း စိစစ် ဆုံးဖြတ် ပြဆိုထားပေရာ အထူး နှစ်သက်ဖွယ် ဖြစ်လေတော့သည်။

## အဘိဓာန်ဋီကာနိဿယများ

အဘိဓာန်ဋီကာမှာ သက္ကတဘာသာရေး အမရကောသဋီကာစသော ကျမ်းတို့ကို များစွာမှီငြမ်းပြု၍ ရေးသားထားသော ကျမ်းဖြစ်ရာ နောက်သားနောင်လာတို့ အလွယ်တကူ သက်ဝင်ခြင်းငှါ ခဲယဉ်းလျက် ရှိပြန်ပေသည်။ သို့ဖြစ်၍ ဤပြဿနာကို ဖြေရှင်းသည့်အနေဖြင့် ဒုတိယကျော်အောင်စံထားဆရာတော်သည် အဘိဓာန်ဋီကာနိဿ (ဟောင်း)ကို ရေးသား ပြုစုတော်မူခဲ့လေသည်။ ၎င်းနောက် မန္တလေး ရတနာပုံမြို့တည် နန်းတည် မင်းတုန်းမင်းတရားကြီးလက်ထက် သက္ကရာဇ် ၁၂၁၁-ခုနှစ်၌ မောင်းထောင်ဆရာတော် ဦးပညာသာမိသည် အဘိဓာန်ဋီကာနိဿယသစ်ကို ရေးသားတော်မူခဲ့ပြန်သည်။ ၎င်း ၂-ကျမ်းတို့တွင် နိဿယဟောင်းမှာ ပုံနှိပ်စာအုပ်အဖြစ်သို့ မရောက်လာခဲ့ချေ။ ယခုအခါတွေ့မြင်အပ်သောနိဿယမှာကား ဒုတိယမောင်းထောင်ဆရာတော်၏ နိဿယပင်ဖြစ်ပေသည်။

## အက္ခရာဝလိအဘိဓာန်များ

အဘိဓာနပ္ပဒီပိကာသည် ဂါထာ ၁၂၀၀-မျှဖြင့် များစွာသောပရိယာယ်ပုဒ်တို့ကို သိမ်းကျုံးယူငင်စီစဉ်ထားသော်လည်း အနက်တူပုဒ်များကို သဘောတူရာပေါင်း၍ စီစဉ်ထားခြင်းသာဖြစ်သဖြင့် အလိုရှိသောပုဒ်ကို ရှာဖွေတွေ့ရှိနိုင်ရန် ခဲယဉ်းလျက်ရှိပြန်သည်။ ဉာဏ်အလွန်ကောင်း၍ 'နှုတ်ဝယ်တွတ်တွတ် ရွတ်တိုင်းရအောင် ဆောင်၍ထားသော' အနည်းငယ်မျှသော ပုဂ္ဂိုလ်တို့သာ မိမိတို့ အလိုရှိသည့်ပုဒ်ကို အလွယ်တကူ တွေ့နိုင်မည်ဖြစ်ပေသည်။ သို့ဖြစ်၍ အလိုရှိသောပုဒ်ကို အလွယ်တကူ ရှာဖွေတွေ့ရှိနိုင်မည့် အစီအစဉ်မျိုး လိုအပ်လျက် ရှိပြန်ရာ ယင်းလိုအပ်ချက်ကို အဘိဓာနက္ခရာဝလိကျမ်းက ဖြည့်စွက်ခဲ့လေသည်၊ ၎င်းကျမ်းတွင် အဘိဓာနပ္ပဒီပိကာ၌ လာသော ပုဒ်များကို အက္ခရာစဉ်လျက် ဂါထာနံပါတ်များကို ညွှန်ပြထားသဖြင့် အလိုရှိသောပုဒ်ကို အချိန်မကုန်ပဲ ရှာဖွေတွေ့ရှိနိုင်ပေသည်။ ထို့အတူပင် အဘိဓာနပ္ပဒီပိကာ-လာ ပုဒ်များနှင့်တကွ ယင်း၌ မလာသော်လည်း ပါဠိတော်စသည်တို့တွင် အတွေ့များသည့် ပုဒ်များကိုပါ ထည့်သွင်း၍ စီစဉ်ထားသော သဒ္ဒါဘိကပ္ပကတ္ထာဝိသဇ္ဇနာကျမ်း စသည်ကို ပြုစုတော်မူသည့် မင်းကွန်း ဥဒုမ္ဗရချောင်ဆရာတော် အရှင်ပဏ္ဍဝံသ၏ " ပဒတ်နက်ကျမ်း "လည်း ပေါ်ထွက်ခဲ့လေသည်။ ဤကျမ်းတို့ကား မြန်မာနိုင်ငံတွင် နောင်အခါ ထွက်ပေါ်သည့် ပါဠိအဘိဓာန်တို့၏ ရှေ့ပြေးကျမ်းများပင် ဖြစ်လေသည်။

### ပါဠိအဘိဓာန်ချုပ်

ဆိုခဲ့ပြီး ကျမ်းတို့သည် ပါဠိစာပေလိုက်စားသူတို့အား အထိုက်အလျောက် ကျေးဇူးပြုသည် မှန်သော်လည်း အဘိဓာနက္ခရာဝလိသည် အဘိဓာနပ္ပဒီပိကာ-လာ ပုဒ်များကိုသာ ထည့်သွင်းထား သဖြင့်၎င်း ပညတ်နက်ကျမ်းမှာလည်း အဘိဓာနက္ခရာဝလိထက် ပါဠိပုဒ်များပိုမိုများပြားသော်လည်း အက္ခရာစဉ်ပုံမှာ ခေတ်မီနည်းမျိုးမဟုတ်ပဲ ပုဒ်အစ အက္ခရာနှင့် အဆုံးအက္ခရာကို ပဓာနထား၍ စဉ်ထားသဖြင့် ရှာဖွေ ကြည့်ရှုရာတွင် မလွယ်ကူပဲ ရှိနေပြန်လေသည်။ ထို့ကြောင့်ပင် ယင်းကျမ်း ၂-ကျမ်းထက် ပါဠိပုဒ်ရေများ၍ အက္ခရာစဉ်ရာ၌ ခေတ်မီသော ပါဠိ မြန်မာ အဘိဓာန် တကျမ်းကို ၁၂၇၆ (၁၉၁၃) ခုနှစ်တွင် [၁] လယ်တီဆရာတော်ဘုရားကြီး၏ တပည့်ရင်းဖြစ်သော လယ်တီပဏ္ဍိတ သည် ရေးသားထုတ်ဝေခဲ့လေသည်။ ကျမ်းကိုလည်း "ပါဠိအဘိဓာန်ချုပ်" ဟု အမည်ပေးလေသည်။

ဤကျမ်းသည်သာ ယခုခေတ် အဘိဓာန်ဟူသော အမည်နှင့် ကိုက်ညီသော အစီအစဉ်ရှိသည့် ကျမ်းဖြစ်လေသည်။ ပုဒ်တို့ကို စုဆောင်းရာ၌ အဘိဓာနပ္ပဒီပိကာကို နှလုံးသွင်းယူပြု၍ အထူးသဖြင့် ပဏ္ဍိတ်ဇီဝါနန္ဒရေးသော သဒ္ဒသာရ ခေါ် သက္ကတအင်္ဂလိပ်အဘိဓာန်ကျမ်းမှ ပါဠိနှင့် သင့်လျော်မည့် ပုဒ်များကို ပါဠိပြန်၍ အများအပြား ထည့်သွင်းထားသည်ကို တွေ့ရှိရသည်။ သို့ဖြစ်လေရာ ဤကျမ်း၌ ပါဠိတော်၊ အဋ္ဌကထာ-လာ ပုဒ်များစွာတို့ မပါရှိပဲ ကြွင်းကျန်နေပေသေးသည်။

### သဒ္ဒတ္ထရတနာဝလိမဟာပါဠိအဘိဓာန်

အထက်ဖော်ပြပါကျမ်းတို့မှာ ပုဂ္ဂိုလ်တဦးတည်းပြုစုခဲ့သော ကျမ်းများဖြစ်ပေသည်။ ပုဂ္ဂိုလ် တဦးတည်း ပြုစုရသဖြင့်လည်း ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာ စသော ကျမ်းပေါင်းစုံ၌ လာသော ပုဒ်တို့ကို ပြည့်စုံအောင် ထည့်သွင်းနိုင်ခြင်း မရှိခဲ့ပေ။ သမုဒ္ဒရာအလား အလွန်ကျယ်ဝန်းလှသော ပါဠိစာပေကို လေ့လာရာတွင် ရှိပြီးအဘိဓာန်တို့ဖြင့် မလုံလောက်နိုင်ပေ၊ ပါဠိစာပေ၌ ပါဠိပုဒ် များကို ပြည့်စုံစွာ ထည့်သွင်းရေးသားထားသည့် ကျယ်ဝန်းသော အဘိဓာန်ကြီးမျိုးလည်း ရှိသင့် ပေသည်၊ ယင်းသို့ ပါဠိစာပေတရပ်လုံးကို သိမ်းကြုံးနိုင်သော အဘိဓာန်ကြီးမျိုးကို ရေးသားပြုစုရန် မှာလည်း ပုဂ္ဂိုလ်တဦးတယောက်၏ လုံ့လဝီရိယဖြင့် ပြီးမြောက်နိုင်မည်မဟုတ်ပေ၊ နိုင်ငံအတွင်းရှိ ပါဠိပညာရှိအများတို့ စုပေါင်း ဝိုင်းဝန်း ကူညီပြုစုမှသာ ဖြစ်မြောက်နိုင်မည့် လုပ်ငန်းမျိုး ဖြစ်ပေ သည်၊ ဤမျှကြီးကျယ်သော လုပ်ငန်းကြီးမျိုးများမှာလည်း ငွေကြေး များစွာလိုသော လုပ်ငန်း ဖြစ်ရာ ယင်းသို့သော ငွေကြေးမပြည့်စုံမှုကြောင့်ပင် ပြည့်စုံသော ပါဠိအဘိဓာန်ကြီး ရှိသင့်သည်ကို သိမြင်တော်မူကြလျက် ဆရာတော်အများမှာ စွမ်းဆောင်မှုမပြုနိုင်ပဲ ရှိခဲ့ကြလေသည်။ သို့သော် လည်း သက္ကရာဇ် ၁၂၇၀-ခုနှစ်တွင်ကား ၎င်းကျမ်းမျိုးကို ရေးသားနိုင်ရန် အခွင့်အလမ်း ပေါ်ပေါက်ခဲ့လေသည်။ ပေါ်ပေါက်လာပုံမှာကား—

ဥရောပတိုက်တွင် ဗုဒ္ဓသာသနာတော်ဆိုင်ရာ စာပေတို့ကို လေ့လာခဲ့သည်မှာ လွန်ခဲ့သော အနှစ် ၁၀၀-ကျော်ခန့်က ဖြစ်၏၊ ထိုစဉ်က ပါဠိစာပေဆိုင်ရာ ပါဠိတော်၊ အဋ္ဌကထာ ကျမ်းဂန်များလည်း အနည်းအကျဉ်းသာ အနောက်နိုင်ငံသို့ ရောက်ရှိလေရာ ၎င်းတို့ရရှိနိုင်သမျှသော ကျမ်းစာများကို ပင် အနောက်တိုင်းသား ပညာရှင်တို့သည် စိတ်အားထက်သန်စွာ လေ့လာကြလေသည်၊ ယင်းသို့

---

၁။ ကျမ်းကို ရေးသားပြီးသည့်နှစ်မှာ ၁၂၇၀-ပြည့်နှစ် ဖြစ်သော်လည်း ပုံနှိပ်သည့်နှစ်မှာ ၁၉၁၄ (၁၂၇၆) ခုနှစ် ဖြစ်သည်။

ပေလ့လာနိုင်ရန်လည်း ဂိမ်တို့ရသမျှသော ပါဠိကျမ်းစာများကို အင်္ဂလိပ်အက္ခရာပြန်ဆို၍ ရိုက်နှိပ်ထုတ်ဝေခဲ့ကြသည်။ ဥရောပတွင် အစောဆုံး ရိုက်နှိပ်ထုတ်ဝေသော ပါဠိကျမ်းစာတစောင်မှာ မဟာဝံသပါဠိ ဖြစ်ပေသည်၊ ၎င်းကို ခရစ်နှစ် ၁၈၃၇-ခုနှစ်တွင် ဂျော့ တာနာ (George Turnour) ခေါ် ပညာရှင်တဦးက တည်းဖြတ်သုတ်သင် ရိုက်နှိပ်ထုတ်ဝေခဲ့လေသည်။ ဤကျမ်းစာ ရိုက်နှိပ်ထုတ်ဝေဖြစ်ခြင်း၏ အကြောင်းမှာလည်း မှတ်သားဖွယ် ကောင်းလေသည်။

ဇင်းကျမ်းစာ ရိုက်နှိပ်ထုတ်ဝေခြင်းမပြုမီ ခရစ်နှစ် ၁၉-ရာစု စောစောပိုင်းကပင် ဂျိမ်းစ် ပရင်းဆက် (James Prinsep) ဆိုသော ပညာရှိတို့သည် အသောကကျောက်စာများကို အဓိပ္ပါယ် ဖော်ရန် ဖတ်ရှု ကြိုးစားလျက် နေချိန်ဖြစ်ပေသည်။ ယင်းအခိုက်တွင် ဂျော့တာနာသည် မဟာဝံသကျမ်း၌ "ပိယဒဿီ" ဟူသောသုဒ်ကို တွေ့ရှိရလေသည်၊ ယင်းတွေ့ရှိချက်ကြောင့်ပင် အသောက ကျောက်စာ၌ လာသော ဘုရင်ပိယဒဿီ ဟူသည်မှာ အခြားမဟုတ် အသောကမင်းတရားကြီးပင် ဖြစ်ကြောင်း ဖော်ထုတ်နိုင်ခဲ့လေသည်။ ယင်းသို့ ပါဠိစာပေတွင် အလွန်အဖိုးတန်သောစာပေရတနာ များ ကိန်းဝပ်တည်ရှိနေသည်ကို သဘောပေါက်လာပြီး အထက်၌ပြခဲ့သည့်အတိုင်း မဟာဝံသပါဠိ ကို (အင်္ဂလိပ်)ဘာသာပြန်နှင့်တကွ ရိုက်နှိပ်ထုတ်ဝေခြင်း ဖြစ်ပေသည်။

ယင်း၏ နောက်တွင်ကား ပါဠိကျမ်းစာတို့သည် တကျမ်းပြီးတကျမ်း ဥရောပတိုက်တွင် ပေါ်ပေါက်ခဲ့လေသည်။ မြန်မာပြည်၌ ပါဠိကျမ်းများ စာအုပ်အဖြစ်ဖြင့် မပေါ်မီကပင် ဥရောပ၌ ပါဠိ စာအုပ်များ ပေါ်ခဲ့လေသည်။ ၎င်းတို့တွင် ဓမ္မပဒပါဠိတော်နှင့် လက်တင်ဘာသာပြန်ကို ပါမောက္ခ ဖော့စ်ဗောလ်(Prof. Vincent Fausboll)က ၁၈၅၅-ခုနှစ်တွင် ရိုက်နှိပ်ထုတ်ဝေခဲ့သည်၊ ထိုပညာရှိကြီး ကပင် တည်းဖြတ်၍ ဇာတ်အဋ္ဌကထာ ၆-အုပ်တစုံကို ၁၈၇၇-ခုနှစ်မှ ၁၈၉၇-ခုနှစ်အတွင်း ရိုက်နှိပ် ထုတ်ဝေပြန်သည်။ ၎င်းနှင့်တချိန်တည်းလိုလိုမှာပင် အိုလ်ဒင်ဘတ်ဂ် (Hermann Oldenberg) ခေါ် ပညာရှိကြီးက ဝိနည်းပါဠိတော် ၅-ကျမ်းကို ၁၈၇၉ ခုနှစ်မှ ၁၈၈၃-ခုနှစ်အတွင်း တည်းဖြတ်ရိုက်နှိပ် ထုတ်ဝေခဲ့ပြန်သည်[၁]။ ထိုနှစ်များအတွင်းဖြစ်သည့် ၁၈၇၅-ခုနှစ်မှာပင် ချစ်လ်ဒါး (R.C. Childers) အမည်ရှိ ပညာရှင်က ပါဠိအင်္ဂလိပ်အဘိဓာန်ကို ရေးသားထုတ်ဝေခဲ့သည်။ ယင်းသို့ ဥရောပတိုက် တွင် ပါဠိစာအုပ်များကို ထိုထိုပုဂ္ဂိုလ်တို့က ထုတ်ဝေခဲ့ရာမှ ၁၈၈၁-ခုနှစ်တွင်မူကား ထိုပညာရှိတို့ သည် စုပေါင်းကြ၍ "ပါဠိစာတော်မူအသင်းကြီး[၂]"ကို တည်ထောင်ကာ ပါဠိကျမ်းစာများကို တပြည်းပြည်း တည်းဖြတ်ရိုက်နှိပ်လာခဲ့ပေသည်။

ဤသို့လျှင် ပဌမကမ္ဘာစစ်ကြီးဖြစ်ချိန်လောက်တွင် ပါဠိကျမ်းစာအတော်များများကို ရိုက်နှိပ်ပြီး ဖြစ်လေသည်။ ယင်းသို့ ရိုက်နှိပ်ပြီးဖြစ်၍ အင်္ဂလိပ်အက္ခရာနှင့် ပါဠိကျမ်းစာများ များပြားလာသော အခါ ပြည့်စုံသောပါဠိအဘိဓာန်ကြီးတစောင်လိုအပ်လာသည်ကို သိမြင်လာကြလေသည်။ ချစ်လ်ဒါး ၏ ပါဠိအင်္ဂလိပ်အဘိဓာန်မှာလည်း အက္ခရာစဉ်ပုံမှန်၍ ကျေနပ်ဖွယ်ရာ မရှိသည်တကြောင်း, ပြည့်စုံမှု မရှိသည်တကြောင်းတို့ကြောင့် ၎င်းနှင့်လည်းအားမရနိုင်ကြပေ၊ ၎င်းတို့ကိုယ်တိုင်စုဆောင်းရေးသား ရမည်ကလည်း စစ်ကြီးဖြစ်နေချိန်ဖြစ်၍ မဖြစ်နိုင်အောင် ရှိနေပေသည်။ ထိုအခါ ၎င်းအနောက် တိုင်း ပါဠိပညာရှင်တို့သည် ကမ္ဘာကျော်ဖြစ်နေတော်မူသော မြန်မာနိုင်ငံ မုံရွာမြို့ လယ်တီဆရာ

---

၁။ ရိုက်နှိပ်ရာတွင် မဟာဝဂ္ဂပါဠိကို ပဌမတွဲ, စူဠဝဂ္ဂပါဠိကို ဒုတိယတွဲ, ပါရာဇိကပါဠိကို တတိယတွဲ, ပါစိတ္တိယပါဠိကို စတုတ္ထတွဲ, ပရိဝါရပါဠိကို ပဉ္စမတွဲအဖြစ် ရိုက်နှိပ်ထားသည်။

၂။ Pāli Text Society.

တော်ဘုရားကြီးထံသို့ ပြည့်စုံသော ပါဠိအဘိဓာန်ကြီးတစောင် ပြုစုပေးပါရန် စာဖြင့် တောင်းပန် လျှောက်ထားကြလေသည်။

လယ်တီဆရာတော် ဘုရားကြီးသည်လည်း ၎င်းတို့၏ လျှောက်ထားချက်ကို လက်ခံတော် မူပြီးနောက် မိမိမှာ ဇရာဒုဗ္ဗလအရွယ်သို့ ရောက်နေပြီဖြစ်၍ ၎င်းကျမ်းကြီးပြီးစီးအောင်ဆောင်ရွက်နိုင်မည်မဟုတ်သည်ကို သိမြင်တော်မူ၍ မန္တလေးမြို့ မစိုးရိမ်တိုက်သို့ ၃-ကြိမ်တိုင် ကြွရောက်တော်မူပြီး အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ဦးသောဘိတ၊ ဆရာတော်ဦးသုရိယ (ယခု-အဘိဓဇမဟာရဋ္ဌဂုရု) အစရှိသည့် ဆရာတော်တို့အား တာဝန်ပေးအပ်တော် မူလေသည်။ ယင်း အဘိဓာန်ကြီး ပြုစုရိုက်နှိပ်ထုတ်ဝေရာ၌ အထွေထွေ ကုန်ကျမည့် စရိတ်ကြေးငွေကိုလည်း နိုင်ငံခြားဗုဒ္ဓသာသနာပြုအဖွဲ့ကြီးက တာဝန်ယူသည်။ အဘိဓာန်ကြီး ရေးသားပြုစုရန် တာဝန်အပ်နှင်းခြင်းကို ခံရသော ဆရာတော်တို့ကလည်း ၁၂၇၈-ခုနှစ်မှ စ၍ အဘိဓာန်လုပ်ငန်းကို စတင် လုပ်ကိုင်တော်မူကြလေသည်။ ယင်းသို့ လုပ်ကိုင်ရာတွင် အဘိဓာန်ဝန်ဆောင်အဖွဲ့ အဖြစ်ဖြင့် လယ်တီဆရာတော်အမှူးရှိသည့် ဆရာတော် ၁၄-ပါး ပါဝင်သောအဖွဲ့ကို ဖွဲ့ပြီးနောက် ၃၀၀-မျှသော အရည်အချင်းနှင့် ပြည့်စုံသည့်စာချ စာသင် ရဟန်းတော်တို့၏ အကူအညီဖြင့် စတင် လုပ်ကိုင်တော်မူကြသည်။

ယင်းသို့ ပညာရှိပုဂ္ဂိုလ်ပေါင်း မြောက်မြားစွာဖြင့် ရှေးဦးလုပ်ငန်းဖြစ်သည့် စာစုလုပ်ငန်းကို ၁၂၇၈-ခုနှစ်မှ စတင်လုပ်ကိုင်လာရာ ၁၂၈၂-ခုနှစ်သို့ရောက်မှ ယင်းလုပ်ငန်း ပြီးစီးလေသည်၊ ပုဒ်များ ထုတ်ရာဖြစ်သော ကျမ်းတို့ကား ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာမှ စ၍ ဂန္ထန္တရ အမျိုးမျိုး ပါဝင်သည်။ ထိုသို့ထုတ်ပြီးနောက်မှ အပိုင်းကြီး ၄-ပိုင်းခွဲ၍ တပိုင်းလျှင် နာယကဆရာတော်တပါးစီ အပ်ချုပ်တာဝန်ခံ၍ ရေးသားကာ ပုံနှိပ်ထုတ်ဝေခဲ့ကြလေသည်၊ အဘိဓာန်ကျမ်းကြီး၏ အမည်ကိုလည်း "သဒ္ဒတ္ထရတနာဝလိမဟာပါဠိအဘိဓာန်"ဟု တွင်စေလေသည်၊ ယင်းသို့ ပညာရှင်ပေါင်း မြောက်မြားစွာ စုပေါင်း ပါဝင်ကူညီ၍ ရေးသားခဲ့သော်လည်း ၎င်းကျမ်းကြီးမှာ နောင်အခါတွင် အကြောင်းအမျိုးမျိုးကြောင့် အပြီးအဆုံးသို့ မရောက်ခဲ့ချေ၊ ထွက်ခဲ့သမျှသော အတွဲများ၊ တာဝန်ခံရေးသားသော ဆရာတော်များနှင့် ထုတ်ဝေသောခုနှစ်တို့ကား အောက်ပါအတိုင်းဖြစ်ပေသည်။

| | | | | |
|---|---|---|---|---|
| ဆရာတော်ဦးသောဘိတ | အပိုင်း ၁၊ | အတွဲ ၁၊ | ၁၂၉၀ | အ-မှ အင်္ဂုတ္တိုရ်။ |
| ဆရာတော် ဦးသုရိယ | အပိုင်း ၂၊ | အတွဲ ၁၊ | ၁၂၈၉ | က-မှ ကာမေသာသညိတ။ |
| ဆရာတော် ဦးဉာဏ | အပိုင်း ၃၊ | အတွဲ ၁၊ | ၁၂၉၈ | ပ-မှ ပက္ခ။ |
| ဆရာတော် ဦးရာဇိန္ဒ | အပိုင်း ၄၊ | အတွဲ ၁၊ | ၁၂၉၄ | ယ-မှ လောဠိသာမိ[1]။ |

ယင်း အဘိဓာန်ကြီးမှာ ပါဠိပုဒ်ကို မူတည်၍ ပါဠိဘာသာဖြင့်ပင် ဖွင့်ဆို ရေးသားထားသော ကျမ်းဖြစ်၏၊ တခုတခုသောပုဒ်၏ လိင်ကိုရင်း၊ အနက်ကိုရင်း၊ ၎င်းပုဒ်ပါရှိရာ ပါဠိတော်စသော အကိုးသာဓကကိုရင်း၊ အချို့ပုဒ်များတွင် သက္ကတကျမ်းများမှ သာဓကများကိုရင်း စုပေါင်းပြသထားပေသည်၊ အချို့သော အရေးကြီးသော ပုဒ်တို့တွင်ကား ပုဒ်နက်နှင့် သာဓကမျှလောက်သာမကပဲ

---

၁။ ဤစာရင်းကိုကြည့်လျှင် ပုဒ်ထုတ်သည့်လုပ်ငန်း အစပြုသည်မှ နောက်ဆုံးရိုက်ထုတ်သည့် အပိုင်း ၃၊ အတွဲ-၁ ထွက်သည့်တိုင်အောင် (၁၂၇၈-၁၂၉၈) အနှစ် ၂၀ ကြာခဲ့သည်ကို တွေ့ရှိရသည်။ ယင်း အနှစ်-၂၀ အတွင်း ထွက်ခဲ့သော စာအုပ် ၄-အုပ်ပါ စာမျက်နှာတို့ကို ပေါင်းသော် စာမျက်နှာ ၁၁၃၄-မျက်နှာ ဖြစ်လေသည်။

၎င်းပုဒ်ဆိုင်ရာ သိသင့်သိထိုက်သော ဗဟုသုတများကိုပါ ကျမ်းပေါင်းစုံမှ ထုတ်နုတ်၍ အကျယ်တဝင့် ပြဆိုထားပေသော ဗုဒ္ဓသာသနာဆိုင်ရာ ပါဠိစွယ်စုံကျမ်းကြီးမျိုးပင် ဖြစ်၍ နေပေသည်၊ ပါဠိလိုချည်း ရေးသားထားသဖြင့် ကမ္ဘာကပါ အသုံးပြုနိုင်သော ကျမ်းကြီးလည်း ဖြစ်၏။ ဆုံးခန်းတိုင်ရောက် ပြီးမြောက်ခဲ့ပါမူကား ပါဠိပညာရှင်တို့၏ အားထားမှီခိုရာကြီးတဆူအဖြစ် ဗုဒ္ဓသာသနာ ဓတော်တွင် ရပ်တည်လျက် ရှိပေမည်။

## မြန်မာပါဠိအဘိဓာန်

ရှေးအခါက ပါဠိသေ့လာရာ၌ ဖတ်၍ နားလည်ပြီး ပါဠိကျမ်းဂန်များကို လေ့လာနိုင်ရန်သာ ပဓာနထားသူ များခဲ့သော်လည်း ပဌမကမ္ဘာစစ်ကြီးနှင့် ဒုတိယကမ္ဘာစစ်ကြီး၏ အကြားကာလ အတွင်း၌ကား မြန်မာနိုင်ငံ၌ ပါဠိဘာသာ လေ့လာမှုမှာ တမျိုးတဖုံ ထူးခြားခဲ့သည်။

ယင်းအခါတွင် အရေးအသားနှင့် အပြောအဆိုကိုပါ လေ့လာသူ ပေါ်များလာခဲ့လေရာ အမြို့မြို့ အနယ်နယ်တွင် ပါဠိစကားပြောအသင်းများဖွဲ့၍ ပါဠိစကားပြော လေ့ကျင့်ခြင်း, တဦးနှင့် တဦး ပါဠိဘာသာဖြင့် စာပေးစာယူပြုလုပ်ခြင်းများကို လေ့ကျင့်လာကြလေသည်၊ ယင်းသို့ ပါဠိစကားပြောနှင့် အရေးအသားကို လေ့လာသူတို့ မိမိအလိုရှိသော ပါဠိပုဒ်ကို အလွယ်တကူ ရှာဖွေရရှိနိုင်ရန် ရည်သန်၍ ၁၃၀၁-ခုနှစ်တွင် ပဌမကျော် အရှင်တေဇဝန္တာဘိဝံသသည် မြန်မာ-ပါဠိအဘိဓာန်ကို ရေးသားစီရင်ခဲ့လေသည်။ ၎င်းကျမ်းတွင် မြန်မာစကားလုံး ၂၀၀၀၀-ခန့်ကို မှတည်လျက် ပါဠိနှင့်တွဲဖက်၍ စီစဉ်ရေးသားထားသဖြင့် မိမိသိပြီးသော မြန်မာနက်ကို ဟောသည့် ပါဠိစကားလုံးကို အလွယ်တကူ ရှာဖွေတွေ့ရှိနိုင်ရကား ၎င်းကျမ်းသည် ပါဠိဘာသာဖြင့် ရေးသားရာ, ပြောဆိုရာတို့၌ များစွာအထောက်အပံ့ရသော ကျမ်းဖြစ်လေသည်၊

## ဝိသုဒ္ဓါရုံပိဋကအဘိဓာန်

စစ်ပြီးခေတ်တွင်လည်း ပါဠိမြန်မာအဘိဓာန် ၂-ကျမ်း ပေါ်ထွက်လာသည်ကို တွေ့ရပေသည်။ ထိုတွင် ဝိသုဒ္ဓါရုံပိဋကအဘိဓာန်သည် ၁၃၁၅-ခုနှစ်မှ ၁၃၁၈-ခုနှစ်အတွင်း ပေါ်ထွက်ခဲ့လေသည်။

၎င်းအဘိဓာန်ကြီးကား မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးက အစပြုခဲ့သည်ဟု ဆိုရပေမည်။ ဆရာတော်ဘုရားကြီးသည် ၁၂၇၅-ခုနှစ်ကပင် စည်ရှင်ဆရာတော်ကို ခေါ်တော်မူ၍ ဝိနည်းပါဠိတော်ပြင်ချက်ကို မှတ်ထားလျက် မှားယွင်းသော ပုဒ်ပါဌ်တို့၏ ဆုံးဖြတ်ချက်ကို ရေးသားရန် အမိန့်ချမှတ်တော်မူခဲ့၏၊ စည်ရှင်ဆရာတော်လည်း ထိုနေ့မှစ၍ အားလပ်သောအချိန်များတွင် ရေးသားခဲ့ပြီးနောက် စာပေသင်ကြားပို့ချပေးရခြင်း ဂန္ထပလိဗောဓစသည်ကြောင့် ရပ်တန့်ထားခဲ့ရာ ဒုတိယ ကမ္ဘာစစ်ကြီးအတွင်း အားလပ်ချိန်ရသဖြင့် ဆက်လက် ရေးသားတော် မူခဲ့လေသည်၊ ပုဒ်ပေါင်းတသောင်းကျော်ပြီးဆုံး၍ နိဂုံးချုပ်လုခါနီးတွင် ဆရာတော်ဘုရား ဘဝနတ်ထံ စံတော်မူသွားရာ ဆရာတော်ရေးသားတော်မူခဲ့သော ပုဒ်များကိုပင် အက္ခရာဝလီ စီစဉ်၍ ပုံနှိပ်ထုတ်ဝေခြင်း ဖြစ်ပေသည်။

ယင်းအဘိဓာန်သည် လွယ်ကူသောပုဒ်များကို ချန်လှပ်၍ ခက်ခဲသော ပုဒ်များကိုသာ မာဂဓ, သက္ကတ ကျမ်းဂန်အမျိုးမျိုးကို မှနှောက်စိစစ်၍ ပုဒ်,ပါဌ်,အနက်,အဆုံးအဖြတ်တို့ဖြင့် ခုံထယ်စွာ ရေးသားထားပေရာ ဝိနိစ္ဆယအဘိဓာန်ကြီးတစောင်ပင် ဖြစ်ပေသည်။ သက္ကတကျမ်းတို့မှ လာသော

မှတ်သားဖွယ်ကောင်းသည့် ပုဒ်များကိုပါ ထည့်သွင်း ပြသထားသဖြင့် သက္ကတဘာသာကို သင်ကြားလေ့လာသူတို့အဖို့လည်း ကျေးဇူးများသော အဘိဓာန်ဖြစ်ပေသည်။

## ဦးဟုတ်စိန်အဘိဓာန်

ဗိသုဒ္ဓါရုံ ပိဋကအဘိဓာန် ထွက်ပေါ်၍ မကြာမီမှာပင် ပဒတ္ထမဉ္ဇူသာခေါ် ပါဠိမြန်မာအဘိဓာန် ထွက်ပေါ်ခဲ့လေသည်။ ၎င်းအဘိဓာန်ကို မြန်မာနိုင်ငံတော် အမေ့နှင့်ပစ္စည်းထိန်းဝန်, တရားလွှတ်တော်ရှေ့နေကြီး ဦးဟုတ်စိန်, ဘီအေ(ဂုဏ်ထူး), ဘီအယ်(လ်) ရေးသား၍ အစိုးရပုံနှိပ်တိုက်မှ ၁၉၅၄-၅၉-ခုနှစ်များအတွင်း ရိုက်နှိပ်ထုတ်ဝေခဲ့လေသည်။ အတွဲအားဖြင့် ၄-တွဲရှိ၍ ပါဠိပုဒ်ပေါင်း ၅၀၀၀၀-ကျော် ပါဝင်သည်ဟု နိဒါန်းတွင် ဖော်ပြထားလေသည်။

၎င်းအဘိဓာန်သည် နောက်ပေါ်ဖြစ်သည့်အားလျော်စွာ ရေးထွက်ပေါ်ပြီး အဘိဓာန်တို့တွင် တွေ့ရှိရသော ချွတ်ယွင်းချက်များကို ရှောင်ရှားလျက် အပြည့်စုံဆုံးဖြစ်အောင် စီစဉ်ထားသည်ကို တွေ့ရပေသည်၊ ဤကျမ်းသည် ပါဠိမြန်မာအဘိဓာန်ကို ကမ္ဘာ့ခေတ်မှီ အဘိဓာန်အဆင့်အတန်းသို့ရောက်အောင် မြှောက်တင်ပေးသောကျမ်းဖြစ်လေသည်။ ဤကျမ်းတွင် 'မူရင်းပုဒ်တို့၌ သဏ္ဍာန်တူညီသော သက္ကတပုဒ်တို့ကို ယှဉ်ပြိုင်၍ ပြသထား'ပေရာ ပါဠိပုဒ်၏ ပုဒ်နေပါဌ်ထားနှင့် အနက်ကို ဆုံးဖြတ်ရာ၌ များစွာ အထောက်အကူရသော စီစဉ်ချက်ဖြစ်၍ မြန်မာနိုင်ငံ ပါဠိမြန်မာအဘိဓာန် အရာတွင် တမူထူးခြားလျက် ရှိလေသည်၊ ယင်းသို့ သက္ကတပဒ်တို့ကို ယှဉ်တွဲပြသရခြင်း၏ အကျိုးကျေးဇူးကိုလည်း ကျမ်းဆရာက နိဒါန်း[၁]တွင် အကျယ်ဖော်ပြထားလေသည်။ ပုဒ်တို့၏အရင်းအမြစ်ကို ပြရာ၌လည်း အနောက်တိုင်းသုံး သင်္ကေတနှင့် နည်းစံနစ်ကို[၂] အသုံးပြုထားသဖြင့် ခေတ်ပညာတတ်တို့အဖို့ နှစ်သက်ဖွယ်ဖြစ်ပေသည်။ နောက်ဆက်တွဲများကလည်း ပါဠိဘာသာ သဒ္ဒါဆိုင်ရာ အခြေခံဗဟုသုတကို ပေးထားပြန်ရာ ဤကျမ်းသည် ပါဠိဘာသာကို ခေတ်မှီနည်းဖြင့် လေ့လာသူတို့အဖို့ အလွန်အားထားထိုက်သော ကျမ်းဖြစ်လေတော့သည်။

ဤကျမ်းကို ၄-ပိုင်းခွဲ၍ရိုက်နှိပ်ရာ စာမျက်နှာအားဖြင့် နောက်ဆက်တွဲအလွတ် ၁၀၈၈-မျက်နှာရှိ၍ နောက်ဆက်တွဲပါဆိုလျှင် ၁၁၈၀-မျက်နှာရှိလေသည်၊ ဤမျှကျယ်ဝန်း၍ ခက်ခဲသော လုပ်ငန်းကြီးကို မိမိတဦးတည်းပြုစုခဲ့သောကျမ်းပြုပုဂ္ဂိုလ်၏ ဇွဲ သတ္တိ၊ လုံ့လဝီရိယတို့မှာ အထူးချီးကျူးဖွယ်ပင် ဖြစ်ပေသည်။

## ဓာတ်အဘိဓာန်များ

အထက်၌ ပြခဲ့သော ကျမ်းတို့မှာ ပါဠိပုဒ်တို့ကိုသာ စီစဉ်၍ ရေးသားအပ်သော ကျမ်းတို့ဖြစ်ပေသည်။ ၎င်းတို့အပြင် ပုဒ်များ၏ အရင်းအမြစ် ဖြစ်သည့် ဓာတ်များကိုသာ အက္ခရာစဉ်ဖြင့် စီစဉ်၍ ရေးသားအပ်သော ဓာတ်အဘိဓာန်ကျမ်းတို့လည်း ပေါ်ထွက်ခဲ့လေသည်။

---

၁။ စာမျက်နှာ (ခ)။

၂။ ပါဠိဓာတ်တို့ကိုပြရာ၌ ( √ ) ဤအင်္ကေထဖြင့် ပြ၍ အနောက်သာရဓာတ်တို့တွင် အသုံးပြုညီးနှ သရုမပါဲ ပြခြင်းများ။ ဥပမာ ( √ ) အံ့သ်။

ပါဠိဓာတ်အဘိဓာန်တို့တွင် ရှေးဦးဖြစ်သည့်ကျမ်းမှာ သဒ္ဒနီတိဓာတုမာလာကျမ်းပင် ဖြစ်ပေသည်။ ပါဠိတော်, အဋ္ဌကထာ, ဋီကာများနှင့်တကွ ပါဏိနိဓာတုပါဌ, စန္ဒြဓာတုပါဌ [၁] စသော ကျမ်းပေါင်းများစွာကို မှီငြမ်းကိုးကားပြီးမှ ပြည့်စုံစွာ ရေးသားအပ်သော ကျမ်းဖြစ်ပေသည်၊ ပါဠိဓာတ်နှင့်ပတ်သက်လျှင် ပဌမအကျဆုံး ကျမ်းတကျမ်းပင် ဖြစ်လေသည်။ ယင်းကျမ်းတွင် ဓာတ်တို့ကို ဂိုဏ်းအားဖြင့်၎င်း, ကာရန်အားဖြင့်၎င်း စီစဉ်ထားလေသည်။ လိုသောဓာတ်ကို အလွယ်တကူ ရှာဖွေတွေ့ရှိနိုင်စေရန် ထိုထို တည်းဖြတ်သူတို့က အက္ခရာစဉ် ဓာတ်ညွှန်းများကို ထည့်သွင်းပေးထားသဖြင့် ယခုအခါတွင် အလွယ်တကူပင် လိုသောဓာတ်ကို ရှာဖွေနိုင်ပေသည်။

ဤကျမ်းမှနောက် မန္တလေးရတနာပုံခေတ်တွင်လည်း ဓာတ်အဘိဓာန်ကျမ်းတကျမ်း ပေါ်ပေါက်ခဲ့ပြန်သည်၊ ၎င်းကား အခြားမဟုတ် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရား၏ ဓာတွတ္ထသင်္ဂြိုဟ်ခေါ် ဓာတွတ္ထသင်္ဂဟကျမ်းပင် ဖြစ်လေသည်။ ၎င်းကျမ်းကို ဆရာတော်သည် ၁၂၅၀ ပြည့်နှစ်တွင် အပြီးရေးသားတော်မူခဲ့သည်၊ ပုံနှိပ်သည်မှာ ယနေ့အထိ ၄-ကြိမ်ရှိလေပြီ။ ဤကျမ်းကို ဆရာတော်သည် စာသင်သားဖြစ်သော ရှင်ငယ်, ရဟန်းငယ်တို့ နှုတ်တက်အာဂုံဆောင်ရန် ရည်ရွယ်တော်မူသဖြင့် ကျက်မှတ်လွယ်စေရန် ဂါထာများဖြင့် ရေးသားတော်မူ၍ နိဿယကိုပါ တပါတည်း စီရင်ထားခြင်းဖြစ်လေသည်. သဒ္ဒနီတိနှင့်တကွ သက္ကတဓာတ်ကျမ်းများကိုပါ ကြည့်ရှုညှိနှိုင်းလျက် ရေးသားအပ်သောကျမ်းဖြစ်၍ အဖိုးတန်သော ကျမ်းဖြစ်လေသည်။

ဆင့်သက်ါယနာတင် တောင်ကျင်းပသည့် ၁၃၁၆-ခုနှစ်တွင်လည်း ဓာတ်အဘိဓာန်ကျမ်းတကျမ်း ထွက်ပေါ်ခဲ့ပြန်သည်။ ၎င်းမှာ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ စာပုံနှိပ်တိုက်၌ စာပြင်မှူးချုပ်အဖြစ် တာဝန်ထမ်းရွက်နေသော မဟာပညာဗလ, ပါဠိပါမောက္ခ, ဆရာဉာဏ် ရေးသားသည့် “ပါဠိဓာတ်အဘိဓာန်ချုပ်” ပင် ဖြစ်ပေသည်။ ၎င်းကျမ်းလည်း ရှေးပေါ်နှင့်ပြီး ပါဠိဓာတ်ကျမ်းတို့နှင့်တကွ သက္ကတဓာတ်ကျမ်းများကိုပါ ညှိနှိုင်း၍ ကြည့်ရှုလွယ်စေရန် စီစဉ်ရေးသားအပ်သည်ဖြစ်ရာ ပါဠိလိုက်စားသူတို့အား ကျေးဇူးများသောကျမ်းပင် ဖြစ်လေသည်။

### နိုင်ငံခြားပါဠိအဘိဓာန်များ
#### အနောက်တိုင်းမှ

အနောက်တိုင်းတွင် ပါဠိလေ့လာမှု ပြန့်ပွါးနေစဉ် ၁၈၇၅-ခုနှစ်တွင် ချစ်လ်ဒါးအမည်ရှိသော ပညာရှင်တဦးက ပါဠိအင်္ဂလိပ် အဘိဓာန်တစောင် ရေးသားထုတ်ဝေခဲ့ကြောင်းကို ဖော်ပြခဲ့ပေပြီ။ ၎င်းနောက် ပဌမကမ္ဘာစစ်ကြီးအတွင်း အနောက်တိုင်းပညာရှင်တို့က လယ်တီဆရာတော်ဘုရားကြီးအား ပြည့်စုံသော ပါဠိအဘိဓာန်ကြီးတစောင် ရေးသားပြုစုပါရန် လျှောက်ထားတောင်းပန်ကြောင်းကိုလည်း ဖော်ပြပြီး ဖြစ်လေသည်။ ၎င်းတို့သည် ချစ်လ်ဒါး၏အဘိဓာန်ဖြင့် အားရခြင်း မရှိကြပဲ မိမိတို့ကိုယ်တိုင်လည်း ပါဠိအင်္ဂလိပ်အဘိဓာန်သစ်ကို ရေးသားရန် ကြိုးပမ်းလျက်ပင် ရှိခဲ့ကြပေသည်၊ ၎င်းတို့၏ မနားမနေ ကြိုးစားမှုကြောင့်ပင် ခရစ်နှစ် ၁၉၂၁-၂၅-ခုနှစ်အတွင်း လန်ဒန်ပါဠိစာတော်မူအသင်း၏ ပါဠိအင်္ဂလိပ်အဘိဓာန်ကြီး ထွက်ပေါ်၍ လာပေသည်၊ ပညာရှင်အများ စုပေါင်းရေးကြ၍ ရိုးစ် ဒေးဗစ်နှင့် စတိ(ဒ်) တို့က အတွေ့တွေ့ တည်းဖြတ်သူများအဖြစ် ဆောင်ရွက်ကြသည်၊ ၎င်းအဘိဓာန်ကြီးမှာ အနောက်နိုင်ငံသားတို့ ရေးသားပြုစုသည့်

၁။ ၎င်းကျမ်း၌ ပရဿဘာသာ, အတ္တနောဘာသာ, ဥဘ(ယ)တောဘာသာဟူသော ပါဏိနိဓာတုပါဌ၌ လာသည့် အသုံးအနှုန်းများနှင့် “ဒိဝိ အဝယဝေတိ နေ့ဝိဒုနော တန္တိ(နှာဇိဂ)” ဟူသော စကားတို့ကို ထောက်။

အားလျော်စွာ ခေတ်မီသော ရေးသားပုံ အစီအစဉ်ရှိ၍၊ အင်္ဂလိပ်အက္ခရာဖြင့် ရိုက်နှိပ်ထားသော ပါဠိတော်၊ အဋ္ဌကထာကျမ်းစာတို့၏ စာမျက်နှာကဏန်း စသည်များကိုလည်း ဆိုင်ရာပုဒ်တို့၌ ညွှန်းဆို ပြသထားပေရာ မည်သည့်ပါဠိ၊ မည်သည့်အဋ္ဌကထာတွင် မည်သည့်ပုဒ် ပါရှိသည်ကို အလွယ်တကူပင် သိမြင်နိုင်ပေသည်။

၎င်းအဘိဓာန်ကြီးနှင့် မရှေးမနှောင်းမှာပင် ဒိန်းမတ်ပြည်၏ သိပ္ပံပညာနှင့် စာပေဆိုင်ရာ တော်ဝင်ဌာနမှ ထုတ်ဝေသည့် A Critical Pāli Dictionary ခေါ် ပါဠိအဘိဓာန်ကြီး ပေါ်ထွက်ခဲ့ ပြန်သည်။ ၎င်းအဘိဓာန်ကြီးမှာ လန်ဒန်ပါဠိစာတော်မူအသင်း၏ ပါဠိအင်္ဂလိပ်အဘိဓာန်ထက် များ စွာကျယ်ဝန်းလေသည်၊ ရှေးအဘိဓာန်များ၌ မပါသော များစွာသော ပုဒ်တွဲများကိုပါ ထည့်သွင်း လျက် အပြည့်စုံဆုံးဖြစ်အောင် စီစဉ်ထားသည်ကို တွေ့ရသည်၊ သို့သော် ၎င်းမှာ အပြီးအဆုံးသို့ မရောက်သေးချေ၊ ၁၉၂၄-ခုနှစ်မှ ၁၉၄၈-ခုနှစ်အတွင်း အ-မှ အပေါဟသိကမ္မ-ပုဒ်တိုင် အ-သရအစပြု သော ပုဒ်များပါဝင်သည့် ပဌမတွဲကို ထုတ်ဝေခဲ့သည်၊ အာ-သရပါသောအပိုင်းကိုကား စစ်ပြီးခေတ် ကျမှ ထုတ်ဝေနိုင်ခဲ့၏၊ ၁၉၆၂-ခုနှစ်တွင် အာဒိကမ္မ-မှ အာယတ္တိကသလတာ-ပုဒ်တိုင်အောင် ပါရှိသော အတွဲ-၂ အမှတ် ၂-ကို ထုတ်ဝေခဲ့လေသည်၊ ကျန်အပိုင်းများကိုလည်း ပြည့်စုံသည့်တိုင်အောင် တဖြည်းဖြည်းထုတ်ဝေသွားလိမ့်မည်ဟု မြော်လင့်ရပေသည်။ ၎င်းအဘိဓာန်ကြီးကို စတင်ခဲ့သူမှာ ဗွီ ထရက်နာ(V.Trenckner)ဆိုသူ ပညာရှင် ဖြစ်ပြီး ၎င်းအလုပ်ကို ဆက်လက်လုပ်ကိုင်တည်းဖြတ် ခဲ့ကြသူများမှာ ဒီးနစ် အင်ဒါဆင် (Dines Andersen), ဟဲလ်မာ စမစ်သ် (Helmer Smith) နှင့် ဟန်စ် ဟင်ဒြိ(က်)ဆင် (Hans Hendriksen) အမည်ရှိသော ပညာရှိကြီးများ ဖြစ်၍ ကမ္ဘာ့ နိုင်ငံအရပ်ရပ်မှ ပါဠိပညာရှင်များကလည်း ၎င်းတို့အား ကူညီရေးသားပေးနေကြသည်ကို တွေ့ရှိရ ပေသည်။

ဆိုခဲ့ပြီး အဘိဓာန်တို့ကဲ့သို့ အနက်နှင့်ပုဒ်အရင်းအမြစ်ကို ပဓာနမထားပဲ အညွှန်းပြည့်စုံမှုကိုသာ ပဓာနထား၍ ရေးသားစီစဉ်အပ်သော ကျမ်းတကျမ်းကိုလည်း စစ်ပြီးခေတ်တွင် လန်ဒန်မြို့ ပါဠိ စာတော်မူအသင်းမှ ထုတ်ဝေခဲ့လေသည်၊ ၎င်းကျမ်းကား Pāli Tipitakam Concordance ခေါ် တိပိဋကပါဠိအညွှန်းအဘိဓာန်ကြီး ဖြစ်လေသည်၊ ၎င်းကျမ်းကြီးတွင် ပါဠိတော်လာပုဒ်တို့ကို အက္ခရာစဉ်၍ ၎င်းပုဒ်တို့ကို မိမိတို့ပါဝင်သော ဝါကျတို့နှင့်တကွ ထုတ်ပြပြီး ၎င်းဝါကျတို့ကို တွေ့ နိုင်မည့် ပါဠိတော်ကျမ်းနှင့် စာမျက်နှာကဏန်းများကို ဖော်ပြထားရာ ပါဠိတော်လာစာကို ရှာလိုသူ တို့အဖို့ အပိုးမဖြတ်နိုင်သော ကျမ်းစာပင် ဖြစ်ပေသည်။

၎င်းကျမ်းကို စာမျက်နှာ ၆၀-ခန့်စီရှိသော အပိုင်းများအဖြစ် ၁၉၅၂-ခုနှစ်မှ စတင်ထုတ်ဝေ ခဲ့ရာ ယခုအခါ အပိုင်း-၁၀ (အက္ခရာအားဖြင့်-ဥ) သို့ ရောက်ရှိနေပြီဖြစ်သည်။ ဤကျမ်းကို စီစဉ် သူများကား အက်ဖ်၊ အယ်လ်၊ ဝု(ဒ်)ဝပ်ဒ် (F.L. Woodward), အီး၊အမ်၊ဟဲယား (E. M. Hare) စသော ပညာရှင်တို့ ဖြစ်လေသည်။

**သီဟိုဠ်ကျွန်းမှ**

သီဟိုဠ်ကျွန်းသည် ပါဠိစာပေပေါက်ပွားရာဌာန ဖြစ်သည့်အားလျော်စွာ ၎င်းကျွန်းမှ ရဟန်း ပညာရှိ၊ လူပညာရှိတို့သည်လည်း ခေတ်မီပါဠိအဘိဓာန်များကို ရေးသားခဲ့ကြလေသည်။ ၎င်းတို့ တွင် အဂ္ဂမဟာပဏ္ဍိတ ဘုဲ့တံဆိပ်တော်ရ အရှင်ဗုဒ္ဓဒတ္တမထေရ်သည် ၁၉၄၉-ခုနှစ်တွင် ပါဠိအင်္ဂလိပ်

အဘိဓာန်ကျဉ်း[၁] ကိုရင်း၊ ၁၉၅၀-ခုနှစ်တွင် ပါဠိသိဒ္ဓိယင္ဆအကာဒေမီယ-ခေါ် ပါဠိသီဟိုဠ်အဘိဓာန် ကိုရင်း၊ ၁၉၅၅-ခုနှစ်တွင် အင်္ဂလိပ်ပါဠိအဘိဓာန်ကိုရင်း ရေးသားတော်မူခဲ့သည်။ ၎င်းတို့တွင် ပဌမကျမ်းမှာ ကျောင်းသား စာသင်သားတို့ အလွယ်တကူအသုံးပြုနိုင်ရန် အကျဉ်းရေးသားအပ် သောကျမ်းဖြစ်၍ တတိယကျမ်းစာမှာကား ပါဠိရေး၊ပြော လေ့လာသူ အင်္ဂလိပ်စာတတ်တို့အတွက် ရေးသားအပ်သောကျမ်း ဖြစ်လေသည်။ အရှင်ဗုဒ္ဓဒတ္တကဲ့သို့ပင် ဝိဒုရပေါလ ပိယတိဿအမည်ရှိ ဆရာတော်ကြီးတပါးကလည်း ၁၉၄၉-ခုနှစ်တွင် အင်္ဂလိပ်ပါဠိအဘိဓာန်တစောင်ကို ရေးသားထုတ် ဝေခဲ့ပေသေးသည်၊ သို့သော် ၎င်းစာအုပ်မှာ ပါဠိပုဒ်များကို သီဟိုဠ်စာလုံးများဖြင့် ပြထားသဖြင့် သီဟိုဠ်စာလုံးကို မဖတ်တတ်သော နိုင်ငံခြားသားများအဖို့ အသုံးမဝင်ပဲ ရှိခဲ့လေသည်။

၁၉၆၀-ခုနှစ်တွင်လည်း အဋ္ဌကထာသူစိခေါ် ပါဠိအဘိဓာန်ကျမ်းတကျမ်း စတင် ပေါ်ထွက်ခဲ့ သည်ကို တွေ့ရပေသည်၊ ၎င်းကျမ်းတွင် အဋ္ဌကထာများ၌ ဖွင့်ဆိုအပ်သော သဒ္ဒါတွေတစ္စပုဒ်များ ကို အက္ခရာစဉ်လျက် အဋ္ဌကထာဖွင့်ပါဌ်များနှင့် တွဲဖက်စီစဉ်၍ ရိုက်နှိပ်ထားသည်ကို တွေ့ရသည်။ ၎င်းကျမ်းသည် ယနေ့အထိ ၂-အုပ်ထွက်ပြီးဖြစ်လျက် အ-မှ ဩ-အထိ ပါဠိပုဒ်များ ပါဝင်သည်။ ၎င်းကျမ်းကို စီစဉ်သည့်ပုဂ္ဂိုလ်မှာ ကောသမ်ဗိ ဓမ္မာနန္ဒ အရှင်သိရိသုမေဓမထေရ်ဖြစ်၍ တည်းဖြတ် သူမှာ ၎င်းဓမ္မာနန္ဒ အရှင်ဓမ္မဝံသမထေရ်ဖြစ်ပြီး ကိုလံဘိုမြို့ ဝိဇ္ဇာလင်္ကာရတက္ကသိုလ်ပုံနှိပ်တိုက်မှ ရိုက်နှိပ်ထုတ်ဝေခဲ့လေသည်။

**ပါဠိအမည် အဘိဓာန်**

လန်ဒန်ပါဠိစာတော်မူအသင်းထုတ် ပါဠိအင်္ဂလိပ်အဘိဓာန်၌ ပုဂ္ဂိုလ်စသည်တို့၏ အမည်ဟော ပါဠိပုဒ်များကို မတွေ့ရပေ၊ ယင်းသို့ မတွေ့ရခြင်းမှာ ၎င်းအမည်များကို သီးခြားထုတ်၍ စီစဉ်ရိုက် နှိပ်ထုတ်ဝေထားသော အဘိဓာန်တစောင် ရှိပြီးဖြစ်သောကြောင့်ဖြစ်ပေသည်။ ၎င်းအဘိဓာန်ကား သီဟိုဠ်သား ပါဠိပညာရှိ ပါမောက္ခ ဂျီပီမာလလသေကရ ရေးသားအပ်သည့် Dictionary of Pāli Proper Names ခေါ် ပါဠိအမည်အဘိဓာန် ဖြစ်ပေသည်။ ၎င်းကျမ်းတွင် ပါဠိ၊အဋ္ဌကထာ စသည်တို့၌ လာသော အမည်များကို ထုတ်နုတ်၍ ၎င်းတို့၏ အဋ္ဌုပ္ပတ္တိစသည်များကို ပါဠိတော်၊ အဋ္ဌကထာစသည်တို့မှပင် ထုတ်နုတ်ပြီး မကျဉ်းမကျယ် ရေးသားထားသည်ကို တွေ့ရပေသည်။ ပုဂ္ဂိုလ်အမည်များနှင့်တကွ တိုင်းပြည်၊မြို့၊ရွာစသည်တို့၏ အမည်၊ သုတ္တန်စသည်တို့၏ အမည်များ ကိုပါ ထည့်သွင်းစီစဉ်ထားသဖြင့် လွန်စွာအဖိုးတန်သော ကျမ်းတစောင် ဖြစ်လေသည်။ ဥပမာ— ပါဠိတော်၊အဋ္ဌကထာစသည်တို့၌ တွေ့ရသော ပုဂ္ဂိုလ်တဦးတယောက်၏ အဋ္ဌုပ္ပတ်ကို အကျယ်သိလို လျှင် ၎င်းအဘိဓာန်မှာပင် ကျမ်းညွှန်းများနှင့်တကွ ရှာဖွေဖတ်ရှုနိုင်ပေသည်။

ဤပြဆိုခဲ့ပြီးသည်တို့ကား တိပိဋက ပါဠိမြန်မာအဘိဓာန်ကျမ်းကြီး မပေါ်ထွက်မီ ပေါ်ထွက် နှင့်သော ပါဠိဘာသာဆိုင်ရာ ပြည်တွင်း၊ပြည်ပ အဘိဓာန်တို့၏ အကြောင်းအရာအကျဉ်းချုပ် ဖြစ် ပေသည်။

၁။ Concise Pāli English Dictionary

## ၄

## တိပိဋက ပါဠိမြန်မာအဘိဓာန်ကြီး

ပြောဆိုသောဘာသာတရပ်ကို လေ့လာရာ၌ ထိုဘာသာသဆိုင်ရာ သဒ္ဒါကျမ်းတို့ကို တတ်မြောက်ရုံမျှဖြင့် ကိစ္စပြီးသည် မဟုတ်ပေ။ သဒ္ဒါကျမ်းတို့သည် သဒ္ဒါပုဒ်တို့၏ ပကတိပစ္စယအားဖြင့် ပေါင်းစပ်ပုံစည်းပုံကို ပြခြင်းဖြင့် သဒ္ဒါပုဒ်တို့၏အနက်ကို သိစေနိုင်သည် မှန်သော်လည်း ၎င်းတို့သည် ပုဒ်မျိုးအားလုံး၏အနက်ကို သိစေနိုင်သည်ကား မဟုတ်ပေ၊ ယောဂိကသဒ္ဒါ[၁], ရုဠှီသဒ္ဒါ[၂], ယောဂရုဠှီသဒ္ဒါ[၃] ဟု သဒ္ဒါ ၃-မျိုး ရှိသည်တို့တွင် ယောဂိကသဒ္ဒါတို့၏ အနက်ကိုသာ သိစေနိုင်ပေသည်၊ ရုဠှီသဒ္ဒါနှင့် ယောဂရုဠှီသဒ္ဒါတို့၏ အနက်ကို သိစေနိုင်ရေး၌ကား သဒ္ဒါကျမ်းသည် မစွမ်းဆောင်နိုင်ပေ၊ ယင်းကား ကောသခေါ် အဘိဓာန်ကျမ်းတို့၏ အရာသာ ဖြစ်ပေသည်။ မှန်ပေသည်၊ အဘိဓာန်ကျမ်းတို့သည် ယောဂိကသဒ္ဒါ, ရုဠှီသဒ္ဒါ, ယောဂရုဠှီသဒ္ဒါ ၃-မျိုးလုံး၏ အနက်ကို သိစေနိုင်ပေသည်။

ဤသို့လျှင် ဘာသာတရပ်ကို ကောင်းမွန်စွာ တတ်မြောက်ရေး၌ အဘိဓာန်ကျမ်းတို့၏ လွန်စွာ အရေးကြီးပုံကို သိမြင်ကြသော ဆရာအဆက်ဆက်တို့သည် အဘိဓာန်အမျိုးမျိုးတို့ကို ရေးသားခဲ့ကြလေပြီ။ ပါဠိဘာသာ၌လည်း ဆိုခဲ့ပြီးသဒ္ဒါ ၃-မျိုးလုံး၏အနက်ကို သိစေနိုင်သော အထက်၌ဖော်ပြခဲ့ပြီးသည့် ပါဠိဘာသာဆိုင်ရာ အဘိဓာန်ကျမ်းအမျိုးမျိုးတို့ကို ဆရာပေါင်းများစွာတို့ ရေးသား ထုတ်ဝေခဲ့ကြလေပြီ။ အဆိုပါ ပါဠိအဘိဓာန်ကျမ်းတို့သည်လည်း ကမ္ဘာ၏အင်အားအလျောက် ပါဠိဘာသာနှင့် စာပေလေ့လာမှုအား နှစ်ပေါင်းများစွာပင် အကျိုးပြုသင့်သလောက် အကျိုးပြုခဲ့ကြပေသည်။

ယင်းပါဠိဘာသာလေ့လာမှုသည် လေ့လာသူ ပုဂ္ဂိုလ်တို့သို့ လိုက်၍ အမျိုးမျိုး ကွဲပြားလျက်ရှိသည်ကို တွေ့ရပေသည်။ အချို့သော ပုဂ္ဂိုလ်တို့သည် မိမိမသိသောပုဒ်၏ အနက်မျှကို သိရလျှင်ပင် ကျေနပ်ကြ၏၊ အချို့ကား ထိုမျှဖြင့် မကျေနပ်နိုင်ကြသေးပဲ ပုဒ်၏အရင်းအမြစ်ဖြစ်သည့် ဓာတ်, ပစ္စည်းစသည် ခွဲဝေပုံတို့ကိုပါ သိရမှ ကျေနပ်ကြ၏၊ အချို့ကလည်း ၎င်းတို့အပြင် ဝိဂ္ဂဟ်,ဝစနတ္ထတို့ကိုပါ လေ့လာလိုကြသည်၊ အချို့ကမူကား ၎င်းတို့အပြင် ခိုင်လုံသည့် ဆိုင်ရာသဒ္ဒါကျမ်း အကိုးအကားတို့ကိုပါ သိလိုကြသည်၊ အချို့ကလည်း တဆင့်တက်၍ ၎င်းပုဒ်တို့ကို တွေ့ရှိနိုင်မည့် ပါဠိတော်, အဋ္ဌကထာ စသော ကျမ်းကြီး ကျမ်းခိုင်တို့မှ အကိုးအကားများကိုပါ သိရှိလိုကြပြန်သည်။ ဤကဲ့သို့ လေ့လာမှုအမျိုးမျိုး ရှိနေပေရာ ထိုလေ့လာမှုအားလုံးကို သိမ်းခြုံ၍ လေ့လာသူ ပုဂ္ဂိုလ်အားလုံး၏ စိတ်နှလုံးကို ရွှင်ပြုံးနှစ်သိမ့်စေနိုင်မည့် ပည်းပုံ ပေါ်ယယ် ဒွေးကြွယ် ခမ်းနားသော ပါဠိအဘိဓာန်မျိုးကား မြန်မာပြည်တွင် မပေါ်ခဲ့ဘူးသေးပေ။ မြန်မာပြည်၌ ပေါ်ပေါက်ခဲ့သော

---

၁။ ယောဂိကသဒ္ဒါဟူသည် ဝါကျနက်သို့အစဉ်လိုက်သော အနက္ထာသဒ္ဒါမျိုးတည်း၊ ဥပမာ "ပါစက" စသည်။ ရုဠှီသဒ္ဒါဟူသည်မှာ ဝါကျနက်သို့ မလိုက်ပဲ လူအများက သတ်မှတ်ထားသောအနက်ကို ဟောသော သဒ္ဒါမျိုးတည်း၊ ဥပမာ "ယဋ္ဌ" စသည်။ ယောဂရုဠှီသဒ္ဒါဟူသည်မှာကား ဝါကျနက်သို့လည်း အနည်းငယ်လိုက်၍ လူအများ သတ်မှတ်အပ်သောအနက်ကိုလည်း ဟောသော သဒ္ဒါမျိုးတည်း၊ ဥပမာ "ပင်္ကဇ,ပဒ္ဒ" စသည်။

အဘိဓာန်တို့မှာ အထက်ပါ လေ့လာမှုမျိုးတို့တွင် တမျိုးကိုသော်၎င်း, ၂မျိုး ၃-မျိုးကိုသော်၎င်း အကျိုးပြုနိုင်မည် ဖြစ်သော်လည်း လေ့လာမှုအားလုံးကိုကား အကျိုးမပြုနိုင်ကြပေ။ ဗုဒ္ဓသာသနာတော်နှင့်တကွ ဗုဒ္ဓစာပေလေ့လာမှု အများဆုံး ထွန်းကားရာဖြစ်သည့် မြန်မာနိုင်ငံ၌ ဆိုခဲ့ပြီး လေ့လာမှုအားလုံးကို အကျိုးပြုနိုင်မည့် ပါဠိအဘိဓာန်ကြီးမျိုး လိုအပ်လျက်ရှိသည်မှာ ကြာပေပြီ။ ဤ တိပိဋက ပါဠိမြန်မာအဘိဓာန်ကျမ်းကြီးကား ယင်းလိုအပ်ချက်ကို ပြည့်စုံစေရန် အလို့ငှါပင် ပေါ် ထွက်လာရခြင်း ဖြစ်ပေသည်။

ဤ တိပိဋက ပါဠိမြန်မာ အဘိဓာန်ကျမ်းကြီး ထွက်ပေါ်ရန် အစပြုခဲ့သည့် နှစ်ကား ဆဋ္ဌသင်္ဂါယနာတင် အစမပြုမီ ၁၃၁၂-ခုနှစ်ပင် ဖြစ်ပေသည်၊ ၎င်းနှစ် ဒုတိယဝါဆိုလတွင် နိုင်ငံတော်ဝန်ကြီးချုပ် ဦးနုသည် မိမိနေအိမ်၌ သီရိမင်္ဂလာပရိတ်တော်အဖွဲ့ကို ဖွဲ့စည်းတည်ထောင်ရန် တိုင်ပင်ဆွေးနွေးကြစဉ်အခါ ဆဋ္ဌသင်္ဂါယနာတင် စီမံကိန်း, ပိဋကတ်တော် မြန်မာပြန် စီမံကိန်းတို့နှင့် တပါတည်း ပိဋက ၃-ပုံ ပါဠိမြန်မာအဘိဓာန်ကျမ်းကြီး ရေးသားရန် စီမံကိန်းကို ရေးဆွဲ၍ ၎င်းလုပ်ငန်းများကို ဆောင်ရွက်ကြရန် သက်ဆိုင်ရာတို့အား ဥယျောဇဉ်စကား ပြောကြားခဲ့လေသည်။

ယင်း ဥယျောဇဉ်စကားကို အကြောင်းပြု၍ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က အောက်ပါ ပုဂ္ဂိုလ်များ ပါဝင်သော အဘိဓာန်(စီစစ်ရေးဆွဲရေး)အဖွဲ့ကို ဖွဲ့စည်းခဲ့လေသည်[၁]။

သံဃာတော်များ

(၁) ဆရာတော် ဦးဉာဏုတ္တရ, အဂ္ဂမဟာပဏ္ဍိတ။
(၂) မဟာစည်ဆရာတော်, အဂ္ဂမဟာပဏ္ဍိတ။
(၃) ဆရာတော် ဦးဝိသုဒ္ဓ, အဂ္ဂမဟာပဏ္ဍိတ။
(၄) ဆရာတော် ဦးဩဘာသ, မြန်မာအဘိဓာန်ကျမ်းပြု, နှစ်ကျိပ်ရှစ်ဆူကျောင်း, သရက်တောတိုက်, (ယခု-မျှော်ပုံတိုက်သစ်) ရန်ကုန်။

လူပုဂ္ဂိုလ်များ

(၁) ဒေါက်တာ ဆရာလင်း, အဂ္ဂမဟာပဏ္ဍိတ, အယ်ဒီတာချုပ်, ပိဋကတ်တော်မြန်မာပြန်ဌာန။
(၂) ဦးကြီးဖေ, မဟာပညာဗလ, သာသနာ့ညွှန်ကြားရေးဝန်။
(၃) ဦးဖေမောင်တင်, တက္ကသိုလ်ကျောင်းအုပ်ဟောင်း။
(၄) ဦးလှဖေဝင်း, ကျောက်တောဝန်။
(၅) ဦးဝန်, စာတည်းမှူး, ရန်ကုန်တက္ကသိုလ်။
(၆) ဦးသိန်းဟန်, ပိဋကတ်တိုက်မှူး, ရန်ကုန်တက္ကသိုလ်။
(၇) ဦးအောင်သန်း, ပါဠိပါမောက္ခ, ရန်ကုန်တက္ကသိုလ်။
(၈) ဦးမောင်မောင်ကလေး, ဝဏ္ဏကျော်ထင်, အဘိဓာန်ဌာနမှူးဟောင်း။
(၉) ဆရာဉာဏ်, မဟာပညာဗလ, စာပြင်မှူးချုပ်။
(၁၀) ဦးဘမို, ဒုတိယ အယ်ဒီတာချုပ်, ပိဋကတ်တော်မြန်မာပြန်ဌာန။
(၁၁) ဦးချန်ထွန်း, သတိုးမဟာသရေစည်သူ, တရားလွှတ်တော်ချုပ် တရားဝန်ကြီး။

---
၁။ ၁၃၁၅-ခု၊ ကျွတ်၊ ဆုတ်၊ ၃ (၂၆-၁၀-၅၃)နေ့ ရ-သ၊ စာမူ၊ စဉ်၊ ၁၀၄(၄-၂)။

ဤအဖွဲ့ကပင် ဝေါဟာရထုတ်နုတ်စုဆောင်းမှု၊ အဘိဓာန်ပုံစံဖော်မှု၊ အဘိဓာန်စီစဉ်ရေးသားမှု စသော အဘိဓာန်နှင့်ဆိုင်ရာ ကိစ္စအလုံးစုံကို စီမံဆောင်ရွက်သွားသည်။

ဤအဖွဲ့ဝင်တို့သည် မိမိတို့ရရှိပြီးသော အဘိဓာန်ဗဟုသုတများဖြင့်သာ မနှစ်သိမ့်မရောင့်ရဲသေးမူ၍ နိုင်ငံတွင်း၊ နိုင်ငံပမှ မထေရ်ကြီး၊ ယင်တို့၏ အဘိဓာန်ဗဟုသုတများကိုလည်း လေးစား မြတ်နိုးစွာ ရှာဖွေစုဆောင်းခဲ့ကြသည်။

နိုင်ငံအတွင်း (၁) အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ် ဆရာတော်ဘုရားကြီး၊ (၂) အဂ္ဂမဟာပဏ္ဍိတ ဝိဇ္ဇာလင်္ကာရဆရာတော်ဘုရားကြီး စသော မာဂဓသက္ကတကောဝိဒ၊ သဒ္ဒပရိယတ္တိပဘေဒ၊ ဂန္ထကာရကဖြစ်တော်မူသည်သာမက ဂဏာဓိပတိ၊ ဂဏာစရိယဖြစ်တော်မူကြသော ဆရာတော်ကြီးများနှင့်တကွ တိပိဋကရေမှုဘဏ္ဍာဂါရိက အရှင်ဝိစိတ္တသာရာဘိဝံသကဲ့သို့သော မထေရ်ကြီး၊ ငယ်တို့ကို အစည်းအဝေးများသို့ ပင့်ဆောင်၍၎င်း၊ သိတင်းသုံးရာကျောင်းတိုက်များသို့ သွားရောက်၍၎င်း အဘိဓာန်ပြုစုရေးနှင့် စပ်လျဉ်းသော ရှေးအစဉ်အလာထုံးဟောင်း၊ စံဟောင်း၊ နည်းကောင်း၊ နည်းမှန်များကို အကြိမ်များစွာ ကြားနာဆည်းပူးကြသည်[၁]။

နိုင်ငံပမှ သကသယသမယန္တရဂဟနဝိဂ္ဂါဟနသမတ္ထ၊ နာနာဝေါဟာရကုသလ၊ နိကာယမဟာနာယက၊ ဂန္ထကာရကနှင့် ဓမ္မဒူတများ ပါဝင်သည့် (၁) အရှင်ဗုဒ္ဓဒတ္တ၊ (၂) အရှင်ပေါက်တာဝဇီရညာဏ၊ (၃) အရှင်သောဘိတ၊ (၄) အရှင်ဉာဏာလောက၊ (၅) အရှင်အာနန္ဒမေတ္တေယျ[၂]၊ (၆) အရှင်ဂုဏသိရိ ဟူသော ကမ္ဘာကျော် သီဟိုဠ်သံဃာတော်များကိုလည်း တခုသော အစည်းအဝေးသို့ပင့်ဆောင်၍ အဘိဓာန်ရေးသားပြုစုရာရေးအတွက် ယခုခေတ်အမြင်နှင့် ကိုက်ညီဆီလျော်၍ ပညာရှိများ နှစ်မြို့ဖွယ်ဖြစ်သော နည်းသစ်၊ စံနစ်သစ်၊ အစီအမံသစ်များကို ဆွေးနွေး၊ လေ့လာ သေချာစွာမှတ်သားခဲ့ကြသည်[၃]။

ဤအဖွဲ့ဝင် ဦးဝန်၊ မဟာဝိဇ္ဇာ၏ ဖိတ်ကြားချက်အရ သာသနာ့ညွှန်ကြားရေးဝန် မဟာပညာဗလ ဦးကြီးဖေ ဦးဆောင်လျက် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၊ ပိဋကတ်တော်မြန်မာပြန်ဌာန၊ ဒုတိယအယ်ဒီတာချုပ် ဦးဘမှိုနှင့်တကွ စာပြုအယ်ဒီတာတို့သည် ၁၃၁၅ ခု တန်ဆောင်မုန်းလဆုတ် ၁-ရက် (၃၀-၁၁-၅၃) နေ့ ၁၂-နာရီအချိန် ရန်ကုန်တက္ကသိုလ်၊ မြန်မာအဘိဓာန်ဌာနသို့ သွားရောက်၍ မျက်မြင်ကိုယ်တွေ့ လေ့လာကြရာ အောက်ပါပုဂ္ဂိုလ်များ ပါဝင်သည်[၄]။

(၁) ဦးဖိုးလှမောင်
(၂) ဦးအုန်းရွှေ
(၃) ဦးစိန်မောင်
(၄) ဦးမောင်ကြီး
(၅) ဦးအုန်းဖေ
(၆) ဦးညိုမြ
(၇) ဦးဝင်း

---

၁။ ၁၃၁၅-ခု၊ တွဲပြည့် (၁၈-၂-၅၄) နေ့ထုတ်၊ ဓာန်၊ စဉ်၊ ၂၀၊ (ဝ)။
၂။ ထိုအရှင်သည် ၁၃၁၅-ခု၊ တွဲ၊ ဆုတ်-၁၀ (၂၈-၂-၅၄) နေ့ထုတ်၊ ဓာန်၊ စဉ်၊ ၃-ကိုလည်း တက်ရောက်သည်။
၃။ ၁၃၁၅-ခု၊ တွဲပြည့် (၁၈-၂-၅၄) နေ့ထုတ်၊ ဓာန်၊ စဉ်၊ ၂၀၊ (ဝ)။
၄။ ၁၃၁၅-ခု၊ ဆောင်၊ ဆုတ်-၇ (၂၈-၁၁-၅၃) နေ့ထုတ်၊ ဓာန်၊ စဉ်၊ ၁၊ ၄၊ (ဝ)။

(၈) ဦးသန်းမော်
(၉) ဦးစိုးဝင်း
(၁၀) ဦးမြင့်သိန်း
(၁၁) ဦးတင်မြင့်
(၁၂) ဦးတင်ဦး

ဦးဝန်က ကြိုဆိုညှိခံ၍ စာတွေ လက်တွေ့ အချင်းချင်း နှီးနှော ဆွေးနွေးခဲ့ကြရပြီးနောက် ပြန်ရောက်လာသောအခါ အဖွဲ့သို့ အောက်ပါ အစီရင်ခံစာကို တင်ပြကြသည်။

A Crit cal Pāli Dictionary, Vol. I စာအုပ်ကို ထုတ်ပြလျက် "ယခု အဘိဓာန်မှာ ဆရာကြီးသုံးဦး လူ့ သက်တမ်းစေ့နေထိုင်၍ မနေမနားရှာဖွေလို့ရတဲ့ စကားလုံးများကိုပြုစု ထားခြင်းဖြစ်ပါတယ်။

သက်တမ်းစေ့ နေထိုင်သွားကြတဲ့ ဆရာကြီးသုံးဦးမှ ကူးပြောင်းပြီး ပြုစုယူရသော ဝေါဟာရပုဒ်များမှာ ဤမျှသာရသည်ကို ချိန်ဆအကဲတော်ကြည့်ပါလျှင် ဆရာတို့ ယခု ပြုစု သွားမည့် လမ်းခရီး၌လည်း နှောင့်နှေးမှု အခက်အခဲများစွာ ကျော်ဖြတ်ရမှုတွေ တွေ့ပါ လိမ့်မယ်၊ အဲဒါတွေကိုတော့ စိတ်မပျက်ကြပါနဲ့၊ စိတ်ရှည်ရှည်ထားပြီး စုဆောင်းပြုစုကြဖို့ ကိုတော့ ကျွန်တော်တိုက်တွန်းလိုပါတယ်။

အားလုံး သိပြီးဖြစ်တဲ့အတိုင်း ကျွန်တော်ကိုယ်တိုင် မြန်မာအဘိဓာန်ကြီး ပြုစုဖို့ ရှေးယခင်ကတည်းက ဆောင်ရွက်လာခဲ့သူဖြစ်ပါတယ်၊ မြန်မာအဘိဓာန်ကြီး ပြုစုရေးနှင့် ပတ်သက်ပြီး နည်းနာနိဿယရှာဖွေရန် ကျွန်တော်ကိုယ်တိုင် ဥရောပတိုက်ရှိ ကျော်ကြား သော အောက်စဖို့ဒ်နှင့် လန်ဒန်ယူနီဘာစီတီ စသော တက္ကသိုလ်ကြီး လေးခုသို့လည်း ရောက်ခဲ့ပါတယ်။

ရှင်းရှင်းပြောရလျှင် အဲဒီ ယူနီဘာစီတီတွေမှာတောင် အဘိဓာန်လုပ်ကိုင်နေတဲ့ ဌာန ရယ်လို့ စနစ်တကျ သီးခြားမရှိဘူး၊ ကိုယ်ထင်ရာကို ကိုယ့်ဉာဏ်စွမ်းအားကိုး၍ အသုံးချ နေကြတာကို တွေ့ခဲ့ရပါတယ်။

အဘိဓာန်ပြုစုဘို့ နည်းနာနိဿယပေးပါလို့ တောင်းပြန်တော့ အဲဒီက ပါမောက္ခကြီး တွေက 'အဘိဓာန်လုပ်တဲ့ နည်းရယ်လို့မရှိပါဘူး၊ ကိုယ့်စိတ်ကူးနှင့် ကိုယ်တိုင်လုပ်ကိုင်သွား တဲ့စနစ်ကပင် ဆရာပြုလုပ်သွားတာပါဘဲ'လို့ အဖြေပေးလိုက်ကြပါတယ်။

ဒါနဲ့ စိတ်မကျေနပ်လို့ နောက်ပိတ်ဆုံး အောက်စဖို့ဒ်တက္ကသိုလ်ရှိ အဘိဓာန်ပြုစုသူ အကြီး ဆုံး ဆရာကြီးထံသို့သွားပြီး အဘိဓာန်ပြုစုရေး နည်းနာနိဿယတောင်းတော့ 'အဘိဓာန် လုပ်ဖို့နည်းရယ်လို့ ပေးလို့မရပါ၊ ပေးလည်း မပေးတတ်ပါ၊ ခင်ဗျားဘာသာ လုပ်ကိုင် သွားတဲ့အခါ တွေ့ရှိရမည့်သင်ခန်းစာကပင် နည်းလမ်းဖြစ်ပြီး ဆရာပြုလုပ်သွားပါလိမ့်မယ်' ဟု ပြောပြလိုက်ပါတယ်၊ အဲဒါကိုဘဲ အခြေခံမှတ်သား၍ ကျွန်တော်ပြန်လာခဲ့ပြီး ယခု ယူနီဘာစီတီ မြန်မာအဘိဓာန်ဌာနကို ဦးစီးလုပ်ကိုင်လာရာ ယခုထက်တိုင် အချို့နေရာ တွေမှာ လွဲချော်မှုတွေ မကင်းသေးပါ။

ယခု ဆရာကိုက ကျွန်တော့်ထံ နည်းလမ်းလာ၍ရှာဖွေကြပြန်တော့ ကျွန်တော်ကလည်း ‘နည်းဆိုတာ ကိုယ့်အလုပ်ကပင် ကိုယ့်ကို ဆရာလုပ်သွားပါလိမ့်မယ်’ဟု အဖြေပေးလိုပါတယ်”ဟု ဆရာဦးဝန်က ပြောပြလိုက်ပါသည်။

ရင်းပြင် ဆရာဦးဝန်က အဘိဓာန်လုပ်ကိုင်ရာ၌ အောက်ပါ အချက်များကိုလည်း အကြံပေးလိုက်ပါသေးသည်။

၁။ ပါဠိအင်္ဂလိပ်အဘိဓာန်ကြီးတွင် ကြိယာပုဒ်များကိုလည်း ထုတ်ထား၍ ယခု ပြုလုပ်မည့် ပါဠိမြန်မာအဘိဓာန်ကြီး၌လည်း ကြိယာပုဒ်များကို ထည့်ဖို့ကောင်းသည်။

၂။ ပါဠိတော်ပုဒ် ထုတ်သည့်အခါ နိဿယရေးသမျှ အမှားအမှန်စကားလုံးကို စကားလုံးတိုင်း စာစုပုဂ္ဂိုလ်များက မချန်မလှပ် ရေးသား ထုတ်နုတ်ရန်။

၃။ စာစုရာ၌ အမှားတွေ့၍ မှားမှန်းသိသော်လည်း ပြင်ဆင်၍ မရေးပဲ မူအတိုင်း စုဆောင်းရေးသားရန်။

၄။ ပုဒ်များ ပေါင်းစပ်ထားသော သမာသ်ပုဒ်ကြီးများ စသည်ကို အပေါင်းပြပြီး, အစိတ်အစိတ်ပုဒ်များကိုပါ ပြန်၍ ခွဲခြားဖော်ပြရန်။

၅။ နိပ္ဖန္နပုဒ်ရင်းအတိုင်း ဝိဘတ်နှင့်တကွ စာစုများက ထုတ်နုတ်ရန်။

အဘိဓာန်ပြုစုရာ၌ အခက်အခဲများနှင့် မုချရင်ဆိုင်ကြရမည်ဖြစ်ရာ အောက်ပါအချက်များကိုလည်း သတိပြုကြဖို့ အကြံပေးလိုက်ပါသေးသည်။

၁။ အဘိဓာန်ပြုစုရာ၌ ဝေါဟာရထုတ်နုတ်သော ဆရာတို့က ပုဒ်ပေါင်းတသိန်း ထုတ်ထားသော်လည်း သုံးစွဲ၍ရနိုင်သော ဝေါဟာရမှာ သုံးသောင်းမျှရှိလျှင် (သုံးပုံ-တပုံ ဆိုလိုသည်)ကံကောင်းသည်ဟု မှတ်ယူရမည်။

၂။ လုပ်ငန်းစတင်ချိန် ၆-လလောက်၌ ဘာမျှ မယ်မယ်ရရ လမ်းစတွေ့ရဦးမည် မဟုတ်သေးပဲ မှားလိုက်, ဖျက်လိုက်, စည်းကမ်းပြင်လိုက်နှင့်သာ စခန်းသွားရလိမ့်ဦးမည်ဟု မိမိထင်သည်။

၃။ သုံးမရတဲ့ ပုဒ်တွေပဲဟု လွှင့်မပစ်ပဲ တွေ့သမျှအကုန် ထုတ်နုတ်ရေးသားရန်၊ ထိုသို့ စာစုရာ၌ စိတ်မပျက်ပဲ စိတ်ရှည်ရှည်ထား၍ ရှာဖွေဖို့ အရေးကြီးပါသည်။

၄။ တက္ကသိုလ် မြန်မာအဘိဓာန် ပြုစုနေကြရာမှ ပုဒ်ပေါင်း ၁၅၀-ခန့်မျှ ရှိသော ဝေါဟာရထုတ်ပြီး စာရွက်ကလေးတွေကို ယူဆောင်ပြသည်၊ ‘ဟောဒီဟာ မြန်မာစာတည်းက က-အက္ခရာ ရသမျှပါပဲ၊ ဒီဟာ သူတို့ (လက်အောက်အမှုထမ်းတွေကို ဆိုလိုသည်) ရှာဖွေလို့သာ ဒီမျှရတာပါ၊ ကျွန်တော်သာ ရှာဖွေရလျှင် ဒီထက် သုံးဆမျှ ရမှာပဲ၊ ဒါပေမဲ့ သုံးဖြစ်တဲ့ ပုဒ်ကတော့ ကျွန်တော်ပြောခဲ့သလို သုံးပုံ-တပုံလောက် ပါလာလျှင် ရှာဖွေရကျိုးနပ်ပါသည်’ဟု ဆရာဦးဝန်က အကြံပေးလိုက်ပါသည်။

ထိုမှတပါး ဤအဖွဲ့၏ လျှောက်ထား, မေတ္တာရပ်ခံချက်အရ စာအားဖြင့် ရေးသားပေးပို့သော အဘိဓာန် ပြုစုရေးနှင့် စပ်လျဉ်းသည့် ထင်မြင်ချက်, အကြံပေးချက်များကိုလည်း စေ့စေ့ငေ

ဖတ်ရှု ကြားနာ၍ သေချာ လေးစားစွာ မှတ်သားကြသည်၊ ယင်းသို့ စာအားဖြင့် ရေးသား ပေးပို့ရာ၌ အောက်ပါ ပုဂ္ဂိုလ်များ ပါဝင်သည်[၁]။

(၁) ဦးကဝိန္ဒာဘိဝံသ, ဒက္ခိဏာရုံ ရွှေကျင်တိုက်,အုန်းရွာ,ကျောက်တန်း။
(၂) ဦးရေဝတ, ၎င်း ၎င်း
(၃) အရှင်ကောလိနိယ, မစိုးရိမ်တိုက်, မန္တလေးမြို့။
(၄) အရှင်မေဓိယာဇေ, မဟာဝိဇယမင်္ဂလာရာမတိုက်, ရွှေပြည်ရပ်, မန္တလေး။
(၅) ဦးတေဇနိယ, ဇောတိကာရုံတိုက်, ပြည်မြို့။
(၆) ဦးစိန္တာမယာဘိဝံသ, သာသနဟိတကာရီတိုက်, ဝါးခယ်မမြို့။
(၇) ဦးဣန္ဒက, ပင့်သန်းသိမ်ပွဲကျောင်းတိုက်, စစ်ကိုင်းတောင်ရိုး။
(၈) ဦးကေလာသ, ဂွေးချိုတိုက်, မန္တလေး။
(၉) အရှင်နန္ဒိယ, နန္ဒိယာရာမတိုက်, မိုးကုတ်မြို့။
(၁၀) ဦးပညိန္ဒာဘိဝံသ, ဇေယျသိန်ပါဠိတက္ကသိုလ်, စစ်ကိုင်း။
(၁၁) ဦးပညာဘိဝံသ, တောတောင်ဘီလူးချောင်, စစ်ကိုင်းတောင်ရိုး။
(၁၂) ဦးပညာဝံသာဘိကဝိဇေ, သာသနာ့တံခွန်ယပ်လှဲတိုက်, ရေနံချောင်းမြို့။
(၁၃) အသျှင်ကေဝလာဘိဝံသ, သပြေပင်တောရ, မုံရွာမြို့။
(၁၄) သိမ်ဦးဆရာတော်တပည့် ဦးပညာသိရီ, လှတောရွာ, ဝက်လက်မြို့နယ်, ရွှေဘိုခရိုင်။
(၁၅) သိမ်ဦးဆရာတော်တပည့် ဦးဣန္ဒက, လှတောရွာ, ဝက်လက်မြို့နယ်,ရွှေဘိုခရိုင်။
(၁၆) သိမ်ဦးဆရာတော်တပည့် ဦးသုမင်္ဂလ, လှတောရွာ, ဝက်လက်မြို့နယ်, ရွှေဘိုခရိုင်။
(၁၇) အရှင်သောဘိတာဘိဝံသ, ချမ်းသာကြီးတိုက်, မန္တလေး။
(၁၈) ဦးနာရဒါဘိဝံသ, ခင်မကန်တိုက်, အနောက်ပြင်, မန္တလေး။
(၁၉) ဦးပညာကိတ္တိ, မင်္ဂလာမဏ္ဍိုင်ကျောင်း, ထရန်စပို့လမ်း, ရန်ကုန်။
(၂၀) ဦးသုန္ဒရ, အဂ္ဂမဟာပဏ္ဍိတ, ဝိဇ္ဇာလင်္ကာရချောင်, မင်းကွန်း။
(၂၁) ဦးဝါသနာ, ပါဠိပဋိပတ္တိဝိဇ္ဇာသောဘဏ, ဝိဇိတာရုံကျောင်းတိုက်, မန္တလေး။
(၂၂) ဦးဝန်, စာတည်းမှူး, ရန်ကုန်တက္ကသိုလ်, ရန်ကုန်။
(၂၃) ဦးဟုတ်စိန်,ဘီအေ,ဘီအယ်လ်,ပဒတ္တမဥ္ဇူသာ ပါဠိမြန်မာအဘိဓာန်ကျမ်းပြု,ရန်ကုန်။
(၂၄) ဦးမြတ်ထွန်း, အမှုဆောင်အရာရှိ မှန်ရေးရာအဖွဲ့, အတွင်းဝန်ရုံး, ရန်ကုန်။

ဤအဖွဲ့၏နိုးဆော်ချက်အရ အောက်ပါပုဂ္ဂိုလ် ၃-ဦးတို့က အဘိဓာန်စီမံကိန်း ၃-မျိုးကို တင်ပြကြသည်။

---

၁။ ၁၃၂၀-၃၊ ခေါင်း ဆန်း၊ ၁၅ (၂၉-၈-၅၈) န-ဗ-သ။ ခေါင်းစဉ်၊ ၁၁၊၀၊၀။

( ၁ ) ဦးဩဘာသ, ဂန္ထကာရက, နှစ်ကျိပ်ရှစ်ဆူကျောင်း, သရက်တောတိုက်, ရန်ကုန် [၁]။

( ၂ ) ဒေါက်တာဆရာလင်း, အဂ္ဂမဟာပဏ္ဍိတ, အယ်ဒီတာချုပ်, ပိဋကတ်တော်မြန်မာပြန်ဌာန [၂]။

( ၃ ) ဦးမောင်မောင်ကလေး, အဘိဓာန်ဌာနမှူး [၃]။

ဤအဘိဓာန်ကျမ်းရေးသားပြုစုရာ၌ ယင်းစီမံကိန်း ၃-မျိုးမှ ကောင်းနိုးရာရာများကို ထုတ်နုတ်အသုံးပြုသွားကြသည်။

ပါဠိဝေါဟာရများ ထုတ်နုတ်စုဆောင်းရန် စာပေနှင့် ထုတ်နုတ်စုဆောင်းနည်းကို အောက်ပါအတိုင်း ရည်ညွှန်း သတ်မှတ်အပ်သည်။

နိကာယ် ၅-ရပ် ပါဠိတော်များက ဝေါဟာရများကို တည်ပုဒ်အဖြစ်ဖြင့် အက္ခရာစဉ်အလိုက် တလုံးမကျန် ထုတ်နုတ် စုဆောင်းရန် [၄]။

ပါဠိဝေါဟာရ ထုတ်နုတ် စုဆောင်းရန်စံနစ်ကို အောက်ပါအတိုင်း သတ်မှတ်အပ်သည်။

၁။ ပိဋကတ်တော် မြန်မာပြန်ဌာနရှိ စာပြုဆရာများက ပါဠိတော်စာအုပ်များကို တအုပ်ကျစီ တာဝန်ယူ၍ အစမှအဆုံးတိုင် ပါဠိဝေါဟာရများကို ကပ်ပြားကလေးများတွင် ထုတ်နုတ်စုဆောင်းရန်။

၂။ ထိုသို့စုဆောင်းသည့်အခါ ဆိုင်ရာပါဠိဝေါဟာရများ၏ ကျမ်း, ဝဂ်, သုတ်အမည်တို့ကိုငင်း, စာမျက်နှာနံပါတ်များကိုငင်း ကပ်ပြားကလေးများတွင် အသီးသီး ရေးထားရန်။

၃။ ထိုသို့ ထုတ်နုတ် စုဆောင်းပြီး ပါဠိဝေါဟာရများ၏ ဆိုင်ရာ ပါဠိတော်နိဿယာအနက် ( မြန်မာ ) ကိုလည်း ထိုကပ်ပြားကလေးများတွင် နိဿယအမည်နှင့်တကွ အသီးသီး ရေးထုတ်ထားရန်။

( ဤနိဿယာအနက်ကို ရေးမှတ်ထားခြင်း၏သဘောမှာ ထိုပါဠိဝေါဟာရကို မြန်မာပြန်ဆိုသည့်အခါ နှိုင်းယှဉ်ချက်အဖြစ် အသုံးပြုနိုင်ရန်ဖြစ်သည်။ )

အထက်ပါအတိုင်း ပိဋကကျမ်း တကျမ်း၏ စာမျက်နှာတခုမှ ပါဠိဝေါဟာရများကို နမူနာအဖြစ် ထုတ်နုတ် စုဆောင်း တင်ပြရန်ကိစ္စကို သာသနာ့ညွှန်ကြားရေးဝန် ဦးကြီးဖေနှင့် ဒုတိယ အယ်ဒီတာချုပ် ဦးဘမို့တို့အား တာဝန်လွှဲအပ်၍ ထိုတင်ပြသောနမူနာကို ကြည့်ရှုစစ်ဆေးရန် အောက်ပါပုဂ္ဂိုလ်များအား တာဝန်လွှဲအပ်ကြသည် [၅]။

( ၁ ) ဒေါက်တာ ဆရာလင်း။

( ၂ ) သာသနာ့ညွှန်ကြားရေးဝန် ဦးကြီးဖေ။

---

၁။ ၁၃၁၇-ခုပေါင်း၊ ဆန်း ၇ ( ၁၀-၃-၅၆ ) နဖ-သ၊ ဓာန်၊ စဉ်၊ ၇၊ ၃၊ (၁)။

၂။ ၁၃၁၅-ခုကျွတ်၊ ဆုတ်၊ ၁၀ ( ၂၆-၁၀-၅၃ ) နဖ-သ၊ စာမူ၊ စဉ်၊ ၁၀၊ ၄၊ (၀)။

၃။ ၁၃၁၈-ခုဆောင်၊ ဆုတ်၊ ၅ ( ၂၉-၁၁-၅၆ ) နဖ-သ၊ ဓာန်၊ စဉ်၊ ၈၊ ၃၊ (၀)။

၄။ ၁၃၁၅-ခု ဆောင်၊ ဆုတ်၊ ၇ ( ၂၈-၁၁-၅၃ ) နဖ-သ၊ ဓာန်၊ စဉ်၊ ၁၊ ၁၊ (၀)။

၅။ ၁၃၁၅-ခုဆောင်၊ ဆုတ်၊ ၇ ( ၂၈-၁၁-၅၃ ) နဖ-သ၊ ဓာန်၊ စဉ်၊ ၁၊ ၃၊ (၀)။

(၃) ဦးဖေမောင်တင်။
(၄) ဦးဘမို။
(၅) ဦးဝန်။

နိကာယ် ၅-ရပ် ပါဠိတော်များမှ ပါဠိဝေါဟာရ ထုတ်နုတ် စုဆောင်းရေးစနစ်တွင် အောက်ပါ အချက်များကို ထပ်ဖြည့်အပ်သည်[၁]။

၁။ ပါဠိ ဝေါဟာရများ မကြွင်းကျန်ရေး အတွက် ထုတ်နုတ် စုဆောင်းပြီး ဝေါဟာရပုဒ် အသီးသီး၏အောက်၌ ခဲမြင့်မျဉ်းကြောင်းဆွဲ၍ အမှတ်အသားပြုထားရန်။

၂။ နဝွေရုပုစိမန္ဒမူလ-စသော သမာသ်ပုဒ်မျိုးကို သမာသ်ပုဒ်အတိုင်းရင်း၊ နဝွေရု တပုဒ်၊ ပုစိမန္ဒ တပုဒ်၊ မူလ တပုဒ် ဤသို့ အသီးသီးရင်း ထုတ်နုတ် စုဆောင်း၍ သမာသ်ပုဒ်၏ အနက်၊ ပုဒ်အသီးသီး၏ အနက်တို့ကို ခွဲခြား ပြန်ဆို ရေးသားရန်။

၃။ စာစုဆရာများက ပါဠိဝေါဟာရများကို ထုတ်စုရမည့် စာရွက်၌ပါဠိတော်နှင့် နိသျှတို့၏ အမည်များ၊ စာမျက်နှာနံပါတ်များကိုပါ ဖော်ပြရမည်ဖြစ်ရာ ထိုသို့ဖော်ပြရာ၌ အလုပ် လွယ်ကူစေရန် ပါရာဇိကပါဠိတော်ကို ဝိနည်း၏ ပဌမအုပ် ဖြစ်သောကြောင့် "ဝိ၊ ၁။" ဟူ၍ရင်း၊ ပါဠိတော်ကို "ပါ" ဟူ၍ရင်း၊ နိသျှကို "နိ" ဟူ၍ရင်း သင်္ကေတပြုလျက် ထိုသင်္ကေတများကို တံဆိပ်တုံးလုပ်ပြီးလျှင် ရုံးလုလင်များက ကပ်ပြားများ၌ ရိုက်နှိပ် ထားနှင့်စေရန်၊ (ကျန် ပါစိတ္တိယပါဠိစသည်တို့ကိုလည်း "ဝိ၊ ၂။" စသည်ဖြင့် သင်္ကေတ ပြုလုပ်သွားရန်ဖြစ်သည်။)

ပါဠိဝေါဟာရ ထုတ်စုမှု၊ ၎င်းအတွက် ကြီးကြပ်ဆောင်ရွက်မှုနှင့် ညွှန်ကြားပြသမှုကို အောက်ပါအတိုင်း ထပ်ဖြည့်သတ်မှတ်အပ်သည်[၂]။

၁။ မထုတ်စုရသေးသော ပါဠိတော်များနှင့် အဋ္ဌကထာများမှ ဝေါဟာရများကို ဆက်လက် ထုတ်စုရန်။

၂။ ထုတ်စုသည့် ပုဒ်များကို ထုတ်စုသည့်နေ့ ညနေတိုင်း၌ အက္ခရာဝလိစီစဉ်၍ အစဉ်အတိုင်း ထားရှိပြီးဖြစ်အောင် ဒုတိယ အယ်ဒီတာချုပ် ဦးဘမိုက ကြီးကြပ်ဆောင်ရွက်ရန်။

၃။ ပါဠိဝေါဟာရထုတ်စုရေး၊ စီစဉ်ထားရှိရေးများ၌ စံနစ်တကျရှိ၍ အလုပ်တွင်ကျယ်ရေး အတွက် သာသနာ့ညွှန်ကြားရေးဝန် ဦးကြီးဖေက တနင်္ဂနွေတပတ်လျှင် အနည်းဆုံး တကြိမ်ကျ ဦးဘမိုနှင့် ဝေါဟာရထုတ်သူအားလုံးကို ညွှန်ကြားပြသရာ၌ ဆရာဉာဏ်နှင့် ဦးမောင်မောင်ကလေးတို့က အကူအညီပေးရန်။

ယင်းသို့သော စံနစ်၊ စည်းမျဉ်း၊ စစ်ဆေး ကြီးကြပ်မှု၊ ညွှန်ကြား ပြသမှု စသည်ဖြင့် ပါဠိ-ဝေါဟာရများကို ထုတ်စုလာခဲ့ရာ ၂-နှစ်ကျော်ကျော် ကြာသောအခါ အောက်ပါအချက်များကို သိရှိလာရသည်။

---

၁။ ၁၃၁၅-ခု၊ တပို့၊ ဆုတ်၊ ၁၀ (၂၈-၂-၅၄) နေ့-ဗုဒ္ဓ၊ ဓာန်၊ စဉ်၊ ၃။ ၂။ (၃,၄,၅)။
၂။ ၁၃၁၇-ခု၊ဆို၊ ဆုတ်၊ ၁၃ (၁၇-၇-၅၅) နေ့-ဗုဒ္ဓ၊ ဓာန်၊ စဉ်၊ ၁။ ၁။ (၃)။ ၂။ (၁,၇)။

၁။ အဘိဓာန်စကားလုံး ထုတ်ဖုတ်ခြင်း အစပြုသောအချိန်။

၂။ ထုတ်ဖုတ်သော ပုဂ္ဂိုလ်ဦးရေ။

၃။ ပြီးစီးခဲ့သော ပိဋကစာအုပ်နှင့် စာမျက်နှာ။

၄။ ထုတ်ဖုတ်ပြီးသော အဘိဓာန်စကားလုံးပေါင်း။

၅။ တလလျှင် စာဖုတ်ဆရာတဦး၏ ပြီးစီးသော စာမျက်နှာ စသည်။

ဤသို့ သိရှိလာရသည်မှာ သက်ဆိုင်ရာ၏ အောက်ပါ အစီရင်ခံစာကြောင့် ဖြစ်သည်[၁]။

အဘိဓာန်ပုဒ်များကို ထုတ်ဖုတ်လာခဲ့သည်မှာ ၁၉၅၃-ခု ဒီဇင်ဘာလမှစ၍ ၁၉၅၆-ခု ဒီဇင်ဘာလ ၃၁-ရက်အထိ လပေါင်း ၂၆-လတွင် ဝေါဟာရပုဒ်ပေါင်း ၂၅၀၀၀၀-ခန့် ရရှိပါသည်။

(ဆရာ ၆-ယောက် ထုတ်ဖုတ်ကြသဖြင့် ဆရာတယောက်လျှင် တနေ့ တနေ့၌ ပုဒ်ပေါင်း ၅၀-ကျော်, တလ တလ၌ ၁၅၀၀-ကျော် ရရှိကြောင်း ထင်ရှားပါသည်။)

စာအုပ်ရေအားဖြင့် ပျမ်းမျှခြင်း စာမျက်နှာ ၄၀၀-ကျော်ခန့်စီရှိသော ပါဠိတော်အုပ်ရေ ၁၆-အုပ်, အဋ္ဌကထာ ၈-အုပ်အားဖြင့် ၂၄-အုပ် ပြီးစီး၍ ထုတ်ဖုတ်ဆဲ ပါဠိတော်, အဋ္ဌကထာ ၉-အုပ်ကို ၂-အုပ်ခန့်ထားလျှင် ထုတ်ဖုတ်ပြီးစာအုပ် ၂၆-အုပ်ဟု ဆိုနိုင်ပါသည်။

သို့ဖြစ်၍ စာမျက်နှာ ၄၀၀-ခန့်စီရှိသော စာအုပ်ကို ဆရာ ၆-ယောက်ထုတ်ဖုတ်လျှင် ၁-လနှင့်ပြီးစီး၍ ပုဒ်ပေါင်း ၁၀၀၀၀-ခန့် ရရှိပြီးစီးကြောင်း ထင်ရှားပါသည်။

ပူးတွဲဖော်ပြပါရှိသော ပါဠိတော်စာအုပ်များနှင့် အဋ္ဌကထာ, ဋီကာ စာအုပ်များကို ပေါင်း၍တွက်သော် ဝေါဟာရထုတ်ဖုတ်ရန် ကျန်ရှိသော စာအုပ်များနှင့် ခန့်မှန်းချက် ဝေါဟာရပုဒ်များကို ရရှိနိုင်ပါသည်။

| | | |
|---|---|---|
| ပါဠိတော် | စာအုပ်ရေ | ၄၀ |
| အဋ္ဌကထာ | ။ | ၄၆ ၂ |
| ဋီကာ | ။ | ၃၅ ၂ |
| | ပေါင်း- | ၁၂၁ |
| ဝေါဟာရထုတ်ဖုတ်ပြီး စာအုပ်ရေ | | ၂၆ |
| ထုတ်ဖုတ်ရန်ကျန်သော စာအုပ် | | ၉၅ |
| တအုပ်လျှင် ထုတ်ဖုတ်ရန်ပုဒ်ရေ | | ၁၀၀၀၀ |
| နောက်ထပ်ထုတ်ဖုတ်ရန် ပုဒ်ပေါင်း | | ၉၅၀၀၀၀ |

ဤသို့လျှင် ဝေါဟာရပုဒ်များ ထုတ်ဖုတ်ရေးနှင့် စပ်လျဉ်း၍ အတော်အတန် အစပျိုးမိပြီဖြစ်၍ အောက်ပါ အဘိဓာန်စီမံကိန်းတခုကို ချမှတ်အပ်သည်[၃]။

၁။ ၁၃၁၈-ခု၊ဆုန်၊ ဆုတ်၊ ၅ (၂၉-၅-၅၆) နှ-ဗု-သာ ဓာန်၊ စဉ်၊ ၈၊ ၂၊ (ဝ)။
၂။ ထိုစဉ်ကရိုက်နှိပ်ပြီးရှိသည့် အဋ္ဌကထာ, ဋီကာတို့၏ စာရင်းဖြစ်သည်။
၃။ ၁၃၁၈-ခု၊ဆုန်၊ ဆုတ်၊ ၅ (၂၉-၅-၅၆) နှ-ဗု-သာ ဓာန်၊ စဉ်၊ ၈၊ ၃၊ (၁,၂,၃,၄)။

၁။ နိကာယ် ၅-ရပ် ပိဋကပါဠိတော်တို့မှ ပုဒ်များ အပြည့်အစုံ ပါဝင်သည့် "တိပိဋက ပါဠိမြန်မာအဘိဓာန်"ဟု ခေါ်တွင်သော အဘိဓာန်ကျမ်းကြီးတစောင်ကို စီရင်ပြုစုရန်။

၂။ ထို အဘိဓာန်ကျမ်းကြီးကို စီရင်ပြုစုရာ၌ အောက်ပါအတိုင်း စီရင်ပြုစုရန်။

(က) ပုဒ်အမျိုးမျိုး ခွဲခြားရှုံပြခြင်း။

(ခ) လိင်, ဓာတ်, ဓာတ်နက်, ပစ္စည်း, ပြုထိုက်သော ဝိဂ္ဂြိုဟ်, ဝစနတ်, မြန်မာတို့ကို ဖော်ပြခြင်း။

(ဂ) သဒ္ဒါထူး, အနက်ထူးတို့ကို ပါဠိ, အဋ္ဌကထာ, ဋီကာ စသော အကိုးအကားတို့ဖြင့် ဖော်ပြခြင်း။

(ဃ) ပုဒ်အချို့ကို သက္ကတဘာသာ၌ရှိသော ပုဒ်အချို့တို့နှင့် နှိုင်းယှဉ်ပြခြင်း။

(င) မာဂဓဗျာကရုဏ်းကျမ်းတို့၌ ပါရှိသော သဒ္ဒဝေါဟာရပုဒ်များကိုလည်း ရှင်းလင်း ဖော်ပြခြင်း။

(စ) ဓာတ်ကျမ်း အစောင်စောင်တို့၌ ပါရှိသော ဓာတ်များကိုလည်း သက္ကတဓာတ် ရင်းနှင့်တကွ ဂိုဏ်း,ဓာတ်နက်တို့ကို ဖော်ပြခြင်း။

၃။ ဤ တိပိဋကပါဠိမြန်မာအဘိဓာန်ကျမ်းကြီး ပြုစုသည့်အခါ—

1. The Pāli Text Societys' Pāli-English Dictionary, Ed by T. W. Rhys Davids and William Stede,
2. A Critical Pāli Dictionary, begun by V. Trenckner, revised, continued, and edited by Dines Andersen, Helmer Smith, and Hans Hendriksenss,
3. A Sanskrit English Dictionary, by Sir Monier Monier-Williams.

ဤခေတ်မီသော အဘိဓာန်များ ပြုစုသည့် စံနစ်ကို လိုက်နာ ပြုစုရန်။

၄။ ဤ တိပိဋကပါဠိမြန်မာ အဘိဓာန်တွင် ထုတ်စုပြီးပုဒ်များကို အက္ခရာဝလိ စီစဉ်သည့်အခါ P. T. S. အဘိဓာန်၌ အကို၊ –အဥ္စန၊ –ကူပ၊ –ဂတ္တ-စသည်ဖြင့် တွဲရာပုဒ်နောက်၌ စုပေါင်းပြထား၍ ရှာဖွေ ကြည့်ရှုရန် မလွယ်ကူသောကြောင့် အက္ခိ၊ အက္ခိအဥ္စန၊ အက္ခိကူပ၊ အက္ခိဂတ္တ-စသည်ဖြင့် အသီးအသီး တည်ပုဒ် အနေထား၍ပြသော Critical Pāli Dictionary စီစဉ်သည့် နည်းအတိုင်း စီစဉ်ရန်။

ဤသို့ အဘိဓာန်ပြုစုနည်း စီမံကိန်းကို ချထားပြီးနောက် အဘိဓာန်ပြုစုမှုကို ဆောင်ရွက်ရန် လိုအပ်သော အရာထမ်း အမှုထမ်းများကိုလည်း မှန်းဆတွက်ချက်၍ ရာထားသတ်မှတ်အပ်သည် [၁]။

အထက်၌ ဆိုခဲ့သော အဘိဓာန်အဖွဲ့၏ အကြံပေးချက်, ဆုံးဖြတ်ချက်နှင့် စီမံကိန်းများ အနက် အချို့ကို နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က လက်ခံ, အကည်ပြု, အရေးယူ, ဆောင်ရွက် ချက်အရ အောက်ပါ အရာထမ်း, အမှုထမ်းများဖြင့် ဤ တိပိဋကပါဠိမြန်မာအဘိဓာန်ကျမ်းကြီး ရေးသားပြုစုမှု လုပ်ငန်းကို ၁၃၁၈-ခု နတ္တော်လ (၁၉၅၆-ခု နိုဝင်ဘာလ)မှ စ၍ အစပြုအပ်သည်။

(၁) ဌာနမှူး ၁-ယောက်၊
(၂) စာပြုဆရာ ၃-ယောက်၊

[၁]။ ၁၃၁၈-ခု၊ ဆုန်၊ ဆုတ်၅ (၂၉-၅-၅၆)နေ့စွဲပါ၊ စာနံ၊ ၈၃/၊ ဂ၃၁(၆,က,ခ)။

(၃) စာစုဆရာ ၅-ယောက်၊
(၄) လက်နှိပ်စက်စာရေး ၁-ယောက်၊
(၅) မှုံးလုလင် ၁-ယောက်။

အဘိဓာန်ဌာန သီးခြားတည်ရှိပြီးနောက် ယင်းဌာနက ဝေါဟာရပုဒ်ထုတ်စုရာ၌ အဘိဓာန် ရေးသားပြုစုရာတွင် အက္ခရာအစဉ်အားဖြင့် ချထားအပ်သော အဘိဓာန်တည်ပုဒ်တို့၌၎င်း၊ လိင်၊ ဓာတ်၊ ပစ္စည်း၊ ဝိဘတ်၊ ဝိဂြိုဟ်၊ ဝစနတ်တို့၌၎င်း၊ ဖွင့်ဆိုသမွှန်အပ်သော အနက်တို့၌၎င်း၊ အကိုးသာဓကအဖြစ် ထုတ်ဆောင်အပ်သော ဥဒါဟရဏ် ပုံစံတို့၌၎င်း၊ မြန်မာစကား အသုံးအနှုန်း၊ ဝါကျ အသွားအလာ၊ အဖွဲ့အစပ်တို့၌၎င်း ထပ်မံ စိစစ်၍ သုံးသပ်ပြင်ဆင်ရန် လိုအပ်လာသည်။

ထိုတွင် အက္ခရာစဉ်ဖြင့် ချထားအပ်သော အဘိဓာန် တည်ပုဒ်တို့၌ အောက်ပါအချက်များဖြင့် စိစစ်ရန် လိုအပ်သည်။

(၁) ပါဠိတော်မူအရ မှန်၊ မမှန်၊
(၂) အဋ္ဌကထာမူအရ ဟုတ်၊ မဟုတ်၊
(၃) ဋီကာမူအရ သေချာ၊ မသေချာ စသည်။

ထို့ပြင် လိင်၊ ဓာတ်၊ ပစ္စည်း၊ ဝိဘတ်၊ ဝိဂြိုဟ်၊ ဝစနတ်တို့၌၎င်း၊ ဖွင့်ဆိုသမွှန်အပ်သော အနက်တို့၌၎င်း၊ အကိုးသာဓကအဖြစ်ထုတ်ဆောင်အပ်သော ဥဒါဟရဏ်၊ ပုံစံတို့၌၎င်း အောက်ပါအချက်များဖြင့် စိစစ်ရန် လိုအပ်သည်။

(၁) ပါဠိတော်နှင့် ညီ၊ မညီ၊
(၂) အဋ္ဌကထာနှင့် ဟပ်၊ မဟပ်၊
(၃) ဋီကာနှင့် စပ်၊ မစပ်၊
(၄) သဒ္ဒါနည်း ကျ၊ မကျ၊
(၅) ဆန်းနည်း ကိုက်၊ မကိုက်၊
(၆) အလင်္ကာဂုဏ် မြောက်၊ မမြောက်၊
(၇) သံဝဏ္ဏနာသက္ကတွင် မည်သည့်သံဝဏ္ဏနာ၊
(၈) နေတ္တိအကောက်ဖြင့် မည်သည့် ဟာရ၊ နယ၊ သာသနပဋ္ဌာန စသည်။

မြန်မာစကား အသုံးအနှုန်း၊ ဝါကျအသွားအလာ၊ အဖွဲ့အစပ်တို့၌ အောက်ပါအချက်များဖြင့် စိစစ်ရန် လိုအပ်သည်။

(၁) သာသနိက အခေါ်အဝေါ်၊ ဗာဟိရ အခေါ်အဝေါ် သင့်၊ မသင့်၊
(၂) လောကအသုံးအနှုန်း၊ ဓမ္မအသုံးအနှုန်း လျော်၊ မလျော်၊
(၃) စကားလုံး ချော၊ မချော၊ ပြေ၊ မပြေ၊
(၄) ဝါကျသွား ဖြောင့်၊ မဖြောင့်၊ ပေါ်၊ မပေါ်၊
(၅) မြန်မာမှု ပီ၊ မပီ၊ စစ်၊ မစစ်၊

(၆) မြန်မာရေးထုံး ကျ, မကျ၊ ညီ, မညီ၊

(၇) မြန်မာ့ရေးဟန် ပါ, မပါ၊ လှ, မလှ စသည်။

နောက်ဆုံး အကျဉ်းချုပ်အားဖြင့်ကား အောက်ပါအရေးအကြီးဆုံး အချက်များဖြင့် စိစစ်ရန် လိုအပ်သည်။

(၁) နိကာယ် ၅-ရပ် ပိဋကပါဠိတော်မှ ပုဒ်, အနက် အကြွင်းမဲ့ ကုန်, မကုန်၊ စုံ, မစုံ၊

(၂) အဖွဲ့က ချမှတ်ပေးထားသော ဥပဒေ, စည်းမျဉ်းနှင့် ကိုက်, မကိုက်၊ ညီ, မညီ၊

(၃) ကမ္ဘာ့သုံး အဘိဓာန်ကြီး၏ စံချိန် ရောက်, မရောက်၊ မှီ, မမှီ။

ထို့ကြောင့် ဤဆိုအပ်ခဲ့ပြီးသော အချက်များဖြင့် အပြည့်အစုံ စိစစ်၍ မှန်သည်ကို ထား, မှားသည်ကို ပြင်, လိုသည်ကို ဖြည့်, ပိုသည်ကို ဖျက်လျက် ထပ်မံသုတ်သင်ရန် အောက်ပါဆရာတော်များ ပါဝင်သော ပဋိဝိသောဓကအဖွဲ့ကို ဖွဲ့အပ်သည်[၁]။

(၁) ဆရာတော် ဦးသုန္ဒရ, အဂ္ဂမဟာပဏ္ဍိတ, ဝိဇ္ဇာလင်္ကာရချောင်, မင်းကွန်း။

(၂) ဆရာတော် ဦးသံဝရ, ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ, စကြာရန်အောင်တိုက်, ဖျာပုံမြို့။

(၃) ဆရာတော်ဦးဉာဏုတ္တရ,အဂ္ဂမဟာပဏ္ဍိတ, အောင်မြေဘုံစံတိုက်,စစ်ကိုင်းတောင်ရိုး။

(၄) မဟာစည်ဆရာတော်, အဂ္ဂမဟာပဏ္ဍိတ, သာသနာ့ရိပ်သာ, ရန်ကုန်။

(၅) ဆရာတော် ဦးသြဘာသ, မြန်မာအဘိဓာန်ကျမ်းပြု, နှစ်ကျိပ်ရှစ်ဆူကျောင်း, သရက်တောတိုက်, ရန်ကုန်။

ယင်းသို့ အဘိဓာန်ဌာန သီးခြားဖွဲ့၍ ဆောင်ရွက်လာရာ ၇-လ ကြာသောအခါ စာပြုဆရာများ ရေးသားပြုစုပြီးသော အဘိဓာန်ပုဒ်ရေ ၃၀၀၀-ကျော်ရှိ၍ ဆရာတော်များထံ ပို့ဆောင်, ရောက်ရှိသမျှ ထပ်မံသုတ်သင်ပြီးသော ပုဒ်ရေ ၅၀၀-ကျော်ရှိပြီဟု အစီရင်ခံစာအရ သိရသည်[၂]။

ယင်းသည့်အတွင်း အဘိဓာန်ဌာနမှူး ဦးမောင်မောင်ကလေးသည် ဇရာဒုဗ္ဗလဖြစ်၍ မိမိ၏ ဇီဝိတအန္တရာယ်ကို ကြိုတင်ကာကွယ်ရန် လိုအပ်သဖြင့် အလုပ်မှ နုတ်ထွက်သွားသည်[၃]။

ယင်းသည့်နောက် အဘိဓာန်ဌာနမှူး မရှိတော့မူ၍ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က လျှောက်ထားချက်အရ စစ်ကိုင်းတောင်ရိုး, မဟာဝိဇ္ဇောဒယချောင်, ပရိယတ္တိသာသနဟိတဓမ္မာစရိယနှင့် အစိုးရဓမ္မာစရိယဖြစ်၍ သက္ကတ, ဟိန္ဒီ, ဘင်္ဂါလီ, အင်္ဂလိပ် စသော ဘာသာန္တရတို့၌ နိုင်နင်းပွန်းတီးစွာ ကျွမ်းကျင်လိမ္မာသော အရှင်သီလာနန္ဒာဘိဝံသက အဘိဓာန်ကျမ်းပြုအဖြစ် တာဝန်ယူ၍ ဆောင်ရွက်သည်[၄]။

ရုံးအုပ်ချုပ်ရေးဆိုင်ရာကိစ္စများကိုမူ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ ခန့်အပ်ချက်အရ စာပြုဆရာ ဦးဖိုးလှမောင်က အတွင်းရေးမှူးအဖြစ် ဆောင်ရွက်သည်[၅]။

---

၁။ ၁၃၁၈-ခု၊ တွဲ၊ ဆုတ်၊ ၃ (၁၇-၂-၅၇) နေ့-ဗု-သာ၊ ဓာန်၊ စဉ်၊ ၁၅၊ ၃။ (၀)။
၂။ ၁၃၁၉-ခု၊ ယုန်ဆုတ်၊ ၀ (၁၆-၆-၅၇) နေ့-ဗု-သာ၊ ဓာန်၊ စဉ်၊ ၂၀၊ ၂။ ၀)။
၃။ ၁၃၁၉-ခု၊ ခေါင်၊ ဆန်း၊ ၉ (၄-၈-၅၇) နေ့-ဗု-သာ၊ ဓာန်၊ စဉ်၊ ၂၃၊ ၁။ (၅)။
၄။ ၁၃၁၉-ခု၊ ခေါင်၊ဆုတ်၊ ၆ (၁၆-၈-၅၇) နေ့-ဗု-သာ၊ ဓာန်၊ စဉ်၊ ၂၄၊ ၁။ (၁)။
၅။ ။ ။ ။ ၂၄၊ ၁။ (၂)။

ပင့်ဝိသောဓကအဖွဲ့၌ အောက်ပါပုဂ္ဂိုလ်များကို ထပ်မံ၍ ထည့်သွင်း ခန့်ထားအပ်သည်။

(၁) အရှင်အာနန္ဒပဏ္ဍိတ, ပဌမကျော်, သကျသီဟပရိယတ္တိသာသနဟိတဓမ္မာစရိယ, မဟာဝိသုဒ္ဓါရုံတိုက်, မန္တလေး[၁]။

(၂) ဦးဣန္ဒဝံသ, သာသနဓဇသိရီပဝရဓမ္မာစရိယ, မဟာဝိဇယာရာမတိုက်, ပခုက္ကူမြို့[၂]။

(၃) ဦးနန္ဒဝံသ, သာသနဓဇသိရီပဝရဓမ္မာစရိယ, ဓမ္မိကာရာမတိုက်, ခရမ်းမြို့[၃]။

(၄) ဦးဂန္ဓသာရာဘိဝံသ, ပရိယတ္တိသာသနဟိတဓမ္မာစရိယနှင့် သာသနဓဇသိရီပဝရ-ဓမ္မာစရိယ, စော်ဘွားလေးကုန်း, ရန်ကုန်[၄]။

(၅) ဦးဟုတ်စိန်, ဘီ-အေ,ဘီ-အယ်လ်, ပဒတ္ထမဉ္ဇူသာ ပါဠိမြန်မာ အဘိဓာန်ကျမ်းပြု, ရန်ကုန်[၅]။

(၆) ဦးမောင်မောင်ကလေး, ဝဏ္ဏကျော်ထင်, အဘိဓာန်ဌာနမှူးဟောင်း, ရန်ကုန်[၅]။

ထို့ပြင် အောက်ပါ ပုဂ္ဂိုလ်များပါဝင်သော ဩဝါဒသောဓကအဖွဲ့ကို ဖွဲ့စည်းအပ်သည်[၆]။

၁။ စကြာရန်အောင်ဆရာတော်, ဖျာပုံ။

၂။ ဆရာတော်ဦးဉာဏုတ္တရ, အဂ္ဂမဟာပဏ္ဍိတ။

၃။ မဟာစည်ဆရာတော်, အဂ္ဂမဟာပဏ္ဍိတ။

၄။ အရှင်ဝါသေဋ္ဌာဘိဝံသ, ပရိယတ္တိသာသနဟိတဓမ္မာစရိယနှင့် သာသနဓဇသိရီပဝရ-ဓမ္မာစရိယသိရောမဏိ, ဂဏဝါစကစာချဆရာတော်, မဟာဓမ္မိကာရာမတိုက်, သပြေကန်ရွာ, သုံးလျှင်မြို့နယ်။

၅။ အရှင်သီလာနန္ဒာဘိဝံသ, အဘိဓာန်ကျမ်းပြု။

၆။ ဆရာညွှန့်, မဟာပညာဗလ, စာပြင်မှူးချုပ်။

ပါဠိဝေါဟာရပုဒ် အများဆုံး, အနက်အဓိပ္ပါယ် အကြွယ်ဝဆုံး, အကိုးသာဓက အစုံဆုံး ပါဝင်သည့် အခမ်းနား အကြီးအကျယ်ဆုံး ပါဠိမြန်မာအဘိဓာန်ကျမ်းကြီး ပြုစုရာ၌ ချထားပြီးစံနစ်, စည်းမျဉ်းများ ရှိပြီးဖြစ်သော်လည်း နောက်ထပ် အကြံဉာဏ်များရရှိ၍ ပိုမိုကောင်းမွန်သော အချက်အလက်များဖြင့် ထပ်ဖြည့်သင့်က ထပ်ဖြည့်ရန် လိုအပ်သဖြင့် အထူးအစည်းအဝေးတရပ်ကို ပင့်ပိတ် ကျင်းပရာ အောက်ပါပုဂ္ဂိုလ်များ ကြွရောက်, ပါဝင်ကြသည်[၇]။

### သံဃာတော်များ

၁။ ဆရာတော်ဦးသုန္ဒရ, အဂ္ဂမဟာပဏ္ဍိတ, ဝိဇ္ဇာလင်္ကာရချောင်, မင်းကွန်း။

၂။ ဆရာတော်ဦးသံဝရ, စကြာရန်အောင်တိုက်, ဖျာပုံမြို့။

---

၁။ ၁၃၁၉-ခု၊ တော်၊ ဆုတ်၊ ၇ (၁၅-၉-၅၇) နေ့-ထုတ်၊ ဓာန်၊ စဉ်၊ ၂၅၊ ၇၊ (၀)။

၂။ ၁၃၂၂-ခု၊ ဆုန်၊ ဆုတ်၊ ၁၂ (၂၁-၅-၆၀) နေ့-ထုတ်၊ ဓာန်၊ စဉ်၊ ၃၂၅၊ (၀)။

၃။ ၁၃၂၃-ခု၊ ဆောင်၊ ဆုတ်၊ ၉ (၁-၁၂-၆၁) နေ့-ထုတ်၊ ဓာန်၊ ထူး၊ (ဂ)။

၄။ ၁၃၂၁-ခု၊ ဆုန်၊ ဆန်း၊ ၁၃ (၁၉-၅-၅၉) နေ့-ထုတ်၊ ဓာန်၊ စဉ်၊ ၂၀၊ ၃၊ (၀)။ ဤပုဂ္ဂိုလ်သည် ဝိဇ္ဇာတန်း စာမေးပွဲဝင်ရန်ရှိ၍ ၂လမျှ တာဝန်ဆောင်ပြီးနောက် အနားယူသွားသည်။

၅။ ၁၃၁၉-ခု၊ ပေါင်း၊ ဆုတ်၊ ၁၃ (၁၇-၁-၅၈) နေ့-ထုတ်၊ ဓာန်၊ စဉ်၊ ၂၁၊ ၂၊ (၂)။

၆။ ၁၃၁၂-ခု၊ ယုန်၊ ဆန်း၊ ၁၂ (၁၇-၆-၅၉) နေ့-ထုတ်၊ ဓာန်၊ စဉ်၊ ၂၁၊ ၂၊ (၂)။

၇။ ၁၃၂၀-ခု၊ ခေါင်၊ ပြည့် (၂၉-၈-၅၈) နေ့-ထုတ်၊ ဓာန်၊ စဉ်၊ ၁၁၊ ၁၊ (၀)။

၃။ ဗာရာဏသီဆရာတော်, ဦးအာနန္ဒပဏ္ဍိတ, မဟာဝိသုဒ္ဓါရုံတိုက်, မန္တလေး။
၄။ မဟာစည်ဆရာတော်, အဂ္ဂမဟာပဏ္ဍိတ။
၅။ ဆရာတော်ဦးဝိသုဒ္ဓ, အဂ္ဂမဟာပဏ္ဍိတ, ဆဋ္ဌသံဂါယနာ အကျိုးတော်ဆောင်။
၆။ ဆရာတော်ဦးဝိစိတ္တသာရာဘိဝံသ, တိပိဋကဓရ, ဓမ္မဘဏ္ဍာဂါရိက, မင်းကွန်း။
၇။ ဆရာတော်ဦးသြဘာသ, သရက်တောတိုက်, ရန်ကုန်။
၈။ အရှင်သီလာနန္ဒာဘိဝံသ, အဘိဓာန်ကျမ်းပြု။

## လူပုဂ္ဂိုလ်များ

( ၁ ) ဝဏ္ဏကျော်ထင်, ဦးမောင်မောင်ကလေး, အဘိဓာန်ဌာနမှူးဟောင်း။
( ၂ ) ဦးဟုတ်စိန်, ဘီ-အေ, ဘီ-အယ်လ်, အဘိဓာန်ကျမ်းပြု။
( ၃ ) ဆရာညာဏ်, မဟာပညာဗလ, စာပြင်မှူးချုပ်။
( ၄ ) ဦးဘမှီ, ပညာဗလ, ဒုတိယအယ်ဒီတာချုပ်။
( ၅ ) ဦးဝန်, မဟာဝိဇ္ဇာ, စာတည်းမှူး, စာအုပ်ထုတ်ဝေရေးဌာန, ရန်ကုန်တက္ကသိုလ်။
( ၆ ) ဦးထွန်းမြင့်, လက်ထောက်ကထိက, ဗုဒ္ဓစာပေဌာန, ရန်ကုန်တက္ကသိုလ်။

အစည်းအဝေးပွင့်လှစ်သောအခါ ဆဋ္ဌသံဂါယနာအကျိုးဆောင် ဆရာတော်ဦးဝိသုဒ္ဓက အစည်းအဝေးပင့်ဖိတ်ရခြင်း၏အကြောင်းကို အကျယ်တဝင့် ရှင်းလင်း, လျှောက်ထား, ပြောကြားသည်။ တိပိဋကပါဠိမြန်မာအဘိဓာန်အတွက် အကြံဉာဏ်ပေး စာများထဲမှ ကောက်နုတ်ချက်များကိုလည်း ဖတ်ကြား, တင်ပြသည်။

အစည်းအဝေးရောက် သံဃာတော်များနှင့် လူပုဂ္ဂိုလ်တို့သည် မြန်မာဘာသာသဒ္ဒါရင်း, ပါဠိ, သက္ကတ, အင်္ဂလိပ် စသော ဘာသာတို့၌ရင်း ဝိဒူ, ပါမောက်, တခွန်ဆောက်နိုင်လောက်အောင် ထူးထူးခြားခြား တတ်မြောက်သော ဝိသိဋ္ဌပုဂ္ဂိုလ်တို့ချည်းဖြစ်ကြ၍ အထက်တန်းကျကျ အောက်ပါ အခြင်းအရာတို့ဖြင့် မိန့်ဆို, လျှောက်ထား, ညှိနှိုင်း, နှီးနှောကြသည်။

( ၁ ) တိုက်ရိုက် မေး,ဖြေသော ပုစ္ဆာ,ဝိသဇ္ဇနာ။
( ၂ ) အထွက် အတက်ဖြင့် မေး,ဖြေသော စောဒနာ, ပရိဟာရ်။
( ၃ ) တိုင်ပင်ဆွေးနွေးသော သာကစ္ဆာ။
( ၄ ) အတွေ့အကြုံချင်းဖလှယ်သော ဗဟုသုတပရိဝတ္တန။
( ၅ ) အဆိုပြု, ထောက်ခံမှု ယောဇနုပတ္ထမ္ဘန။

ဤအခြင်းအရာမျိုးတို့ဖြင့် အောက်ပါအချက်များပေါ်၌ အခြေတည်၍ ညှိနှိုင်းနှီးနှောကြသည်။

( ၁ ) ကြံစည်မှန်းဆချက်=သက်ပ္ပ။
( ၂ ) နှလုံးသွင်း, သဘောထား=အဇ္ဈာသယ။
( ၃ ) ထင်မြင်ယူဆချက်=ဥပပရိက္ခာ။
( ၄ ) စုံစမ်းရှာဖွေချက်=သုတေသန။
( ၅ ) စူးစမ်းဆင်ခြင်ချက်=ဝိစာရဏ။

(၆) ကောန်တွေ့သိချက်=ပဋိသံဝေဒန။
(၇) ရှေးနည်း=ပေါရာဏိကနယ။
(၈) ခေတ်နည်း=အာဓုနိကနယ။

ဤအချက်များပေါ်၌ အခြေတည်၍ ၂-ရက်တိုင်တိုင် ရှင်းရှင်း နီးနီး ပွန်းပွန်း တီးတီး ကြေကြေ လည်လည် စဉ်းစားနှိုင်းညှိပြီးနောက် တညီတညွတ်တည်း တခဲနက် သဘောတူညီစွာ အောက်ပါ မူသေ(နိယမ)စည်းမျဉ်း ဥပဒေနှင့် ရေးနည်း ရေးဟန်ကိုပါ ပြဓာန်း သတ်မှတ်အပ်သည်။

(၁) လိင်ပြရာ၌ လက်သည်းကွင်းထားရန်။(ဥပမာ-(နု) စသည်)
(၂) အကိုးသာဓက မများလွန်းစေရန်နှင့် ထုတ်ပြသည့်အခါမှာလည်း အသုံးများသည့် နိကာယ်များမှ ထုတ်ပြရန်။
(၃) အသိခက်သော ဓာတ်နက်များကိုသာ ထည့်ရန်။
(၄) ကြိယာများကို ဝတ္တမာန်, ပဉ္စမီ, ပရိုက်, ကေတစ် တခုတည်းကိုသာပြ၍ ထူးခြားသည့် ကြိယာများကို ၎င်းအပိုဒ်၌ပင် ထည့်သွင်းပြရန်။
(၅) ပဒစ္ဆေဒ, ပဒဝိဘာဂ ပြရန်။
(၆) မသေချာသည့် ဝိဂြိုဟ်များကို ဤအမေးလက္ခဏာ(?)ဖြင့်သော်၎င်း ပြရန်, လုံးဝ မပြပဲသော်၎င်း ထားရန်။
(၇) အသိခက်၍ သက္ကတ တပုဒ်နှင့်ယှဉ်ပြလျှင် ပိုမိုထင်ရှားစွာ သိနိုင်မည့် ပုဒ်များကို သက္ကတပုဒ်နှင့် ယှဉ်ပြရန်။
(၈) မူကွဲရှိသည့်ပုဒ်များ၌ ယုတ္တိ ပိုရှိသောပုဒ်များကို တည်ပုဒ်အဖြစ် ထား၍ ကျန် ပုဒ်များကို ဆိုင်ရာအက္ခရာဝလိရောက်မှ "ကြည့်"ဟု ညွှန်းရန်။
(၉) အပိုး အမှာအထားများကို ထည့်သင့်မှ ထည့်ရန်။
(၁၀) ကြိယာများကို ရေးရာ၌ ဝိဘတ်ပြလျှင် ဝိကရဏပစ္စည်းကို ထည့်ပြရန်, ကာရိုက်ကို (ကာ-ကြိ)ဟု ပြရန်။
(၁၁) ဓာတ်ကို ပြရာ၌ သက္ကတ-အင်္ဂလိပ်အဘိဓာန်, ပါဠိ-အင်္ဂလိပ်အဘိဓာန်များကဲ့သို့ ဗျဉ္ဇနန္တနှင့် မပြမူ၍ သရန္တနှင့်သာ ပြရန်။
(၁၂) ခက်ခဲ, တိမ်မြုပ်သည့် အကိုးသာဓကများကို အနက်ပေးရန်။
(၁၃) အကိုးသာဓက မရှိသည့်အနက်ကို သင်္ကေတ တမျိုးဖြင့် ပြရန်။
(၁၄) တိလိင် ဝိသေသနအရာ၌ သော၊သည်၊သူ-ဟု စုံအောင်ထည့်ရန် မလို၊ "သော၊ သည်"ဟူ၍သာ ထည့်ရန်, ထင်ရှားသည့် ဖြစ်ပေါ်ပုဒ်၌ "သူ"ဟု ထည့်ရန်။
(၁၅) အက္ခရာဝလိစဉ်ရာ၌ နိဂ္ဂဟိတန္တကို ရှေ့ထား၍ စဉ်ရန်နှင့် သံယုက်ဗျည်းများကို သုဒ္ဓဗျည်း နောက်မှ စဉ်ရန်။
(၁၆) ဝိဂြိုဟ်ဝစနတ်များကို ထားမြဲအတိုင်းသာ ထားရန်။

(၁၇) အဋ္ဌကထာ, ဋီကာစသော အကိုးများကို ဆိုင်ရာပုဒ်သို့ရောက်မှထည့်ရန်၊ ဥပမာ အင်္ဂုတ္တရ-ကို ပြရာ၌ အင်္ဂုတ္တရ-၏ အဋ္ဌကထာဖွင့်ကို ထည့်ရန် မလို။

(၁၈) အနက်ပြန်ရာ၌ သဒ္ဒတ္ထ, ဝေါဟာရတ္ထ ၂-မျိုးရှိလျှင် ၂-မျိုးလုံးစုံအောင် ပြန်ရန်, ပေါရာဏတ္ထရှိလျှင် အာဓုနိကတ္ထကို နောက်မှရေးရန်, သဒ္ဒတ္ထနှင့် ဝေါဟာရတ္ထကို ကွဲအောင် ရေးရန်, သို့မဟုတ် သင်္ကေတ ပြရန်။

(၁၉) သတ်ပုံသတ်ညွှန်းနှင့်ပတ်သက်၍ ကဝိမျက်မှန်သတ်ပုံနှင့် မြန်မာသတ်ညွှန်းကျမ်းကို မှုထားပြီးလျှင် အများသုံး သတ်ပုံကို ဦးစားပေးရန်။

(၂၀) "ဗုဒ္ဓနှေငါးပါး, နှစ်နက်" စသည်အားဖြင့် ရေးမည့်အစား "ဗုဒ္ဓနှေ ၅-ပါး, ၂-နက်" စသည်အားဖြင့် အရေအတွက်ကို ဂဏန်းနှင့် ရေးရန်။

(၂၁) ဝိဂ္ဂဟ်ပြုပြီး အရကောက်ရာ၌ "ဒေါ်သတည်း"စသည်ဝယ် "တည်း,ဟူလို"စသော စကားများကို မထည့်ရန်။

(၂၂) တထာဂတာ,အရဟံ စသည်၌ အနက်ဖွင့်ရှိသမျှ ရေးရန်(ကိုယ်ပိုင်မူ နောက်က မထည့်ရ) မသေချာသည့် ပုဒ်များ၌ မည်သည့်ကျမ်းက ဆိုသည်ဟု အတိအကျ ထည့်ရန်။

(၂၃) ပဒဝိနိစ္ဆယနှင့် ပတ်သက်၍ အသိခက်သည့် ထူးခြားသော ပုဒ်များ၌ ပဒဝိနိစ္ဆယ အကျယ်ရေးသည့် ကျမ်းများကို ညွှန်ပြရန်။

(၂၄) ဥပသာရပုဒ်,နိပါတ်ပုဒ်များကို ရေးသားရာ၌ ပါဠိဥဒါဟရဏ်မရှိသော်လည်း အနက်စုံအောင် ထည့်သွင်းရေးသားရန်။

(၂၅) ကြိယာကို အနက်ဖော်ရာ၌ သည်-ဟု မရေးပဲ ၏-ဟု ရေးရန်။

(၂၆) အက္ခရာတလုံးတလုံး၏ အနက်ရှိသမျှ ဥဒါဟရဏ် မတွေ့သော်လည်း ပါဠိသုံး အနက်စုံအောင် ထည့်ရန်။

(၂၇) ယခိုက်,ပဋ္ဌာန်း ပါဠိတော်များ၌ ထူးခြားသည့်ပုဒ်များကိုသာ ရွေးထုတ်ရန်။

(၂၈) မြန်မာပြန်အနက် ထင်ရှားသိသာအောင် ပုံနှိပ်သည့်အခါကျမှ ကြည့်ရှုပြင်ဆင်ရန်။

ဆိုခဲ့ပြီးသော တိပိဋကပါဠိမြန်မာအဘိဓာန် ပြုစုစီမံကိန်းနှင့်စည်းမျဉ်းဥပဒေများ၌ အောက်ပါ အချက် ၂-ရပ် ပါဝင်သည်။

(၁) ပုဒ်အချို့တို့ကို သက္ကတဘာသာ၌ရှိသော ပုဒ်တို့နှင့် နှိုင်းယှဉ်ပြရန်။

(၂) ဓာတ်ကျမ်းအစောင်စောင်၌ ပါရှိသော ဓာတ်များကိုလည်း သက္ကတ ဓာတ်ရင်း တို့နှင့် တကွ ဂိုဏ်း,ဓာတ်နက်တို့ကို ဖော်ပြရန်။

ဤအချက် ၂-ရပ်ကို အကြောင်းပြု၍ အောက်ပါပြဿနာမျိုး ဖြစ်ပေါ်မည်ဆိုလျှင် ဖြစ်ပေါ် လာနိုင်သည်။

(၁) ပါဠိတော်, အဋ္ဌကထာ, ဋီကာတို့နှင့် မလုံလောက်သလော ?

(၂) မည်သည့်အတွက် သက္ကတကို အလေးပြုရသနည်း ?

(၃) သက္ကတ-က ပါဠိကို မည်သို့ ကျေးဇူးပြုသနည်း ?

ဤပြဿနာမျိုးတို့သည် အောက်၌ ပြဆိုလတ္တံ့သော ဥဒါဟရုဏ်, ပုံစံအချက်အလက်တို့ဖြင့် ရှင်းသွားနိုင်သည်။

(၁) အချက်နှင့် ဆိုင်သော ပါဠိပုဒ်ကို သဏ္ဌာတပုဒ်နှင့် နှိုင်းယှဉ်ပြခြင်းအကြောင်းကို ဆိုပေအံ့။

ဥဒါဟရုဏ်, ပုံစံကား— အံသ ဟူသော အဘိဓာန်ပုဒ်ကို အတ္ထုဒ္ဓါရပြုသော် (၁) အဖို့ အစု၊ (၂) ပခုံး, ပခုံးစွန်း၊ (၃) အထောင့်,အမြောင့် စသော အဘိဓေယျအနက်များ ထွက်ပေါ်နိုင်သည်။

သို့ရာတွင် ထိုပုဒ်သည် ရှင်းချည်း အထီးထီး တည်နေသောအခါ မည်သည့်အနက်ကို ဟောသည်ဟု အသေအချာ ခွဲခြား၍ မသိနိုင်။

"ပဋိဃိသော စ ကောဋ္ဌာသော၊ အံသော ဘာဂေါ ခန် တု သော[1]" ဟူသော နေရာမျိုး၌ သဟာယအုပ်စုတွင် သဘာဂပုဒ်ကို ထောက်ဆ၍၎င်း, "ယေ မမ္ပာ အတီတံသေန သင်္ဂဟိတာ[2]။ "မေ မမ္ပာ အတီတံသေန သင်္ဂဟိတာတိ အတီတကောဋ္ဌာသေန သင်္ဂဟိတာ[3]" ဟူသော နေရာမျိုး၌ ဝါကျနှင့် အဋ္ဌကထာအဖွင့်ကို ထောက်ဆ၍၎င်း ယင်း "အံသ"ဟူသော အဘိဓာန်ပုဒ်၏ အဘိဓေယျအနက်သည် "အဖို့,အစု"ဟု သိရသည်။

"အံသော နိတ္တိ ဘုဇသိရော၊ ခန္ဓော တသန္ဓိ ဇတ္တု တံ[4]" ဟူသော နေရာမျိုး၌ သဟာယအုပ်စုဝင် သမာနပုဒ်များကို ထောက်ဆ၍၎င်း, "ကေသံ ဥတ္တရာသင်္ဂံ ကရိတွာ[5]" "ကောဘိက္ခဝေ အံသေန မာတရံ ပရိဟရေယျ[6]" ဤသို့ စသော နေရာမျိုးတို့၌ ဝါကျနှင့် အဋ္ဌုပ္ပတ္တိကို ထောက်ဆ၍၎င်း ယင်း "အံသ"ဟူသော အဘိဓာန်ပုဒ်၏ အဘိဓေယျ အနက်သည် "ပခုံး, ပခုံးစွန်း"ဟု သိရသည်။

"စတုဟိ အံသေဟိ ယုတ္တံ စတုရံသံ[7]" "အဋ္ဌံသော သုကတော ကောကသိ[8] အံသဘာဂေ" ဤသို့သော နေရာမျိုးတို့၌ ဝါကျနှင့် အရာဌာနကို ထောက်ဆ၍၎င်း, အဋ္ဌကထာအဖွင့်ကို ထောက်ဆ၍၎င်း ယင်း "အံသ"ဟူသော အဘိဓာန်ပုဒ်၏ အဘိဓေယျအနက်သည် "အထောင့်, အမြောင့်"ဟု သိရသည်။

ယင်းသို့ "အံသ"ဟူသော ပုဒ်သည် ရှင်းချည်း ထီးထီးတည်ရှိသောအခါ များသောသာမည အနက်ထဲမှ သီးသန့်ထူးခြားသော ဝိသေသအနက်တခုကို မသိနိုင်မှု၍ သဟာယပုဒ်စု, ဝါကျ,နေရာဌာန, အဋ္ဌုပ္ပတ္တိနှင့် အဋ္ဌကထာအဖွင့် စသည်ကို အမှီရမှ သိရခြင်းသည် ဆိုလတ္တံ့သော အကြောင်းကြောင့် ဖြစ်သည်။

ဆိုခဲ့သည့် အနက် ၃-မျိုးနှင့် အခြားအနက်များကိုလည်း အတ္ထုဒ္ဓါရ ပြုနိုင်သော ယင်း "အံသ"ပုဒ်၌ပါသော "သ" အက္ခရာသည် ပါဠိနည်းအရ သဏ္ဌာန်တူ သမာနဝဏ္ဏလည်း ဖြစ်၍ အသံတူ သမာနသုတိလည်း ရှိနေသည်။

---

၁။ ခန်၊၄၇၁။ ၂။ အဘိ၊ ၁၊ ၂၁၃။ ၃။ အဘိ၊ဋ္ဌ၊၁၊၃၉၄။ ၄။ ခန်၊၂၆၄။
၅။ ဝိ၊၄၊၁၂။ ၆။ အံ၊၁၊၆၁။ ၇။ အဘိ၊ဋ္ဌ၊၁၊၃၅၄။ ၈။ ဝိမာန၊ ၄၊ ၂၈၄

"အံသ"ပဒ်ကို "အံသ [၁], အံသ [၂], အံသ [၃]"ဟု ခွဲခြားပြီးလျှင် အောက်ပါအတိုင်း သက္ကတ ပုဒ်နှင့် ယှဉ်ပြလျှင် "ငုံးချည်း အထီးထီး တည်ရှိနေခိုက်မှာပင် တခုသော သီးသန့်အနက်ကို သိနိုင်သည်။

အံသ[၁] (ပု) [ အံရ-သံ ]
အံသ[၂] (ပု) [ အံသ-သံ ]
အံသ[၃] (ပု) [ အဖြ-သံ ]

ဤသို့ ယှဉ်ပြလျှင် တည်နေသော သဏ္ဌာန်အားဖြင့်ငုံး, ရွတ်ဆိုအပ်သော အသံအားဖြင့် ငုံး ကွဲပြားခြားနား၍ တခုစီ သီးသန့်အနက်များကို သိနိုင်သည်။

ယင်းသို့ ဖြစ်ခြင်းကား— အံသ[၁]နှင့် ယှဉ်ပြသော အံရ-၌ ပါသည့် ရ-အက္ခရာသည် တာလုဇမျိုးဖြစ်၍ အာစောက်အရပ်လျှင် ဖြစ်ရာ,တည်ရာရှိလျက် ရွတ်ဆိုသောအခါ "သျှ"ဟု နား၌ ကြားရသည်[၁]။

အံသ [၂] နှင့် ယှဉ်ပြသော အံသ၌ ပါသည့် သ-အက္ခရာသည် ဒန္တဇမျိုးဖြစ်၍ သွားအရပ်လျှင် ဖြစ်ရာ,တည်ရာရှိလျက် ရွတ်ဆိုသောအခါ "ဆ"ဟု နား၌ ကြားရသည်[၂]။

အံသ [၃]နှင့် ယှဉ်ပြသော အဖြ-၌ ပါသည့် ဖြ-အက္ခရာကား တာလုမုဒ္ဓဇမျိုးဖြစ်၍ အာစောက်နှင့် အာထိပ်အရပ်လျှင် ဖြစ်ရာ,တည်ရာရှိလျက် ရွတ်ဆိုသောအခါ "သျှရ"ဟု နား၌ ကြားရသည်[၃]။

အောက်ပါ ဥဒါဟရုဏ် ပုံစံတို့သည်လည်း ပါဠိပုဒ်နှင့် သက္ကတပုဒ်ကို ယှဉ်ပြခြင်း၏ ပြဿနာ ပြေရှင်းကြောင်း ဖြစ်သည်။

မာသ [၁] ( ပု ) [ မာသ-သံ ] လ၊ လဆန်း, လဆုတ် ၂-ပက္ခ။
မာသ [၂] ( ပု ) [ မာဖ-သံ ] ပဲ၊ ပဲကြီး, ပဲလွန်း စသည်။
ဝဇ္ဇ [၁] ( တိ၊န ) [ ဝရျ-သံ ] ရှောင်ကြဉ်အပ်သော၊ အပြစ်ဒေါသ။
ဝဇ္ဇ [၂] ( န ) [ ဝါဒျ-သံ ] တီးမှုတ်အပ်သောတူရိယာ၊ ပြောဆိုအပ်သောစကား။

သက္ကတဓာတ်ရင်းပြခြင်းနှင့် ဓာတ်နက်ဖော်ခြင်းအကြောင်းကို ဆိုပေအံ့။

အောက်ပါ ဥဒါဟရုဏ် ပုံစံတို့သည် သက္ကတဓာတ်ရင်းပြခြင်းနှင့် ဓာတ်နက်ဖော်ခြင်း၏ပြဿနာ ပြေရှင်းကြောင်း ဖြစ်သည်။

မဇ္ဇတိ [၁] [ မာဇ္ဇယတိ-သံ၊ မဇ္ဇ=ဓေါဝနေ ] သုတ်သင်၏၊ ပွတ်တိုက်၏၊ အရောင်တင်၏။
မဇ္ဇတိ [၂] [မာဒျတိ-သံ၊ မဒ် −ဟာဒေ (= ဟာသော) ] ပျော်ရွှင်၏၊ ယစ်မူး၏။
ဝသတိ [၁] [ ဝဖတိ-သံ၊ဂျိမ=သေစနေ ] သွန်းလောင်း၏၊ ရွာ၏။
ဝသတိ [၂] ]ဝါဈတေ-သံ၊ ဝါဈ — တိရစ္ဆါသဒ္ဒေ ] မြည်-တွန်-ဟိန်း-ဟောက်-၏။

---

၁။ ပါ၊ဘာ၊ဓ-သုတ်မှင့် သဒ္ဒနီတိကောမုဒီ။ ဝိလ္ဆံ ၁၀၄၃။
၂။ ငုံး ဝိလ္ဆံ ၁၁၁၁။
၃။ ငုံး ဝိလ္ဆံ ၁၀၄၃,၁၂၉။

ဩဘာသတိ ၁ [အဝဘာသတိ-သံ၊ ဘာသ်=ဒိတ္တော်] တောက်ပ-ထွန်းလင်း-၏။

ဩဘာသတိ ၂ [အပဘာဿတိ-သံ၊ ဘာသ်=ဝစနေ] ဆဲရေး၏။

ဤမျှဖြင့် (၁) ပါဠိပုဒ်ကို သက္ကတပုဒ်နှင့် ယှဉ်ပြခြင်း။ (၂) သက္ကတဓာတ်ရင်းပြခြင်း, ဓာတ်နက်ဖော်ခြင်း၏ပြဿနာ ပြေရှင်းလောက်ပြီဟု ယူဆသည်။

ဤ အဘိဓာန်၌ ပါဠိပုဒ်ကို သက္ကတပုဒ်နှင့် ယှဉ်ပြခြင်း, သက္ကတဓာတ်ရင်းပြခြင်း, ဓာတ်နက်ဖော်ခြင်း, ရံဖန်ရံခါ သက္ကတ ဗျာကရဏ်းအဆုံးအဖြတ်နှင့် အကိုး သာဓကများကို ထည့်သွင်းခြင်းသည် ပါဠိကျမ်းဂန် ရေးရိုးအစဉ်အလာ၌ ထူးထူးဆန်းဆန်း နယ်ကျော်သော ကိစ္စမဟုတ်ဖြစ်သည်။

သဒ္ဒါ, အနက်, အဓိပ္ပါယ်, အယူဝါဒ စသည်ကို ပေါ်လွင်, ထင်ရှားစေရန် လိုအပ်လျှင် အဋ္ဌကထာ, ဋီကာတို့၌ပင် သက္ကတပုဒ်ကို ပါဠိပုဒ်သို့ ပြောင်း၍သော်၎င်း, အကျဉ်းချုံး, ကောက်နုတ်အနေအားဖြင့်သော်၎င်း ထည့်သွင်းထားလေ့ရှိကြောင်းကို အောက်ပါ ဥဒါဟရဏ်, ပုံစံများဖြင့် သိနိုင်သည်။

| ဝိသုဒ္ဓိမဂ် မဟာဋီကာ | မိုရာဝိသေသိကဒဿနကျမ်းများ |
|---|---|
| ဗြဟ္မဏကမ္မသာမညဝိသေသသမဝါယာ ဗြဟ္မဏာဒိကာ။(ဝိသုဒ္ဓိ၊ ဋီ၊ ၂။ ၃၅၉။) | မနုဝိသေသာနုသုတာ ဗြဟ္မဏကမ္မသာမညဝိသေသသမဝါယာနံ ပဒတ္ထာနံ သာမညဝိသေသေဟိ တတ္ထညာနာ နိဒ္ဒေသယျသံ။ (ဝိသေသိကဒဿန၊ ၁၊၁၊၄-သုတ်။) |
| တတ္ထ ပထဝီ အာပေါ တေဇော ဝါယု အာကာသော ကာလော ဒိသာ အတ္တာ မနောတိ နဝ ဒြဗျာနိ။ (ဋင်း။ ၃၆၀။) | ပထဝီ အာပေါ တေဇော ဝါယု အာကာသံ ကာလော ဒိသာ အတ္တာ မနော ဣတိ ဒြဗျာနိ။ (ဋင်း၊ ၁၊ ၁၊ ၅-သုတ်။) |
| သဒ္ဒရူပရသဂန္ဓဖဿသင်္ခါ ပရိမာဏာနိ ပုထုတ္တ သံယောဂ ဝိယောဂ ပရတ္တာပရတ္တ ဗုဒ္ဓိ သုခ ဒုက္ခ ဣစ္ဆာ ဒေါသ ပယတ္တ ဂုရုတ္တ ဒြဝတ္တ သ္နေဟ ဝေဂါ သင်္ခါရာ'ဒိဋ္ဌာ· စေတိ ဧဝ မေတေ စတုဝီသတိ ဂုဏာ။ (ဋင်း။) | ရူပရသဂန္ဓဖဿာ သင်္ချာ ပရိမာဏာနိ ပုထုတ္တံ သံယောဂဝိဘာဂေါ ပရတ္တာ'ပရတ္တေနိ ဗုဒ္ဓိယော သုခဒုက္ခာနိ ဣစ္ဆာ ဒေါသပယတ္တာ စ ဂုဏာ။ (ဋင်း၊ ၁၊ ၁၊ ၆-သုတ်။)<br>ဧကာဒေနေ ဂုရုတ္တ ဒြဝတ္တ သ္နေဟသင်္ခါရ ဓမ္မ'·ဓမ္မသဒ္ဒေ သမုစ္စိနောတိ။ ဋင်းသုတ်၏ ဘာသာ။<br>ရူပရသဂန္ဓဖဿသင်္ချာ, ပရိမာဏ ပုထုတ္တ သံယောဂ ဝိဘာဂ ပရတ္တာ'ပရတ္တ ဂုရုတ္တ ဒြဝတ္တ သ္နေဟ သဒ္ဒ ဗုဒ္ဓိ သုခ ဒုက္ခိစ္ဆာ ဒေါသ ပယတ္တ ဓမ္မာဓမ္မသင်္ခါရ စတုဝီသတိဂုဏာ။ (တက္ကသင်္ဂဟ၊ စာပိုဒ်-၄။) |
| ဥက္ခေပနံ အဝက္ခေပနံ အာကုဉ္စနံ ပသာရဏံ ဂမနမိတိ ပဉ္စ ကမ္မာနိ။ (ဋင်း။) | ဥက္ခေပန မဝက္ခေပန မာကုဉ္စနံ ပသာရဏံ ဂမနမိတိ ကမ္မာနိ။(ဝိသေသိက၊ ၁၊ ၁၊ ၇-သုတ်။) |
| သံ ဣတိ ယတော ဗြဟ္မဏကမ္မေသု သာ အတ္ထိ ဧဝါတိ ဧတံ မဟာသာမညံ။ (ဋင်း။) | သဒိ ဣတိ ယတော ဗြဟ္မဏကမ္မေသု သာ သတ္တာ။ (ဋင်း။ ၁၊ ၂၊ ၇-သုတ်။) |

## ဝိသုဒ္ဓိမဂ် မဟာဋီကာ

ဣဟ တဒ္ဓေသု ပဋ္ဌော, ကပါလေသု သဋ္ဌော-တိ ဣဟေတိ ယတော ဟေတုဟေတုဖလာနံ သမ္ဗန္ဓော သမဝါယောတိ ဝုတ္တော။ (ရှင်း။)

အယုတ္တသမ္ဗန္ဓေ သမဝါယသညာ။ (ရှင်း။)

## အနုဋီကာ စသည်

ကထာနန္တိ တိဿော ကထာ ဝါဒေါ, ဇပ္ပေါ၊ ဝိတဏ္ဍာတိ။ တေသု ယေန ပမာဏတက္ကေဟိ ပက္ခပဋိပက္ခာနံ ပတိဋ္ဌာပနပဋိက္ခေပါ ဟောန္တိ၊ သော ဝါဒေါ။ (အနုဋီ၊ ၃။ ၅၇။)

ဧကာဓိကရဏာ ဟိ အညမညဝိရုဒ္ဓါ ဓမ္မာ ပက္ခပဋိပက္ခာ၊ ယထာ –"ဟောတိ တထာဂတော ပရံ မရဏာ၊ န ဟောတိ တထာဂတော ပရံ မရဏာ"တိ။ (ရှင်း)

နာနာဓိကရဏာ ပန အညမညဝိရုဒ္ဓါပိ ပက္ခပဋိပက္ခာ နာမ န ဟောန္တိ၊ ယထာ– "အနိစ္စံ ရူပံ၊ နိစ္စံ နိဗ္ဗာန"န္တိ။ (ရှင်း)

ဝတ္ထာနိ ဇိဏ္ဏာနိ ယထာ ပဟာယ၊
နဝါနိ ဂဏှာတိ နရော ပရာနိ။
နိက္ခိပ္ပ ဒေဟံ ဣဓ ဇိဏ္ဏမေဝံ၊
ဂဏှာတိ အတ္တာ တိနဝံ သုခေသီ။
(ဝိသုဒ္ဓိ၊ဋီ၊ ၂။ ၂၉၃။)

သဒ္ဒနယေန ဝါ ပိသောဒရာဒိပက္ခေပလက္ခဏံ ဂဟေတွာ။ ဝိ၊ ဋ္ဌ၊ ၁။ ၉၅။ ဝိသုဒ္ဓိ၊ ၁။ ၂၀၄။

သဒ္ဒနယေန ဝါ "ပိသောဒရာဒီနိ ယထော-ပဒိဋ္ဌ"န္တိ ပိသောဒရာဒိပက္ခေပလက္ခဏံ ဂဟေတွာ။ မဟာဋီ၊ ၄။ ၂၂၉။

ဣန္ဒလိင်္ဂဋ္ဌေန ဣန္ဒြိယဋ္ဌော၊ ဣန္ဒဒေသိတဋ္ဌေန ဣန္ဒြိယဋ္ဌော၊ ဣန္ဒဒိဋ္ဌဋ္ဌေန ဣန္ဒြိယဋ္ဌော၊ ဣန္ဒ-သိဋ္ဌဋ္ဌေန ဣန္ဒြိယဋ္ဌော၊ ဣန္ဒဇုဋ္ဌဋ္ဌေန ဣန္ဒြိယဋ္ဌော။ အဘိ၊ ဋ္ဌ၊ ၂။ ၁၀၉။ ဝိသုဒ္ဓိ၊ ၂။ ၁၂၂။ (ပဋိသံ၊ ဋ္ဌ၊ ၁။ ၈၁-၌လည်း နည်းတူပင် ရှိသည်။)

## မှီရာ ဝိသေသိကဒဿနကျမ်းများ

ဣဟေဒမိတိ ယတော ကာရိယကာရဏာနံ သ သမဝါယော။ (ရှင်း၊ ၇၊ ၂၊ ၂၆။)

အယုတသိဒ္ဓါနံ အာဓေယျာဓာရဘူတာနံ ယော သမ္ဗန္ဓော ဣဟေတိပစ္စယဟေတု သ သမဝါယော။ အသမ္ဗဒ္ဓါနံ အဝိနာဘာဝနတ္တံ အယုတသိဒ္ဓိ။ ရှင်း၊ ၇၊ ၂၊ ၂၆-သုတ်၏ ဘာသျ။

## မှီရာကျမ်းများ

ပမာဏတက္ကသာဓနောပါလမ္ဘော သိဒ္ဓန္တာ-ဝိရုဒ္ဓေါ ပဉ္စာဝယဝေါပပန္နော ပက္ခပတိပက္ခပရိဂ္ဂ-ဟော ဝါဒေါ။ (နျာယဒဿန၊ ၁၊ ၂၊ ၁-သုတ်)

ဧကာဓိကရဏဋ္ဌာ ဝိရုဒ္ဓါ ဓမ္မာ ပက္ခပတိပက္ခာ ပစ္စနီကဘာဝတော၊ "အတ္ထိ အတ္တာ၊ နတ္ထိ အတ္တာ" ဣတိ။ (နျာယဒဿန၊၁၊၂၊၁-သုတ်၏ ဘာသျ။)

နာနာဓိကရဏာ ဝိရုဒ္ဓါ န ပက္ခပတိပက္ခာ၊ ယထာ–"နိစ္စော အတ္တာ၊ အနိစ္စာ ဗုဒ္ဓိ" ဣတိ။ (ရှင်း)

ဝါသာံသိ ဇိဏ္ဏာနိ ယထာ ဝိဟာယ၊
နဝါနိ ဂဏှာတိ နရော'ပရာနိ။
တထာ သရီရာနိ ဝိဟာယ ဇိဏ္ဏာ-
နျညာနိ သံယာတိ နဝါနိ ဒေဟီ။
(ဘဂဝဒ္ဂီတာ၊ ၂။ ၂၂။)

ပိသောဒရာဒီနိ ယထောပဒိဋ္ဌံ။ (ပါ၊ ၆၊ ၃၊ ၁၀၉။)

ဣန္ဒြိယ မိန္ဒ္ရလိင်္ဂ မိန္ဒ္ရဒိဋ္ဌ မိန္ဒ္ရသိဋ္ဌ မိန္ဒ္ရဇုဋ္ဌ-မိန္ဒ္ရဒတ္တ မိတိ ဝါ။ (ပါ၊ ၅၊ ၂၊ ၉၃။)

စင်စစ်သော်ကား ပါဠိသည် သက္ကတနှင့်သာ ဖုဝ် အနေအထား၊ ဓာတ်အခြေခံ၊ အနက်ဝေါဟာရ နီးစပ်သည် မဟုတ်သေး၊ မြန်မာကြိုင်၊ အဒ္ဓမာဂဓိ စ သည်တို့နှင့်လည်း နီးစပ်သည်သာ ဖြစ်သည်၊ မည်မျှနီးစပ်သည်ကို အောက်ပါ ဥဒါဟရဏ်, ပုံစံ တခုမျှဖြင့် သိနိုင်သည်။

## ပါဠိ

ရူပဥ္စ ဟိဒံ ဘိက္ခဝေ အတ္တာ အဘဝိဿ၊ န ယိဒံ ရူပံ အာဗာဓာယ သံဝတ္တေယျ၊ လဗ္ဘေထ စ ရူပေ 'ဧဝံ မေ ရူပံ ဟောတု၊ ဧဝံ မေ ရူပံ မာ အဟောသီ' တိ။ (ဝိ၊၃။၁၈။သံ၊၂။၅၅။)

## သက္ကတ

အာတ္မန် (ပု) ၁-အာတ္မာ၊ ဇီဝ။ ၂-ပရမာတ္မာ။ ၃-မန။ ၄-ဗုဒ္ဓိ။ ၅-မနနဲ့ ဓိတ္တိ။ ၆-သွဘာဝ။ ၇-မူတ္တိ၊ ဓတ္တ။ ၈-ပုတြ။ ၉-ဥဒျောဂ။ ၁၀- သူယ်။ ၁၁-အဂ္ဂိ။ ၁၂-ပဝန။ ၁၃-သာရ။ ၁၄-ဓိသေဿတာ။ ၁၅-သွဘာဝ၊ ပြကၖတိ။ ၁၆-ပုရုဖယာ သမဿဓရိရ။ (ဟိန္ဒီအနက်ဖွင့်)

## မြန်မာကြိုင်

အတ္တ=အပ္ပ (ပု) [အာတ္မန်-သံ] ၁-အတ္တာ, ဇီဝ, စေတန။ ၂-နိဇ, သွ။ ၃-ဒေဟ, ဓရီရ၊ ၄-သွဘာဝ, သွရူပ။

အတ္တ (ဝိ) [အာပ္တ-သံ] ညာတာဒိ-ဂုဏ-သမ္ပန္န, ဂုဏီ, ၂-ရာဂဒွေဖ, ဝိဗိတ, ဝီတရာဂ, ၃-ပြာယတ္တိတ-ဓါတာ ဂုရု။

အတ္တ (ဝိ) [အာတြ-သံ] ဒုးခ ကာ နာဂကရနေ ဝါလာ,သုခ ကာဥတ္ပာဒက။ (ဟိန္ဒီအနက်ဖွင့်)

## အဒ္ဓမာဂဓိ

အတ္တ (တြိ) [အာတြ-အာ-အဘိဝိဓိနာ တြာယတေ ဒုးခါတ် သံရက္ခတိ သုခံ စောတ္ပာ ဒယတီတျာတြး ] ဒုးခဟရနေဝါလာ, သုခပြာ။ (ဟိန္ဒီအနက်ဖွင့်)

အတ္တ (ပုံ) [အာပ္တ—အာပ္တိတိ ရာဂဒွေဖ မောဟာနာ မေကာန္တိကအာတျန္တိကစ္စ က္ခယး သာ ယသျာသ္တိ သ အာပ္တး]ယထာထိဒဓိ, ရာဂဒွေဖးဒိ သဗ ဒေါဖေါ် သေ ရဟိတ,နိဒေါ်ဖ အာဂမကာ ပြဏေတာ, ဝီတရာဂ။ (ဟိန္ဒီအနက်ဖွင့်)

ပါဠိသည် သာသနိကဘာသာဖြစ်သည်၊ သက္ကတ စသည်တို့သည် ဗာဟိရဘာသာများဖြစ်သည်၊ သို့သော် ဖြစ်ပေါ်ရာဒေသချင်း တူသောကြောင့် ဝေါဟာရခြင်း စပ်နွယ်လျက် ရှိသည်၊ အယူဝါဒချင်းမှာ ဖြောင့်ဖြောင့် ဆန့်ကျင်သည်သာ များ၍ တနည်းအားဖြင့် မကင်းစကောင်းစပ်နွယ်နေသည်သာ ဖြစ်သည်။

ယင်းသို့ စပ်နွယ်မှု ၂-မျိုး ရှိသောကြောင့် ပါဠိနှင့် သက္ကတ ယှဉ်ပြခြင်း, ပါဠိ၌ သက္ကတ ထည့်သုံးခြင်းသည် ဝိရုဒ္ဓပစ္စယအနေအားဖြင့်သော်၎င်း, အဝိရုဒ္ဓပစ္စယအနေအားဖြင့်သော်၎င်း ထောက်ပံ့ကျေးဇူးပြုသော အကြောင်းတရပ်ဟု ဆတ်ဆတ်ကနဲ ယုံကြည်ထိုက်သည်။

အထက်၌ အဆင့်ဆင့် အထပ်ထပ်ဆိုခဲ့သော စီမံကိန်း, စည်းမျဉ်း, ဥပဒေများနှင့် အညီ တိပိဋကပါဠိမြန်မာအဘိဓာန်လုပ်ငန်းကို အောက်ပါအတိုင်း အခဏ်း ၉-ခဏ်း, အဆင့် ၉-ဆင့် ခွဲသန့်၍ ရေးသား ပြုစု ဆောင်ရွက် လုပ်ကိုင်အပ်သည်။

၁။ သံဂဟရဏ=စာစုခြင်း၊
၂။ လိပိကရဏ=စာပြုခြင်း၊
၃။ ဂန္ထကရဏ=ကျမ်းပြုခြင်း၊
၄။ ပဋိဝိသောဓန=တဖန်သုတ်သင်ခြင်း။
၅။ ဝိဝေစန=စိစစ်, ဆွေးနွေး, ဝေဖန်, ဆုံးဖြတ်ခြင်း။
၆။ ဩသာနသောဓန=အဆုံးသတ် သုတ်သင်ခြင်း၊
၇။ နိဒဿနမုဒ္ဒက်န=စာမူကြမ်းရိုက်နှိပ်ခြင်း၊
၈။ ဝဏ္ဏသောဓန=စာတည်းဖြတ်ခြင်း၊
၉။ အန္တိမမုဒ္ဒက်န=အပြီးသတ်ရိုက်နှိပ်ခြင်း။

၁။ စာစုဆရာများက စာအုပ်ခွဲဝေလျက် မိမိတို့တာဝန်ကျရာ စာအုပ်များမှ ပုဒ်သစ်ဟု ထင်ရသည်များကို ထုတ်နုတ်၍ ကတ္တူကပ်ပြားပေါ်၌ ရေးသား စုဆောင်းအပ်သည်။

အောက်ပါဆရာတော် ၉-ပါးက အဋ္ဌကထာနှင့် ဋီကာများမှ "အ"အက္ခရာ အစပြုသော ပုဒ်များကို ထုတ်နုတ်စုဆောင်းမှု၌ ကူညီဆောင်ရွက်သည်။

(၁) ဦးနန္ဒဝံသ, သာသနဓဇသိရီပဝရဓမ္မာစရိယ, နယားကျောင်း, ဒက္ခိဏာရာမ ဘုရားကြီးတိုက်, မန္တလေး။
(၂) ဦးကုသလပဏ္ဍိတ, သာသနဓဇသိရီပဝရဓမ္မာစရိယ, ရွှေကျောင်း, မြင်းဝန်တိုက်, မန္တလေး။
(၃) ဦးဇောတိက, သာသနဓဇသိရီပဝရဓမ္မာစရိယ, ကြံခင်းကျောင်း, ဒက္ခိဏာရာမ ဘုရားကြီးတိုက်, မန္တလေး။
(၄) ဦးနန္ဒိယ, သာသနဓဇသိရီပဝရဓမ္မာစရိယ, မဟာအေးမြို့ကြီးကျောင်း, စစ်ကိုင်း တောင်ရိုး။
(၅) ဦးတိလောက, သာသနဓဇသိရီပဝရဓမ္မာစရိယ, ရွှေဝါဝင်းကျောင်း, မြတောင် တိုက်, မန္တလေး။
(၆) ဦးတိက္ခာစာရ, သာသနဓဇသိရီပဝရဓမ္မာစရိယ, ဒေါနဖြူ အုဋ်ကျောင်း, ဒက္ခိဏာ-ရာမ ဘုရားကြီးတိုက်, မန္တလေး။
(၇) ဦးဓမ္မာနန္ဒ, သာသနဓဇသိရီပဝရဓမ္မာစရိယ, ပတ္တပိုဏ်တိုက်, ရေစကြို။
(၈) ဦးသောဘန, မူလဓမ္မာစရိယ, ပြည်လုံးချမ်းသာတိုက်, ကြည့်မြင်တိုင်, ရန်ကုန်။
(၉) ဦးသာဓိန, မူလဓမ္မာစရိယ, ရွှေကျင်ကျောင်း, ကျောက်မင်းရွာ, မြင်းမူမြို့။

၂။ စာပြုဆရာ ဦးဗိုလ်မောင်နှင့် ဦးတင်ဇွေတို့က အက္ခရာစဉ်အတိုင်း ရရှိသောပုဒ်များကို လိင်, ဓာတ်, ပစ္စည်း, ဝိဂ္ဂဟ် စသည်ဖြင့် ကျမ်းဂန်လာအတိုင်း ရှင်းပြ၍ အနက်မြန်မာပြန်ပြီးလျှင် သာဓကပါဠိ အဖွင့်သံဝဏ္ဏနာတို့ဖြင့်လည်း ပြည့်စုံစေလျက် ရေးသား ပြုစုကြသည်။

အောက်ပါဆရာတော် ၂-ပါးသည် ၁၃၂၃-ခု သီတင်းကျွတ်လဆန်း ၁၀-ရက် (၂၃-၁၀-၆၁) နေ့မှ အစပြု၍ ရေးသားပြုစုမှု၌ ပါဝင်ဆောင်ရွက်သည်။

ဦးကောသလ္လ, သာသနဓဇသိရီပဝရဓမ္မာစရိယ, ကိုင်းကုန်းကျောင်းတိုက်, ခရမ်းမြို့။

ဦးဝိလာသဂ္ဂ, သာသနဓဇသိရီပဝရဓမ္မာစရိယ, စကြာရန်အောင်တိုက်, မျှော်ပုံမြို့။

၃။ ယင်းသို့ ရေးသား, ပြုစုအပ်သော အဘိဓာန်ပုဒ်များနှင့် မိမိကိုယ်တိုင် ရေးသား,ပြုစုအပ်သော အဘိဓာန်ပုဒ်များကို ပါဠိဗျာကရုဏ်းကျမ်း, သက္ကတဗျာကရုဏ်းကျမ်း အစီအရင်တို့ဖြင့်၎င်း၊ သဒ္ဒတ္တ, အဓိပ္ပါယတ္တ, ဝေါဟာရတ္တ အနက်တို့ဖြင့်၎င်း၊ အဋ္ဌကထာ, ဋီကာ, ဂဏ္ဌိ တို့နှင့် နှိုင်းညှိရှိသော နာနာနယ, ဝိနိစ္ဆယတို့ဖြင့်၎င်း တန်ဆာဆင်ပြီးလျှင် ကမ္ဘာ့သုံး အဘိဓာန်ကြီးများ၏ ဂုဏ်အင်္ဂါနှင့် ကောင်းစွာပြည့်စုံသော အဘိဓာန်ကျမ်းပြုတာဝန်ကို စစ်ကိုင်းတောင်ရိုး, မဟာဝိဇ္ဇောဒယချောင်, ပရိယတ္တိသာသနဟိတဓမ္မာစရိယ, အဓိုရဓမ္မာစရိယ, ဘာသန္တရကောဝိဒ, အရှင်သီလာနန္ဒ-က ဆောင်ရွက်သည်။

၄။ ယင်းသို့ ပြုစုစီရင်အပ်ပြီးသော အဘိဓာန်ကျမ်းဝင် ပုဒ်များကို အတွင်းရေးမှူး ဦးဗိုလ်မောင်က ကြည့်ရှုကြပ်မတ်၍ လက်နှိပ်စက်ဖြင့် ရိုက်နှိပ်ပြီးလျှင် ပဋိဝိသောဓကအဖွဲ့သို့ ပို့အပ်သည်။ အဖွဲ့ဝင် ပုဂ္ဂိုလ်များက ထပ်မံသုံသပ်ပြင်ဆင်၍ အဘိဓာန်ဌာနသို့ ပြန်ပို့အပ်သည်။

၅။ ပဋိဝိသောဓက အဖွဲ့ဝင်ပုဂ္ဂိုလ်များ၏ တပန်ထပ်မံ၍ သုံးသပ် ပြင်ဆင်အပ်သော စာမူများ အချင်းချင်း ကွဲပြားခြားနား၍ ညှိနှိုင်းဖွယ်များရှိသော်၎င်း, အသစ် ထပ်မံ ရရှိသော ပုဒ်များ အတွက် စဉ်းစား, သုံးသပ်ဖွယ်ရှိသော်၎င်း (၁) ဆရာတော် ဦးဉာဏုတ္တရ (၂) မဟာစည်ဆရာတော် (၃) ဆရာတော်ဦးဝိသုဒ္ဓ (၄) အရှင်သီလာနန္ဒတို့ ပါဝင်သော လစဉ်အစည်းအဝေး ဝိဝေစနအခန်း၌ ထိုပြဿနာများကို စိစစ်, ဆွေးနွေး, ဝေဖန်,ဆုံးဖြတ်အပ်သည်။

ထိုအစည်းအဝေးမျိုး၌ အောက်ပါပုဂ္ဂိုလ်များလည်း အခွင့်, အာဏာနှင့် တာဝန်ဝတ္တရားအားလျော်စွာ အမြဲမပြတ် တက်ရောက် ပါဝင်လေ့ရှိသည်။

(၁) နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ဥက္ကဋ္ဌကြီး, သတိုးသီရိသုဓမ္မ, အဂ္ဂမဟာသရေစည်သူ, ဒေါက်တာ ဦးသိမ်းမောင်၊

(၂) အကျိုးဆောင်စာချီ, သတိုးမဟာသရေစည်သူ, တရားလွှတ်တော်ချုပ်တရားဝန်ကြီးဟောင်း, ဦးချန်ထွန်း။

(၃) စာပြင်မှူးချုပ်, မဟာပညာဗလ, ဆရာဉာဏ်၊

(၄) ဒုတိယအယ်ဒီတာချုပ်, ပညာဗလ, ဦးဘမို၊

(၅) ဦးဟုတ်စိန်, ဘီ-အေ, ဘီ-အယ်လ်, အဘိဓာန်ကျမ်းပြု၊

(၆) အဘိဓာန်ဌာနမှူးဟောင်း, ဝဏ္ဏကျော်ထင်, ဦးမောင်မောင်ကလေး။

၆။ ယင်း အခန်း, အဆင့် ၅-၌ စိစစ်, ဆွေးနွေး, ဝေဖန် ဆုံးဖြတ်ခြင်း (ဝိဝေစန) နှင့်တကွ ပဋိဝိသောဓန-မှု အားလုံးကို ဩသာနသောဓကအဖွဲ့သို့ ပို့၍ အဖွဲ့ဝင်များက နောက်ဆုံး သုံးသပ်ခြင်း (ဩသာနသောဓန) ကိစ္စကို ဆောင်ရွက်ပြီး အဘိဓာန်ဌာနသို့ ပြန်ပို့သည်။

ထိုတွင် ဝိဝေစနပြုပြီးအချက်များမှ တပါး ဩဿာနသောဓနမှ အားလုံးကို သုံးသပ်ဆင်ခြင်ပြင်ဆင်၊ နှိုင်းညှိ၍ တခုတည်းသော ဩဿာနသောဓနမူအဖြစ် ပေါင်းစုစီရင်၊ အတည်ပြုပြဋ္ဌာန်းခြင်းကို ဆရာတော် ဦးဉာဏုတ္တရက ဆောင်ရွက်အပ်သည်[၁]။

၇။ ယင်း အတည်ပြုပြဋ္ဌာန်းပြီးသော နောက်ဆုံးစာမူ (ဩဿာနသောဓပေယျပတ္တ) ကို အတွင်းရေးမှူး ဦးဗိုလ်မောင်က ကြည့်ရှုကြပ်မ၍ လက်နှိပ်စက်ဖြင့် ရိုက်နှိပ်စေပြီး ပုံနှိပ်တိုက်သို့ ပို့အပ်သည်။

၈။ ပုံနှိပ်တိုက်၌ စာပြင်မှူးချုပ် မဟာပညာဗလ ဆရာဉာဏ်နှင့် ဦးလှမြင့် စသော စာပြင်ဆရာများက ကြည့်ရှုကြပ်မ ရိုက်နှိပ်၍ ပြန်ပို့အပ်သော နောက်ဆုံး စာမူကြမ်း (အန္တိမနိဒဿန)ကို ဆရာတော်ဦးဉာဏုတ္တရ၊ ဆရာတော် ဦးဝိသုဒ္ဓ၊ အရှင်သီလာနန္ဒတို့က လက်ခံစာမူများ၊ အကိုးသာ ဓကပြုထားသော သက်ဆိုင်ရာစာအုပ်များနှင့် တိုက်ဆိုင်၊ တည်းဖြတ်ကြသည်၊ ဦးနန္ဒမာလာက ဥပတ္ထမ္ဘကအဖြစ် ပါဝင်ဆောင်ရွက်သည်။

၉။ ယင်းသည့်နောက် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ပုံနှိပ်တိုက်သို့ ပို့၍ ဆိုခဲ့သည့် စာပြင်မှူးချုပ်နှင့် စာပြင်ဆရာများက အပြီးသတ်ရိုက်နှိပ်အပ်သည်။

ဆိုအပ်ခဲ့ပြီးသည့်အတိုင်း ဤအဘိဓာန်ကျမ်း ရေးသားပြုစုရာ၌ အခက်၊ အဆင့်အားလျော်စွာ ပါဝင်သော ပုဂ္ဂိုလ်တိုင်း မိမိတို့တာဝန်ကို ကျေပွန်စွာ လုပ်ကိုင် ဆောင်ရွက်သည်သာဖြစ်သည်။

ထိုတွင် အောက်ပါပုဂ္ဂိုလ်များသည် မိမိတို့၏ တာဝန်ကို လက်ခံသော ရက် လ နှစ်မှ စ၍ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အဘိဓာန်ဌာန၌ မိမိတို့ပါဝင်သော အခက်းကဏ္ဍအားလျော်စွာ ဆောင်ရွက်ဖွယ် တာဝန် ဝတ္တရားတို့ကို အစဉ်အမြဲ ကြိုးကြိုး ပမ်းပမ်း ကျေကျေ ပွန်ပွန် ဆောင်ရွက်ကြသည်။

(၁) ဆရာတော်ဦးဉာဏုတ္တရ၊ ဩဿာနသောဓနဌာန၊
(၂) ဦးဣန္ဒဝံသ ⎫
(၃) ဦးနန္ဒဝံသ ⎭ ပဋိဝိသောဓနဌာန၊
(၄) အရှင်သီလာနန္ဒ၊ ဂန္ထကရဏဌာန၊
(၅) ဦးကောသလ္လ ⎫
(၆) ဦးဝိလာသဂ္ဂ ⎭ လိပိကရဏဌာန၊
(၇) ဦးနန္ဒမာလာ၊ ပဏ္ဏသောဓနဌာန (ဥပတ္ထမ္ဘက)။

အထူးအားဖြင့်ကား— (၁) ဆရာတော်ဦးဉာဏုတ္တရသည် အဘိဓာန်ဌာနတွင် လိုအပ်သော အရာဌာနတိုင်း၌ တာဝန်ယူ၍ အကြီးအမှူး ဦးစီးဦးကိုင်အဖြစ် စီမံဆောင်ရွက်သည်။

၂။ မဟာစည်ဆရာတော်သည် ပဒ-ဗျဉ္ဇန-အတ္ထ ဝိနိစ္ဆယ စသည်နှင့် စပ်လျဉ်းသော ဂမ္ဘီရ၊ နိပုဏ ပြဿနာများ၌ တိတိကျကျ၊ ပြတ်ပြတ်သားသား၊ ပြည့်ပြည့်စုံစုံ နည်းလမ်းညွှန်ပြသည်။

(၃) ဆရာတော်ဦးဝိသုဒ္ဓသည် ဌာနအုပ်ချုပ်ရေးနှင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့နှင့် ဆက်သွယ်ရေးတို့၌ အမျိုးမျိုးသော ကိစ္စများကို တာဝန်ယူ၍ ဆောင်ရွက်သည်။

---

၁။ ၁၃၂၁-ခုဟဲ့၊ ဆုတ်၊ ၆ (၁၇-၂-၆၀)နေ့စွဲ၊ ဝေန်၊ စဉ်၊ ၂၉၊ ၃၊ (ဝ)။

(၄) အရှင်သီလာနန္ဒသည် ပုလဲလုံးကို သီကုံး၍ ပုလဲကုံးဖြစ်အောင်ပြုသကဲ့သို့ အဘိဓာန်ပုဒ်တို့ကို စုပေါင်းစီတန်း၍ အဘိဓာန်ကျမ်းဖြစ်အောင် ပြုစုသည်။

ထို့ကြောင့် ထိုဆရာတော်များကို အောက်ပါအတိုင်း အသိအမှတ် ပြုအပ်သည်။

၁။ ဆရာတော် ဦးဉာဏုတ္တရ, ပဓာနနာယက၊
၂။ မဟာစည်ဆရာတော်, ပဓာနဥပဒေသက၊
၃။ ဆရာတော်ဦးဝိသုဒ္ဓ, ပဓာနဝိဓာယက၊
၄။ အရှင်သီလာနန္ဒာဘိဝံသ, ပဓာနဂန္ထကာရက။

ဤသို့လျှင် ဤ တိပိဋက ပါဠိ-မြန်မာအဘိဓာန် ကျမ်းကြီး (အတွဲ-၁) သည် ဤ နိဒါန်းအခန်း ၄-၌ ဖော်ပြခဲ့သော ဆရာတော်သံဃာတော်တို့နှင့် လူပုဂ္ဂိုလ်တို့၏ မိမိတို့ အစွမ်းအလျောက် မနေမနား ကြိုးစားအားထုတ်မှုတို့ကြောင့် ယခုအခါတွင် ခမ်းနားထယ်ဝါစွာ ထွက်ပေါ်လာပေပြီ။

အထက်ပါ ပုဂ္ဂိုလ်များမှတပါး ဤ အဘိဓာန်ကျမ်းကြီးကို ရေးသားပြုစု တည်းဖြတ်နေစဉ်အတွင်း အကြံပေးခြင်း, ဆွေးနွေးခြင်း, ဝေဖန်ခြင်းတို့ဖြင့် ကူညီခဲ့ကြသည့် များစွာသော ပညာရှင်တို့အားလည်း ကျေးဇူး အထူးတင်ရှိကြောင်း ဤနိဒါန်းတွင် မှတ်တမ်းတင်အပ်ပေသည်။

ညဥ့်အခါ၌ အလင်းရောင်ကို တောင့်တလျက်ရှိကြသည့် ကမ္ဘာဦး လူသားတို့၏ အလိုဆန္ဒကို ဖြည့်ခြင်းငှါ အရှေ့လောကဓာတ်မှ ထွက်ပေါ်လာသော လမင်းကြီးအလား ပါဠိဘာသာကို လေ့လာလိုက်စားလျက် ရှိကြသော ရဟန်းပုဂ္ဂိုလ်, လူပုဂ္ဂိုလ်တို့၏ လိုအင်ဆန္ဒ အဝဝတို့ကို ကျေနပ်စွာ ဖြည့်ခြင်းငှါ ဤအဘိဓာန်ကျမ်းကြီးသည်လည်း ပြည်ထောင်စု မြန်မာနိုင်ငံ ဗုဒ္ဓသာသနာအဖွဲ့မှ ထွန်းပေါ်လာခဲ့ပေပြီ။ ကမ္ဘာဦးအခါ ထွက်ပေါ်လာသော လမင်းကြီးကို ကမ္ဘာဦးလူတို့က ဝမ်းသာအားရ ကြိုဆိုကြသကဲ့သို့ အခက်အခဲအမျိုးမျိုးကို ဖြတ်ကျော်၍ ထွက်ပေါ်ခဲ့ရသော ဤ အဘိဓာန်ကျမ်းကြီးကိုလည်း ပါဠိပညာရှင်အပေါင်းက နှစ်ထောင်းအားရဝမ်းမြောက်လှစွာဖြင့် ကြိုဆိုလက်ခံကြလိမ့်မည်ဟု မြော်လင့်ရပေသည်။

ကမ္ဘာဦးမှစ၍ ယနေ့တိုင် ထွက်ပေါ်လျက်ရှိခဲ့သော လဝန်း၏ မျက်နှာပြင်သည် အလုံးစုံအညစ်အကြေး ကင်းစင်ခြင်းမရှိပဲ အစွန်းအထင်းနှင့် တူသည့် အမဲကွက်ကလေးမှား ထင်လျက်ရှိပေသည်၊ ထို့အတူပင် ဤအဘိဓာန်ကျမ်းကြီးတွင်လည်း ပြုစုရေးသားတည်းဖြတ်သူများက မည်မျှပင် အားသွန်ခွန်စိုက် ကြိုးပမ်းကြသော်လည်း အမဲကွက်ကလေးများနှင့်တူသည့် အမှားအယွင်းတို့ကား ကျန်ရှိပေရာသည်။ ယင်းသို့ ရှိရခြင်းမှာကား လောကသဘာဝအရပင် ဖြစ်ပေသည်။ ပြုစု ရေးသား တည်းဖြတ်သူများသည် ပဋိသမ္ဘိဒါဉာဏ်ကို ရရှိပြီးသူများ မဟုတ်ကြပေ၊ အမှားအယွင်းကို မပြုတော့သည့် မြင့်မားလှသော အဆင့်အတန်းသို့ ရောက်ရှိနေသူများလည်း မဟုတ်ကြပေ။ မိမိ မိမိတို့၏ သတိ, ဝီရိယ, ပညာ, ဗဟုသုတအားလျော်စွာ အမှားကင်းနိုင်ရန် အစွမ်းကုန်ကြိုးပမ်းကြပါလျက် အဘိဓာန်ရေးသားမှုလုပ်ငန်းကြီး၏ သမုဒ္ဒရာကဲ့သို့အပြောကျယ်မှု, ပြုစုရေးသားသူတို့၏ ရံခါ သတိချွတ်ယွင်းမှု, ရံခါ အသိဉာဏ်မကျယ်ပြန့်မှုနှင့် ရံခါတွင် အမှားကိုပင် အမှန်ထင်တတ်သည့် ဝိပလ္လာသ သဘာဝကို မကျော်လွှန်နိုင်မှုတို့ကြောင့် အမှားအယွင်း အချွတ်အချော် အတိမ်းအယိမ်းတို့ မလွဲမသွေ ကျန်ပင် ရှိကြပေမည်၊ ထို မှားယွင်းချက်တို့ကိုကား ကျမ်းစာကြည့်ရှုသူပညာရှင်တို့က ပြင်ဆင်ဖတ်ရှုကြလိမ့်မည်ဟု မြော်လင့်ရပေသည်။

# နိဒါန်း

ဤ တိပိဋက ပါဠိ-မြန်မာအဘိဓာန်ကျမ်းကြီး ထွက်ပေါ်လာရခြင်းသည် ပိဋကသုံးပုံဆိုင်ရာ ပါဠိဘာသာနှင့် ပါဠိစာပေကို လေ့လာလိုက်စားကြသော ပုဂ္ဂိုလ်တို့အား အများဆုံး အကျိုးပြုနိုင်ရေးအတွက်ဖြစ်ပေရာ ဤအဘိဓာန်ကျမ်းကြီးကို ကြည့်ရှုရ၍ တစုံတယောက်သောပုဂ္ဂိုလ်သည် ပါဠိဘာသာဆိုင်ရာ အသိဉာဏ်တိုးပွါးမှုကို အနည်းငယ်မျှ ရသည်ဆိုပါလျှင် ဤအဘိဓာန်ကျမ်းကြီးအတွက် အားထုတ်ကြိုးပမ်းရကျိုး နပ်ပြီဟု ယူဆမည် ဖြစ်ပါသတည်း။

ဇမ္ဗူဒီပကျောင်းဆောင်၊
သီရိမင်္ဂလာကုန်းမြေ၊
ကမ္ဘာအေး၊
ရန်ကုန်။
၁၃၂၅-ခု၊ ပြာသိုလဆန်း ၃-ရက်၊ (၁၇-၁၂-၆၃)

အဘိဓာန်ဝန်ဆောင်များ

## ၅

## ကျမ်းပြုပုံ အခြင်းအရာနှင့်

## ကျမ်းစာရှုကြည့်နည်း

ဤ တိပိဋက ပါဠိ မြန်မာ အဘိဓာန်ကျမ်းကြီးကို ပြုစုရာတွင် မည်သို့သော စီမံကိန်းတို့ကို ချမှတ်လိုက်နာ၍ မည်သို့ရေးသားခဲ့ကြပုံတို့ကို ဤနိဒါန်း အခန်း ၄ တွင် အပြည့်အစုံ ဖော်ပြခဲ့ပြီး ပေပြီ ယခုအခါ စီစဉ်ရေးသားထားပုံနှင့်ပတ်သက်၍ သင်္ကေတရည်ညွှန်းချက်နှင့်တကွ စာဖတ်သူတို့ ကြိုတင်၍ သိသင့်သိထိုက်သော အချက်အလက်များကို ဖော်ပြလိုပေသည်။

**အဘိဓာန်ဝင်တည်ပုဒ်**

ဤ တိပိဋကပါဠိမြန်မာအဘိဓာန်ကျမ်းကြီးတွင် အဘိဓာန်ဝင် တည်ပုဒ်တို့ကို မျက်နှာမဲ စာလုံး တို့ဖြင့် ပြထားသည်၊ ထိုသို့ပြရာတွင် ရုပ်သဏ္ဍာန်တူ၍ ဓာတ်ပစ္စည်းစသည် မတူသောပုဒ်များကို သီးခြားခွဲ၍ စာလုံး၏လက်ျာအထက်ဖက်၌ ၁,၂-စသည် ဂဏန်းအမှတ်ပြ၍ ထည့်သွင်းထားသည်။ ဥပမာ—အံသ[၁], အံသ[၂], အံသ[၃]။ အကိဉ္စန[၁], အကိဉ္စန[၂]။ အက္ခ[၁], အက္ခ[၂], အက္ခ[၃], အက္ခ[၄], အက္ခ[၅]။ အဂ္ဂဟိတ[၁], အဂ္ဂဟိတ[၂]။ အင္ဂ[၁], အင္ဂ[၂]။ အဃ[၁], အဃ[၂]။ အန္ဓ[၁], အန္ဓ[၂], အန္ဓ[၃] စသည်။

မှုကွဲရှိသောပုဒ်တို့၌ မှုကွဲပါ၍သည် အဘိဓာန်ဝင်ပုဒ်နှင့် များစွာမထူးခြားလျှင် ယင်းမှုကွဲ ပုဒ်ကိုပါ အဘိဓာန်ဝင်ပုဒ်နှင့် တွဲဖက်၍ပြထားသည်၊ ထိုသို့ပြထားရာတွင် မူရင်း မူကွဲ ပါ၍ ၂-ခုစလုံး အသင့်ပင်ဖြစ်၍ ပါဠိတော်, အဋ္ဌကထာ, ဋီကာတို့တွင် ၎င်းပါ၍ ၂-မျိုးသုံးကိုပင် တွေ့ရှိနိုင်သည် ဟု ယူရန်ဖြစ်သည်၊ ပုံစံထုတ်ပြသော ပါဠိဝါကျတို့၌ကား ၎င်း ဝါကျပါသည့် ကျမ်းစာ၌ တွေ့ရှိ ရသည့် မူအတိုင်းသာ ထည့်သွင်းထားသည်။ ဥပမာ—အံသိ=အံသီ။ အက္ခဗဒ္ဓ=အက္ခဗန္ဓ။ အက္ခောဘဏ္ဍ=အက္ခောဘ။ အက္ခောဘဏီ (နီ)။ အင်္ဂနပ္ပဝေ(ဏီ)ဏီ။ အင်္ဂုလိ=အင်္ဂုလီ။ အဇ္ဇု (ဇ္ဇူ)ပက္ကမ-စသည်။

အဘိဓာန်ဝင်ပုဒ်နှင့် မူကွဲပုဒ်တို့ များစွာခြားနားရာ၌ကား မူကွဲပုဒ်ကို သီးခြား အဘိဓာန် ဝင်ပုဒ်အဖြစ် ပြထားသည်။ ဥပမာ— အဋ္ဌတိ-၌ သီ-သျာ မူကွဲ။ ထိုသို့ပြရာတွင်လည်း ရှံခါတွင် မူကွဲ-ဟု ဤ အဘိဓာန်တွင် ပြထားသောပုဒ်ကို ရိုက်နှိပ်ပြီး ဆဋ္ဌသင်္ဂါယနာမူ စာအုပ်များ၌ မူကွဲ အဖြစ် ပြထားသည်ကို တွေ့ရမည်မဟုတ်ပေ။ ဥပမာ— အဋ္ဌတိ[၂]။ ယင်းသို့မတွေ့ရသော်လည်း ၎င်းပုဒ်တို့သည် ညွှန်းဆိုအပ်သော ဆိုင်ရာမူတို့၌ ဧကန် ပါရှိသည်ဟု ယုံကြည်စွာ မှတ်အပ်ပေသည်။ ဆဋ္ဌသင်္ဂါယနာမူ ကျမ်းစာအုပ်တို့၌ မူကွဲပြရာတွင် ရှိသမျှကိုပြသည်မဟုတ်ပဲ မူကွဲပြသင့်သည်ဟု ယူဆသော ပုဒ်များကိုသာ ဩဿနသောဓက ဆရာတော်တို့က မူကွဲအဖြစ်ဖြင့် အောက်ခြေတွင် ပြခဲ့ကြသည်ကိုလည်း သတိမူသင့်ပေသည်။

လိုင် ၃-ပါး ဆက်ဆံသော နာမ်ပုဒ်များ၌ ဝိဘတ်ပစ္စည်း မပါသော မူလပုဒ်ကိုသာ အဘိဓာန်ဝင်ပုဒ်အဖြစ် ထည့်သွင်းထားသည်။ ဝိဘတ်လိုင်ရုပ်ကို ရှာလိုလျှင် ၎င်းမူလပုဒ်မှာပင် ရှာရန် ဖြစ်သည်။ ဝိဘတ်ပစ္စည်းသက်သဖြင့် ရုပ်ပြောင်းလဲလာသော ပုဒ်များကိုလည်း [ ] ဤ ကွင်းအတွင်းဝယ် မျက်နှာမဲစာလုံးဖြင့် "ထိ-၌ အက္ကမန္တီ" စသည်ဖြင့် ပြထားသည်။ ဥပမာ— အက္ကမန္တ, အက္ကောသယန္တ, အဂ္ဂုပါသက, အစ္ဆောဒက, အဇေန, အဓမ္မဝါဒီ-စသည်။

### ကြိယာပုဒ်များ

အာချာတ်ကြိယာပုဒ်များကို ပြရာ၌ ဝတ္တမာန်ဝိဘတ်, ပရဿပုဒ်, ပဌမပုရိသ်, ဧကဝစ် တိဝိဘတ်ဆုံးသောပုဒ်ကိုသာ အဘိဓာန်ဝင်ပုဒ်၌ ပြဆိုထားသည်။ ဥပမာ – အကြောသတိ-ပုဒ်။ ၎င်းပုဒ်၏ အခြားဝိဘတ်များဖြင့်ပြီးသော ရုပ်များကိုကား ၎င်းပုဒ်၌ပင် ထည့်သွင်း၍ မျက်နှာမဲ့ စာလုံးများဖြင့် ပြထားသည်။ ရိုးရိုးရုပ်ထက်ထူးသော ရုပ်များကိုကား အဘိဓာန်ဝင်ပုဒ်အဖြစ် ထည့်သွင်း၍ သက်ဆိုင်ရာ ကြိယာပုဒ်ကြည့်ဟု ညွှန်ပြထားသည်။ ဥပမာ - အကြောစ္ဆိ-ပုဒ်ကို ကြည့်လျှင် ၎င်းပုဒ်၌ အကြောသတိ-ပုဒ်ကို ညွှန်ကြားသည်ကို တွေ့ရသည်။

ကြိယာပုဒ်တို့၏ အစဉ်ကိုလည်း ဝတ္တမာန်စသော ဝိဘတ်စဉ်အတိုင်း စီစဉ်ထည့်သွင်းထားသည်။ ယင်းသို့ ထည့်သွင်းရာ၌လည်း သဒ္ဒါကျမ်းများ၌ကဲ့သို့ ဝိဘတ်စုံအောင်မပြပဲ ပါဠိ,အဋ္ဌကထာ, ဋီကာ, အနုဋီကာတို့၌ ရှာဖွေတွေ့ရှိရသော ရုပ်များကိုသာ ပြထားသည်။ အာချာတ်ဖြင့်ပြီးသော အတ္တ-ကြိယာ၏ ရုပ်များကို ပြရာ၌ကား ဤ ကြိယာ၏ ရုပ်များသည် ထူးခြားသောကြောင့် အကိုးသာဓကကို အတော်များများ ပြထားသည်။ ယင်းသို့ ပြခြင်းကား ပါဠိ သဒ္ဒါကို လေ့လာသူ ပညာရှင်တို့ အလွယ်တကူ ထုတ်နုတ်သုံးစွဲနိုင်ရန် ရည်သန်၍ ပြထားခြင်း ဖြစ်ပေသည်။

မာန, အန္တ, တုံ, တုန, တွာန, တွာ-စသည် အဆုံးရှိသော ကိတ်ကြိယာများကိုလည်း သီးခြား အဘိဓာန်ဝင်ပုဒ်များအဖြစ် ထည့်သွင်း ပြဆိုထားသည်။

### ဥပသာရပုဒ်နှင့် နိပါတ်ပုဒ်များ

ဥပသာရပုဒ်များကို ပြရာ၌ [ ] ဤကွင်းအတွင်း၌ ပကတိ ပစ္စယ ဝေဖန်ထားသည်တို့ကို တွေ့ရမည်ဖြစ်သည်။

“ရုဠှီချာထံ နိပါတဉ္စ-ပသဂ္ဂါလပနံ တထာ၊
သဗ္ဗနာမန္တိမေတေသု၊ န ကတော ဝိဂ္ဂဟော ဆသု”—

ဟု သဒ္ဒါကျမ်းတို့၌ အဆိုရှိပါလျက် ၎င်းတို့ကို ခွဲတပ်ပစ္စည်းခွဲ၍ ပြခြင်းကား သုတတိုးပွါးစေရန် ရည်သန်၍ ဝါစပ္ပတိ, ထောမနိဓိ-စသော သက္ကတအဘိဓာန်တို့၌ လာသည့်အတိုင်း ထည့်သွင်းထားသည်ဟု ယူဆစေလိုသည်။ဥပသာရပုဒ်, နိပါတ်ပုဒ်တို့၏ အနက်တို့ကို ပြရာ၌လည်း ရူပသိဒ္ဓိ,သဒ္ဒနီတိနှင့် အဘိဓာနပ္ပဒီပိကာ-တို့၌ လာသောအနက်တို့ကို မှတည်ပြီး အဋ္ဌကထာ,ဋီကာတို့၌ တွေ့ရသော အနက်တို့ကိုပါ ရှာဖွေ ထည့်သွင်း၍ အကိုးသာဓကများနှင့်တကွ ပြထားသည်။

### ( ) ထက်သည်းကွင်း

အဘိဓာန်ဝင်ပုဒ်၏ နောက်၌ ( ) ဤကွင်းဖြင့် ပိုင်းခြား၍ အဘိဓာန်ဝင်ပုဒ်၏ အမျိုးအစားကို ပြထားသည်။ အဘိဓာန်ဝင်ပုဒ်သည် နာမ်ပုဒ်ဖြစ်လျှင်ကား နာမ်ပုဒ်ဟု အထူးမပြတော့ပဲ ၎င်း၏လိင်ကိုသာ (ပု၊ ထီ) စသည်ဖြင့် ပြထားသည်။

မြန်မာနက်နှင့် သာဓကကို ပြရာတို့တွင်လည်း ( ) ဤကွင်းများကို တွေ့ရပေမည်။ ၎င်းကွင်းများကိုကား ရံခါအဓိပ္ပါယ်ဘူ စကားရပ်ကိုဖြင့် (ဥပမာ—အ၁-၌ ပဋိသေဓ (တားမြစ်

ခြင်းအနက်ရှိသော) 'အ'), ရံခါ အပိုထည့်အပ်သော စကားရပ်ကိုင်း (ဥပမာ – အကမ္မ (၈) အနက်), ရံခါ အရကောက်ကို ပြသော စကားရပ်ကိုင်း (ဥပမာ – အကတ္တုက (၈) အနက်), ရံခါ ပုဒ်ကို ညွှန်းရာတွင် ၎င်းပုဒ်ကို တွေ့ရှိနိုင်မည့်ကျမ်းကိုပါ တပါတည်း ညွှန်းရာ၌ ကျမ်းညွှန်းစကားရပ်ကိုင်း (ဥပမာ – အံသ, အကဏိက), ရံခါ အဓိပ္ပါယ်အားဖြင့် သက်ဆိုင်ရာ ကျမ်းတို့ကို ညွှန်းပြသော စကားရပ်ကိုင်း (ဥပမာ – အကျွေယျ), ရံခါ သရုပ်စသည့် အထူးမှတ်သားဖွယ်ကို ညွှန်းပြသော စကားရပ်ကိုင်း (ဥပမာ – အကပ္ပိယမံသ) ပြလို၍ သုံးထားပေသည်။

[ ] ထောင့်ကွင်း

( ) ဤကွင်း၏နောက်တွင် [ ] ဤကွင်းဖြင့် ပိုင်းခြား၍ အဘိဓာန်ဝင်ပုဒ်၏ ပကတိပစ္စယဝိဘာဂ-ခေါ် ဓာတ်ပစ္စည်း, ပုဒ်ပစ္စည်း စသည် ခွဲခြားဝေဖန်မှုကို ပြထားသည်၊ ၎င်းပြင် ယင်းပုဒ်နှင့် ပတ်သက်၍ သဒ္ဒါဆိုင်ရာမှတ်သားဖွယ်များ ရှိလျှင်လည်း ဤကွင်းအတွင်းမှာပင် ဆက်လက်ပြဆိုထားသည်. ယင်းသို့ ပြဆိုထားရာတွင် စာသားကျဉ်းနိုင်သမျှ ကျဉ်းစေရန် ရည်သန်လျက် အချို့အရာတွင် သက်ဆိုင်ရာကျမ်း၏ ကျမ်းညွှန်းဂဏန်းကိုသာ ပြထား၍ အချို့အရာ၌ကား ယင်းကျမ်းတို့မှ အကိုးသာဓကပါဠိတို့ကိုပါ ပြထားသည်။ ဥပမာ — အက္ခရ, အကျွေဘိဏီ, အဂ္ဂ, အဂ္ဂိ, အဂ္ဂိနိ, အဋ္ဌ, အဃ, အင်္ကုသ, အင်္ဂ, အင်္ဂ, အင်္ဂ-စသည်။

ယင်းပုဒ်တို့တွင် အချို့ပုဒ်တို့၌ သိသင့်သိထိုက်သည်တို့ကို ပြည့်စုံစွာ သိရှိနိုင်စေရန် အတန်ငယ် ရှည်သော ရှင်းလင်းချက်များလည်း ပါဝင်သည်။ ဤကွင်းအတွင်းရှိ စကားရပ်တို့မှာ ဓာတ်ပစ္စည်း စသော ပုဒ်၏အရင်းအမြစ်ကို စိစစ်ခြင်းစသည်၌ စိတ်ပါဝင်စားသော ပညာရှင်တို့အတွက်သာ ဖြစ်ပေရာ မြန်မာအနက်ကိုသာ ကြည့်ရှုလိုသူတို့သည် ဤကွင်းအတွင်းရှိ စာသားများကို ကျော်၍ အနက်ကိုသာ ကြည့်ရှုသွားရန် ဖြစ်သည်။

၎င်းပြင် သက္ကတ, ပြာကြိုဋ် ပုဒ်များနှင့် နှိုင်းယှဉ်၍ ပြလျှင် ဓာတ်, ပစ္စည်း, အနက်, အဓိပ္ပါယ် စသည်ကို ပိုမို ရှင်းလင်းလွယ်ကူစွာ နားလည်နိုင်မည်ဟု ယူဆသော ပုဒ်တို့၌ သက္ကတပုဒ်, ပြာကြိုဋ်ပုဒ်များကို ဖြစ်စေ၊ သက္ကတကျမ်း, ပြာကြိုဋ်ကျမ်းများမှ အကိုးအကားများကို ဖြစ်စေ ယှဉ်တွဲ၍ ပြထားသည်။ ဥပမာ—အဇ္ဈာဘာ.ဏီ-စသော ပုဒ်များနှင့် အတိမဋ္ဌာဟက-ပုဒ်စသည်။

ပကတိ ပစ္စယ ဝေဖန်ရာတွင်လည်း ပါဠိ, သက္ကတ, ပြာကြိုဋ် ဗျာကရုဏ်းကျမ်းများနှင့် ၎င်းအဘိဓာန်များ, အဘိဓာန်ဋီကာများ၌ လာသည်တို့ကိုသာ ပြထားသည်။ ၎င်းကျမ်းတို့၌ မလာသော ပကတိပစ္စယခွဲဝေမှုကို အဋ္ဌကထာမတိမျှဖြင့် ပြရသော ပုဒ်တို့၌ကား ပကတိပစ္စယဝိဘာဂ၏ နောက်တွင် (?)ဤအမေးလက္ခဏာကို ထည့်သွင်းထားသည်။ ယင်းသို့ ပြထားသည်ကို တွေ့လျှင် စာရှုသူပညာရှင်တို့ ဆင်ခြင်စဉ်းစား၍ နှစ်သက်မှသာ ယူရန်ဖြစ်ပေသည်။ ဥပမာ— အဒ္ဒုဟလ-ပုဒ်။ ခိုင်လုံယုံကြည်အပ်သည့် အထောက်အထားရှာ၍ မရသေးသော အဋ္ဌကထာမတိမျှဖြင့် ကြံဆလျက် အမျိုးမျိုးဝေဖန်၍ ပြသော်လည်း များစွာအကျိုးသက်ရောက်မည်ဟု မထင်ရသော ပုဒ်တို့၌ကား ပကတိပစ္စယခွဲဝေမှုကို လုံးဝ မပြတော့ပဲ [ ? ] ဤလက္ခဏာကိုသာ ပြထားသည်။ ဥပမာ— အထောဏ-ပုဒ်။

